# သောတာပန်

ဒဂုန်ဦးစန်းငွေ



ဝင်းမော်ဦးစာပေတိုက်
၅၀၁၊ ကုန်သည်လမ်း
ရန်ကုန်မြို့

ဘာသာရေးဆိုင်ရာ စာပေခွင့်ပြုချက်အမှတ်(၁၁၄၄၁)
မျက်နှာဖုံး ပုံနှိပ်ထုတ်ဝေခွင့် ခွင့်ပြုချက်အမှတ်(၃၉၂)

ပထမအကြိမ်

၁၉၇၀ ခု၊ ဇွန်လ

အုပ်ရေ ၂၀၀၀

ရောင်းဈေး ၇-ကျပ်

အဖုံးရိုက် ကာလာမောဝ်ဝင်း

ပုံနှိပ်သူ

ရွှေဟသ်ာပုံနှိပ်တိုက် (၀၁၀၀) အမှတ် ၉၂၊ ၉၃-လမ်း၊ မင်္ဂလာတောင်ညွန့်မြို့နယ်(ရန်ကုန်တိုင်း)တွင် ဦးကျော်ညွန့်က တာဝန်ခံ ပုံနှိပ်သည်။

ထုတ်ဝေသူ

ဒဂုန်စာပေ (၀၁၄၃၄) အမှတ် ၁၄၂၊ (၇) ရပ်ကွက်၊ မင်းရဲကျော်စွာလမ်း၊ တောင်ဥက္ကလာပမြို့မှ ဒဂုန်ဦးစန်းငွေက တာဝန်ခံ ထုတ်ဝေသည်။

# သောတာပန် မာတိကာ

မာတိကာ

# မာတိကာ

မာတိကာ

## သောတာပန် နိဒါန်း

ရပ်ကြည့်၍ အမြတ်မရှိ၊
ထိုးကြည့်မှ အကျိုးရှိမည်၊
ရွှေထိုးလျှင် ရွှေရ၊ ငွေထိုးလျှင် ငွေရ၊

ဤစကားများသည် ကစားလောကမှ လာသော ကစားဝိုင်းစကား ဖြစ်၏။သူ့နေရာနှင့်သူ အကျိုးသက်ရောက်မှု၊လက်တွေ့အကျိုးခံစားရမှု ရှိ၍သော ဥဒါန်းကျူးခြင်း ဖြစ်ပေလိမ့်မည်။

**ယင်းစကားများကို ကောင်းသောကဏ္ဍ၊** ကောင်းသောအပိုင်းဘက်သို့ ဆွဲ၍ **"တင်စားမှုစကား"**ပြု၍ အသုံးချကြည့်မိ၏။ကစားဝိုင်း၊ကစားမှုများကို ဘေးချိတ်ထားလိုက်ပြီး ကောင်းသောအလုပ်တခုခုအတွက် ယင်းစကားများကို ခုတုံးလုပ်၊ဆောင်ပုဒ်ပြုလျက် ချီတက်လျှင် အောင်မြင်နိုင်ရန် အလားအလာရှိနိုင်သည်ကို တွေ့ရ၏။

ထင်ရှားစေအံ့။ယင်းစကားကို အသီးသီး အဓိပ္ပာယ်ဖွင့်သော်-

(၁) ရပ်ကြည့်၊ အမြတ်မရှိ ဆိုသည်ကား- ဘာမှမလုပ်ဘဲ နေချေက ဘာမှမဖြစ်ဟု ဆိုလိုသည်။

(၂) ထိုးကြည့်မှ အကျိုးရှိမည် ဆိုသည်ကား-အလုပ်တခုခုကို ဇွဲရှိရှိနှင့် လုပ်ကိုင်ကြည့်ပါက လက်ငင်းအကျိုးရှိလာမည်ဟု ဆိုလိုသည်။

(၃) ရွှေထိုးလျှင်ရွှေရ၊ ငွေထိုးလျှင် ငွေရ ဆိုသည်ကား-မိမိ စိတ်ပါသောအလုပ်၊ အလိုရှိသောအလုပ်ကို မဆုတ်မနစ် အားထုတ်ကြည့်ပါ။ အချည်းနှီး မဖြစ်နိုင်၊ ဝီရိယ၏ အကျိုးကို လက်တွေ့ခံစားရလိမ့်မည်ဟု ဆိုလိုသည်။

ထိုကြောင့် "အမှိုက်က ရွှေဖြစ်" ဆိုသည့် စကားကဲ့သို့ ကစားဝိုင်းထဲက စကားပင် ဖြစ်စေဦးတော့၊ အသုံးချတတ်လျှင် တန်ဘိုးဖြတ်မရအောင် **အဘိုးတန်စကား** ဖြစ်လာနိုင်ပေသည်။

အများအားဖြင့် လူတို့သည် **ပါးစပ် အားကိုးလေ့** ရှိကြ၏။ ပါးစပ် အားကိုးသဖြင့် "**ဆုကို**" နင်းကန်တောင်းလေ့ ရှိကြ၏။ "လူ၊နတ်၊နိဗ္ဗာန် သုံးတန်သော ချမ်းသာကို ရပါလို၏"ဟူ၍ လည်းကောင်း၊ နိဗ္ဗာန်မဂ်ဖိုလ်ကို ရက်တိုတိုနှင့် ရပါလို၏။ **ဤဘဝမှာပင် နိဗ္ဗာန်သို့ ကေန်ထုတ်ချောက် မျက်မှောက်ပြုရပါ လို၏** ဟူ၍လည်းကောင်း ဤသို့ စသည်ဖြင့် ပါးစပ်အားအား ရှိတိုင်း **ဆုတွေ** ကိုသာ နင်းကန်တောင်းနေကြကုန်သော်ငြား လည်း **ဆုတောင်းပြည့်ရာ၊ပြည့်ကြောင်းအလုပ်ကိုကား** လုပ်လေ့ မရှိကြ။ ရေလောင်း၍ မဖြည့်သောအိုးသည် အဘယ်မှာလျှင် ပြည့်ချိမ့်မည်နည်း။ရေမပြည့်ကောင်းလားဟူ၍ အိုးကို အပြစ်ဆို ကြမည်လော။

တဖန် ဆန့်ကျင်ဘက်အားဖြင့် ဆိုပြန်သော် ငရဲ၊တိရစ္ဆာန်၊ ပြိတ္တာ၊ အသူရကာယ် အပါယ်လေးပါးသို့ လားရပါစေသား ဟူ၍လည်းကောင်း၊ ငရဲကြီးရှစ်ထပ်တွင် ချိုးကပ်၍ လွတ်ရက် မရှိ ခံရပါစေသား၊ ခွေး၊ဝက်၊ကြက်၊ဘဲ၊ တိရစ္ဆာန်ဘဝတွေမှာ

လည်း ဘဝမျိုးစုံ ထည်လဲနှင့် ဖြစ်ရပါစေသား ဟူ၍ လည်းကောင်း ဤဆုမျိုးကိုကား မည်သူမျှ တောင်းသံမကြား။ သို့သော် ဆုမတောင်းဘဲလျက်လည်း ထိုထို အပါယ်ဘဝမျိုး ကိုကား ရကြလေ၏။အကြောင်းသော်ကား အပါယ်လမ်းသွား အလုပ်များကို နေ့မအား၊ညမအား ကြိုးစားမင်းစား လုပ်ကြ သောကြောင့် ဖြစ်သတည်း။

ဆိုလိုသည်မှာ လိုချင်ခြင်း၊ ဖြစ်ချင်ခြင်းသည် ကိစ္စတခု ပြီးမြောက်ခြင်းအတွက် လိုရင်းမဟုတ်။လုပ်ဖြစ်ခြင်းသာ လိုရင်း ဖြစ်လေသည်။

**စိတ်ဖြင့် အကောင်အထည်ဖော်၍ ပေါ်မည်မဟုတ်။ အလုပ် ဖြင့် အကောင်အထည်ဖော်မှသာ ပေါ်နိုင်မည် ဖြစ်၏။**

ဥပမာ-ကြက်မကြီးတကောင်သည် ဥ-ဆယ်လုံး ဥထား၏။ မြန်မြန် ပေါက်စေလိုသောကြောင့် ဝပ်ကျင်းဘေးမှ ရစ်၍ ပေါက်ပါစေ၊ပေါက်ပါစေဟု ဆုတောင်း၏။ ပေါက်ချိန်တန် သောအခါ မပေါက်သည့်အပြင် ကြက်ဥအားလုံး ပုပ်ကုန် လေ၏။အဘယ့်ကြောင့်ပါနည်း။

သူ့အလုပ်ကို သူ မလုပ်သောကြောင့် ဖြစ်၏။ သူ့အလုပ် ကား ဝပ်ကျင်း၌ ဝပ်၍ ဝပ်၍ မိခင်၏အပူငွေ့ဓာတ် ပေးရ မည် ဖြစ်၏။ ဤအလုပ်ကို မလုပ်လေဘဲ ပါးစပ်အားကိုးဖြင့် ဆုအမျိုးမျိုး တောင်းနေမိသည့်အတွက် သားသမီး ကြက် ကလေးတွေ ဆုံးရှုံးရမှုမျိုးနှင့် ရင်ကျိုးမတတ် ကြုံရလေ၏။

ယနေ့ခေတ်တွင် ပဋိပတ္တိသာသနာ ထွန်းကားလာသည်မှာ များစွာ ဝမ်းမြောက်ဘွယ်၊ အားတက်ဘွယ်၊ ကြည်ညိုဘွယ် ကောင်းလှ၏။ သောတာပန်မှအစ အရဟတ္တဖိုလ်ဆိုက်သည်အထိ

အာသီသထားကြသည်မှာ ကောင်းသောအလုပ်၊ မွန်မြတ်သော အလုပ် ဖြစ်ပေ၏။ သို့သော် အလုပ်မပါလေဘဲ ပါးစပ်အားကိုးနှင့်သာဆိုချေက ကြက်မကြီး ကြက်ဥတွေ ပုပ်ကုန်သည့်ကိန်းမျိုးနှင့် တိုးမိနေမည်ကိုကား အထူးသတိချပ်သင့်လှ၏။

ယခု "သောတာပန်" ကျမ်းကို ပြုစုရာ၌ သောတာပန်အကြောင်း ပါရှိသည့် ပါဠိ၊ အဋ္ဌကထာ၊ ဋီကာ စသော ကျမ်းများကို တတ်နိုင်သမျှ အချိန်ယူ၍ လေ့လာကြည့်ရှုပြီးမှ ပြုစုခြင်းဖြစ်ရာ သောတာပန် ဖြစ်ဖြစ်သွားသူများသည် အများအားဖြင့် (ယုတ်စွအဆုံး)ကကြီးခကွေးလောက်မျှကိုပင် မတတ်သူက ပို၍များနေ၏။

"သူတို့ ဘာအလုပ် လုပ်၍ သောတာပန်ဖြစ်သနည်း"ဟု မေးဘွယ်ရှိ၏။ မေးထိုက်၏။ အဖြေကား-နားကြောင့်။ သူတို့မှာ နားပါကြသည်။ နားရှိကြသည်။ ဗုဒ္ဓ တကြိမ် တရားဟောလိုက်လျှင် "ကကြီး ခခွေး မတတ်ငြားသော်လည်း" တရား၏ အနှစ်သာရကို သူတို့က နားပါးပါးနှင့် ခံယူကြရာမှ အချို့မှာ တရားပွဲမပြီးခင်၊ အချို့မှာ တရားပွဲ ပြီးလျှင်ပြီးချင်း သောတာပန်ကြီးတွေ မရေမတွက်နိုင်အောင် ဖြစ်ကုန်ကြောင်းကို ကျမ်းဂန်ကြီးတို့မှ အခိုင်အမာ ပြဆိုထားချက်များကို တွေ့ရပေ၏။

အချုပ်ကား ကလျာဏနွယ်ဝင် သူတော်စင် သောတာပန်လောင်းလျာတို့ အားတက်ဘွယ် "**စတုသစ္စဒီပနီကျမ်း**" နိဂုံးမချုပ်မီကလေးတွင် ကျေးဇူးရှင် **လယ်တီဆရာတော်ဘုရားကြီး**၏ တိုက်တွန်းချက်ကို လက်ဆင့်ကမ်းလိုပါကြောင်း။

## လယ်တီဆရာတော်ဘုရား၏ တိုက်တွန်းခြင်း ဥယျောဇဉ်

ထို့ကြောင့် ယခုအခါ ဒိဋ္ဌိဒုစရိုက် အမိုက်တောကြီး ဖြစ်သော လောကီဘုံသူ၊ လောကီဘုံသား သံသရာ ဝဋ္ဋသမားအဖြစ်မှ ကျွတ်လွတ်၍ **ဝိသာခါ၊ အနာထပိဏ်** တို့ကဲ့သို့ သဥပါဒိသေသ နိဗ္ဗာန် တည်းဟူသော လောကုတ္တရာ ဘုံကြီး အတွင်းသို့ ဆိုက်ရောက်၍ လောကုတ္တရာဘုံကြီး အတွင်း၌ လောကုတ္တရာဘုံသူ၊ လောကုတ္တရာဘုံသားအဖြစ်နှင့် တည်၍ ပြဆိုခဲ့ပြီးသော မဂ္ဂသစ္စာ၏ အနက်လေးချက်၊ နိရောဓသစ္စာ၏ အနက် လေးချက်တို့ကို ဘဝအဆက်ဆက်၊ ကမ္ဘာအဆက်ဆက် လက်ကိုင်၊လက်စွဲ၊ အမြဲခံစံလျက် **"ဘုံစဉ်စံ အရိယာ"** လူဝိဇ္ဇာဓိုရ်၊ နတ်ဝိဇ္ဇာဓိုရ်၊ ဗြဟ္မာဝိဇ္ဇာဓိုရ် အဖြစ်နှင့် သံသရာ၌ နေထိုင်ကြကုန်သော သူအပေါင်းတို့သည် ပြဆိုခဲ့ပြီးသော (၁၆)ချက်သော သစ္စာအနက်တို့ကို အထိုက်အဲ့တန်အားဖြင့် ပိုင်နိုင်၊မြင်သိ၊လက်ရှိ၊ လက်စွဲ ပြုနိုင်ကြရန်–

ခန္ဓာငါးပါးတို့တွင် တခုတခုသော ခန္ဓာ၌ အနိစ္စ လက္ခဏာ ဖော်နည်း၊ ဖွင့်နည်းများကို ဆရာကောင်းထံ နည်းနိဿယ ကျကျနန ခံယူလျက် ဦးခေါင်း၌ လောင်မီး တဟုန်းဟုန်း ကျလောင်နေသော သူ၊ ဦးခေါင်း၌ ထက်လှစွာသော `လှံမကြီး တန်းလန်း စူးစိုက်၍နေသူအား ထိုမီးကို ငြိမ်းစေမှု၊ ထိုလှံမကို ထုတ်ပယ်ရန်အမှုမှတပါး ကိစ္စတခု ပြုစလောက်သော

အခွင့် မရှိသကဲ့သို့ ယခုအခါ၌လည်း မိမိတို့၏ စိတ်နှလုံး၌ အစဉ်ထာဝရ ကျလောင် စူးစိုက်ကာ ပါရှိနေသော **သက္ကာယဒိဋ္ဌိ လောင်မီး** သက္ကာယဒိဋ္ဌိ လှံမတို့ကို ပယ်ရှားတတ်ရန် **ဝိပဿနာ** အလုပ်များကို အားထုတ်စွဲမြဲကြကုန်ရာသည်။

ကျေးဇူးရှင် လယ်တီဆရာတော်ဘုရားကြီး၏ ဤတိုက်တွန်းချက်ကို ခံယူကြပြီးသည့် နောက် ရှေ့သို့ ဆက်ရန်မှာ "သောတာပန်" ဖြစ်ပါသတည်း။

**ဒဂုန်–ဦးစန်းငွေ**

**၇–၈–၇၈**

# သောတာပန်

## ဒဂုန်ဦးစန်းငွေ

### နမော တဿ ဘဂဝတော အရဟတော သမ္မာသမ္ဗုဒ္ဓဿ

### လူနှင့် ဘဝပြဿနာ

နတ်ဖြစ်ရန် မလွယ်၊ သိကြားဖြစ်ဘို့ ခဲယဉ်းသည်၊ ဗြဟ္မာဖြစ်ဘို့ရာက သာ၍ခက်သည်ဟူ၍ ဗုဒ္ဓ ဟောကြားတော်မမူ။ မနုဿတ္တဘာဝေါ ဒုလ္လဘော-လူ့အဖြစ်၊ လူ၏ဘဝကို အလွန်ရခဲ၏ ဟူ၍သာ ဗုဒ္ဓ ဟောကြားသွားတော်မူ၏။

ဤသည်ကို ထောက်ခြင်းအားဖြင့် လူ၏အဖြစ်၊ လူ၏ဘဝသည် နတ်၊ သိကြား၊ ဗြဟ္မာ တို့ထက် သာလွန်မွန်မြတ်ကြောင်း ထင်ရှား၏။ ရှေးဘုန်းရှေးကံ ကဲလွန်၍ ပါရမီထူးချွန်သူများသာ ရနိုင်သောဘဝမျိုးဟု ဆိုလိုသည်။[၁]

ယင်းသို့ အလွန်ရအပ်ခဲလှစွာသောဘဝကို ဒါရတော်စွာ ရလာခဲ့ကြသဖြင့်လည်း သူသူငါငါ "လူ" ဟူ၍ ဖြစ်လာကြပြီး အလွန်ရခဲလှပါသည် ဆိုသော လူ့ဘုံခန်းဝါသို့ ဆိုက်ဆိုက်

---

၁။ ဝိနည်း ဒေသနာတော်၌ နတ် သိကြား ဗြဟ္မာများကို တိရစ္ဆာန်စာရင်းသွင်း၍ ဟောတော်မူ၏။

မြိုက်မြိုက်ကြီး ဆိုက်ရောက်လာကြရပြီ ဖြစ်၏။ လူ့သန္ဓေခေါင်စာရင်းသို့ သွတ်သွင်းခြင်း ခံကြရပြီ ဖြစ်၏။ အဘိုးတန်သော၊ မြတ်သော၊ ဘုရားအဆူဆူတို့ ချီးမွမ်းအပ်သော လူ့ဘဝကို ရရှိနေကြပြီး ဖြစ်ပါ၏။

"အဘယ့်ကြောင့် လူဖြစ်လာသနည်း"

"လူ့ဘဝသို့ ဘယ့်အတွက် ရောက်ရှိလာသနည်း"

ဤသို့တစုံတယောက်သောသူက မေးခွန်းထုတ်ခဲ့သော်-မည်သို့ ဖြေမည်နည်း။

ပတ်ဝန်းကျင်သည် ယင်းမေးခွန်း၏အဖြေ ဖြစ်နိုင်၏။ လူ့ဘဝသို့ ရောက်ရှိလာသူများကို အကဲခတ်ရာ၏။ လေ့လာရာ၏။ လူဖြစ်လာသူတို့အထဲတွင် ဘာဆိုဘာမျှမလုပ်သူ၊ မလှုပ်မရှက် ငြိမ်သက်နေသူ ဟူ၍ ရှိပါသလော။ ထိုကဲ့သို့သော အလုပ်မလုပ်သူများကို တွေ့ဘူး၊ မြင်ဘူး ပါသလော။

> လူသည် လူမှန်းသူမှန်း သိတတ်သည့် အချိန်မှစ၍ (အို၊ နာ၊ ကျိုး၊ ကန်း သူများမှတပါး) ကြီးလျှင်ကြီးလျောက်၊ ငယ်လျှင် ငယ်လိုက် မိမိနှင့် ထိုက်တန်သောအလုပ်ကို တလှုပ်ရှားရှားနှင့် မနားမနေ၊ အမြဲတစေလုပ်နေသူ ဖြစ်၏။ အလုပ်မလုပ်သူ၊ ဘာမျှလှုပ်ရှားခြင်းမပြုဘဲ ငြိမ်နေသူဟူ၍ မရှိ။

ထို့ကြောင့် လူသည် အလုပ်သမားစစ်စစ် ဖြစ်၏။ ကိုယ်နှင့်တန်ရာတန်ရာအလုပ်ကို လုပ်ဘို့အတွက် လူဖြစ်လာသူ ဖြစ်၏။

မှန်၏။ လူသည် အငြိမ်နေလေ့မရှိ၊ ငြိမ်၍နေတတ်သူမဟုတ်။ လောကီအတွက်ဖြစ်စေ၊ လောကုတ္တရာအတွက်ဖြစ်စေ၊ လူမှန်

လျှင် အလုပ်တခုခုကို လုပ်လေတော့သည်။ ဟုတ်စ္စအဆုံး၊ စီးပွားရေး၊ ပညာရေး စသော အကျိုးရှိအလုပ်များကို မလုပ်သည့်တိုင်အောင် ပျော်ကာပါးကာ၊ လည်ပတ်ကာနှင့် အချိန်ကုန်စေခြင်းသည်လည်း အချည်းနှီးသောအလုပ်ကို လုပ်နေသည်မည်၏။

လူဖြစ်လျက် အလုပ်မလုပ်ဘဲနေခဲ့သော် ထိုသူသည် လူမဟုတ်ပြီ။ လူဟူသော အမည်နာမကိုပင် မခံထိုက်တော့ပြီ။ ဗလိဗဒ္ဒေါ ဝဇီရတိ-မြက်ကို စား၍ ကြီးထွားနေသော နွားနှင့်တူ၏ဟု ပညာရှိတို့ ဆိုကုန်၏။

သို့ဖြစ်လေရာ အလွန်တန်ဘိုးရှိလှစွာသော လူ၏အဖြစ်၊ လူ၏ဘဝကို ရှေးကုသိုလ်ပုညကြောင့် အရတော်စွာရလာကြသည့်အခိုက်တွင်-

လောကီကြောင်းအရ "ကျောပူမှ၊ ဝမ်းအေးသည်" ဆိုသကဲ့သို့လည်းကောင်း၊ လက်လှုပ်မှ ပါးစပ်လှုပ်သည် ဆိုသကဲ့သို့လည်းကောင်း လူ့ဘုံခန်းဝါတွင် လူ့အလျောက် တင့်တောင့်တင့်တယ်၊ သာတောင့်သာယာ နေနိုင်၊ ထိုင်နိုင်စေရန်အလို့ငှာ အလုပ်တခုခုကို ကြိုးကြိုးကုတ်ကုတ် လုပ်ကြရကုန်၏။ ဤသို့လုပ်ပါမှလည်း လူပြီသသည်၊ လူစော်နံသည်၊ လူဖြစ်ရကျိုးနပ်သည်ဟူ၍ ဆိုရသတည်း။ ရှိပါစေတော့-

## လူနှင့်သောတာပန်

ဤ၌ ဆိုလိုသည်ကား လောကီအလုပ် မဟုတ်၊ လောကုတ္တရာအလုပ် ဖြစ်၏။ လောကုတ္တရာကြောင်းအရ လုပ်ငန်းကား နိဗ္ဗာန်တွင် ဆုံး၏။ နိဗ္ဗာန်သည် လမ်းဆုံးဖြစ်၏။ နိဗ္ဗာန်ကား

ဘေးခပ်သိမ်း၊ ရန်ခပ်သိမ်း၊ အန္တရာယ်ခပ်သိမ်းတို့၏ ချုပ်ငြိမ်းရာဖြစ်၏။ ကိုယ်၏ဆင်းရဲခြင်းမျိုး၊ စိတ်၏ဆင်းရဲခြင်းမျိုး အားလုံးကင်း၏။ သန္တိသုခ၊ ချမ်းသာစင်စစ် ဖြစ်၏။

ထို့ကြောင့် ဆင်းရဲခြင်း ကင်းလိုသူတို့သည် နိဗ္ဗာန်ကို လိုချင်ကြ၊ တောင့်တကြကုန်၏။ နိဗ္ဗာန်သို့ ရောက်ရာရောက်ကြောင်း၊ နိဗ္ဗာန်ကို ရရာ ရကြောင်းတရား ဤသို့ နိဗ္ဗာန်ရရာ၊ ရကြောင်း အားထုတ်ကြရာ၌-

(၁) သောတာပန်အဆင့်၊
(၂) သကဒါဂါမ်အဆင့်၊
(၃) အနာဂါမ်အဆင့်၊
(၄) အရဟတ္တဖိုလ်အဆင့်၊

ဟူ၍ ဤသို့ အဆင့်အသီးသီး ရှိလေသည့် အနက်တွင် သောတာပန်အဆင့်မှာ အောက်ဆုံးအဆင့် ဖြစ်လေသည်။ အထက် အထက်သော အဆင့်များကို ထားဘိဦး၊ အောက်ဆုံးအဆင့်ဖြစ်သော သောတာပန်အဆင့်မှာပင် အဘယ်မျှ ချမ်းသာလေသနည်း။

ဤ၌ သောတာပန်ဟူသည် အဘယ်နည်း။ အဘယ်သို့ သောတာပန် ခေါ်သနည်းဟု မေးဘွယ်ရှိ၏။ မေးထိုက်၏။

သောတာပန်သည် သောတ အာပန္နမှ ဆင်းသက်လာသော ပါဠိသက်စကား ဖြစ်၏။ သောတ- ရေအယဉ်၊ အာပန္န- ရောက်ရှိခြင်း၊ အနက်ထွက်၏။ အဓိပ္ပာယ်မှာ ရေစီးကြောင်းကြီးထဲသို့ ရောက်ရှိသွားခြင်း။ ယင်းရေစီးကြောင်းကြီးထဲသို့ ရောက်ရှိသွားသူကို သောတာပန်ဟု ဆိုသည်။

ထို ရေစီးကြောင်းကား ပကတိသော ရေစီးကြောင်း မဟုတ်၊ နိဗ္ဗာန်ရေစီးကြောင်းဟူ ဆိုခြင်းဖြစ်သည်။ ထို့ကြောင့်-

သောတာပန်ဆိုသည်မှာ နိဗ္ဗာန်သို့သွားရာ ရေစီး ကြောင်း၊ နိဗ္ဗာန်သွားရာ နိဗ္ဗာန်လမ်းမကြီးပေါ်သို့ ရောက်ရှိသွားပြီး ဖြစ်သူ၊ ထိုသို့ နိဗ္ဗာန်ရေစီးကြောင်း ကြီးထဲသို့ ရောက်ရှိသွားပြီး ဖြစ်သဖြင့် အပါယ်လေးပါး တံခါးပိတ်၍ နိဗ္ဗာန်ရောက်ဘို့အတွက် စိတ်ချရသူ ဖြစ် သတည်း။

တနည်းအားဖြင့် သောတသဒ္ဒါသည် နားဟူသောအနက် ကိုလည်း ဟော၏။ မြန်မာမှုအရဆိုသော် နား၏အလုပ်ကား အသိကို ခံယူခြင်း၊ အသံကို နားထောင်ခြင်း ဖြစ်၏။ လူတို့ ဆိုပြောသမျှ စကားကိုလည်းကောင်း၊ ဥတုကြောင့်ဖြစ်သော လေတိုက်သံ၊ မိုးချုန်းသံများကိုလည်းကောင်း ခံယူနားထောင် ခြင်းသည် နား၏အလုပ် ဖြစ်၏။ အသံဟူသမျှကို နားက ခံယူ၏။ နားထောင်၏။

ဤသောတာပန်ဟူသော စကားမှ သောတသည် အဘယ် သို့သော အသံမျိုးကို ခံယူ၍ အဘယ်သို့သော အသံမျိုးကို နားထောင်လေသနည်း။

ယင်းမေးခွန်း၏ အဖြေကား ပညတ်နှင့် ပရမတ်ကို ခွဲခြား လျက် ကွဲကွဲပြားပြားဟောအပ်သော တရားစကား၊ တရားသံကို အသားကျကျ ခံယူသည်၊ နားထောင်သည်၊ တရားသားကို အသားကျကျ ခံယူသောနားဟု ဆိုလိုသည်။ ထိုကဲ့သို့သော နားမျိုးရှိသူကို "တရားပေါက်သူ"သောတာပန်ဟု ဆိုသတည်း။

## ဘုံစဉ်စံ သောတာပန်

သောတာပန်သည် အပါယ်တံခါး ပိတ်၍ နိဗ္ဗာန်အတွက် စိတ်ချရသောဘဝ ဖြစ်၏။ ထို့ကြောင့် လူတို့သည် သောတာပန် ဖြစ်လိုကုန်၏။ သောတာပန် ဖြစ်ချင်ကြ၏။

သို့သော် လူနှင့်သောတာပန်ကြား၌ ပြဿနာတခုက ခိုးလိုးခုလုကြီး ခံနေရ၏။ တစ်ဆို့ကြီး ဖြစ်နေ၏။ ယင်းပြဿနာက အခြားမဟုတ်၊ ကာမသုခ-ကာမဂုဏ်ချမ်းသာ ဖြစ်သတည်း။

မှန်၏။ လူသည် ဝါသနာကို စွန့်နိုင်ခဲသူ ဖြစ်၏။ ဘဝများစွာ သံသရာတလျှောက်လုံး လူသည် ကာမည္ဒန်အိုင်ကြီးထဲတွင် ကျွဲလူးသကဲ့သို့ လူးလာခဲ့သော ဝါသနာအထုံ ပါလာလေသူ ဖြစ်ရကား ရုတ်တရက် ကာမကို အာလယ မဖြတ်နိုင်ချေ။ နိဗ္ဗာန်ကိုလည်း လိုချင်သည်။ ကာမဂုဏ်ကိုလည်း ခံစားချင်သည်။ ကာမကို မခွဲနိုင်၊ မခွာရက်အောင် ဖြစ်နေသည်။ "အကယ်၍များ ကာမဂုဏ်ခံစားရင်း ရောက်မည့်နိဗ္ဗာန်၊ ရမည့်နိဗ္ဗာန်များ ရှိပါက ရောက်ချင်၊ ရချင်စမ်းပါဘိတော့သည်" ဟူ၍ တောင့်တလေ၏။ ဤသို့ ကာမဂုဏ်ခံစားရင်း နိဗ္ဗာန်ရလိုသူများ စင်စစ်ကေန် အမှန်ပင် ရှိလေသတည်း။

မှန်၏။ ဗုဒ္ဓလက်ထက်တော်က ဥဂ္ဂသေန သူဌေးဟူ၍ ရှိသည်။ သားမယားကိုလည်း အလွန်ချစ်သူ၊ စည်းစိမ်လည်း အလွန်ယစ်မူးသူ ဖြစ်လျက် သူသည် နိဗ္ဗာန်ကိုလည်း လိုချင်၏။ မယားကို ချစ်ရင်း၊ စည်းစိမ်ယစ်ရင်းနှင့် နိဗ္ဗာန်ရနိုင်သော နည်းလမ်းများ ရှိ-မရှိသိလိုသောကြောင့် အခါတပါးတွင် ဗုဒ္ဓထံ ချဉ်းကပ်၍ ထိုအကြောင်းကို မေးလျှောက်ကြည့်လေ၏။

"ရွှေဘုန်းတော်သခင် အရှင်သူမြတ်ဘုရား၊ တပည့်တော် လျှောက်ထားပါရစေ၊ ခွင့်ပြုတော်မူပါ။

"တပည့်တော်၏ဇနီးသည် တပည့်တော်ကို လွန်စွာ မြတ်နိုးရှာပါသည်။ တပည့်တော်ကလည်း သူ့ကို လွန်စွာ မြတ်နိုးပါသည်။ ထင်ရှားအောင် လျှောက်ထားရမည် ဆိုပါလျှင် နားနှင့်မနား ဖဝါးနှင့် နားတော်မူပါဘုရား။

"အရှင်ဘုရား၊ တပည့်တော်၏ ဇနီးသည် အရပ်တပါးသို့ တပည့်တော် ခရီးထွက်သွားသော အခါများတွင် သူ့ခမျာ မစားနိုင်၊ မသောက်နိုင်၊ မအိပ်နိုင် ရှာဘဲ တပည့်တော် ပြန်လာမည့်လမ်းကိုသာ မျှော်တလင့်လင့်နှင့် စောင့်ကြိုနေပါသည်။ တပည့်တော် ကလည်း ဇနီးကို စွဲလမ်းမှုကြောင့် အိမ်ကထွက်သည့် နေ့မှစ၍ ပြန်ရောက်မည့် ရက်ကိုသာ လက်ချိုးကာ ချိုးကာ ရေတွက်မိပါသည်။

"အမှန်အတိုင်း လျှောက်ရလျှင် တပည့်တော် အပါယ်လားမှာ ကြောက်ပါသည်။ နိဗ္ဗာန်ကို ရလို ရောက်လိုပါသည်။ သို့သော် တပည့်တော်မှာ ခက်နေ တာက ဇနီးကို မခွဲနိုင်ပါ။ ခြွေရံသင်းပင်းများနှင့်တကွ ရွှေ၊ ငွေစသော ဥစ္စာများကိုလည်း တပည့်တော် မစွန့် နိုင်ပါ။ တောထွက်၍ ရဟန်းလည်း မပြုနိုင်ပါ။ လောကီ စည်းစိမ်များကို ခံစားရင်းနှင့်ပင် တပည့်တော် နိဗ္ဗာန်ရောက်လိုပါသည်။ ဖြစ်နိုင်သော နည်းလမ်းများ ရှိပါသလားဘုရား။ ဖြစ်နိုင်လျှင် ထိုနည်းလမ်းကို အမိန့် ရှိတော်မူပါဘုရား"ဟူ၍ လျှောက်ထားဘူးလေသည်။

ထိုအခါ ဗုဒ္ဓမြတ်ဘုရားသည် ဥဂ္ဂသေနသူဌေးအား ကာမဂုဏ် တန်းလန်းနှင့် လူ့ဘောင်၌ နေလိုသူများအတွက် ထိုသူတို့နှင့် လျောက်ပတ်သော လူ့အဖြစ်၊ လူ့ဘဝနှင့်ပင် ဇနီးတွဲလဲ၊ သားသမီး တွဲလဲ၊ ရွှေငွေ တွဲလဲနှင့် နိဗ္ဗာန်ဝင်နိုင်သော သောတာပန်လမ်းစဉ်ကို ညွှန်ပြ ဟောကြားတော်မူ၏။

သောတာပန်အဖြစ်သို့ ရောက်သော် အပါယ်တံခါး ပိတ်လေပြီ ဖြစ်၏။ မည်သည့်အခါမှ အပါယ်သို့ မလား နိုင်တော့ချေ။ နိဗ္ဗာန်အတွက် စိတ်ချရသောဘဝ ဖြစ်၏။ နိဗ္ဗာန် မရောက်မီအတွင်း ခုနစ်ဘဝတိုင်တိုင် မြတ်သောအမျိုး၌ ချည်းဖြစ်၍ ဘုံစဉ်အတိုင်း စံစားသွားပြီးမှ နိဗ္ဗာန်ဝင်၏။

ဥဂ္ဂသေနသူဌေးကဲ့သို့ လောကီစည်းစိမ်ကို ဘုံစဉ်စံပြီးမှ နိဗ္ဗာန်ရောက်လိုသူများနှင့် သောတာပန်အဖြစ်သည် အထူးသင့် လျော်လှ၏။

ကိလေသာသည် ၁၅၀၀ရှိ၏။ သောတာပန် ပုဂ္ဂိုလ်သည် ယင်းကိလေသာ ၁၅၀၀ထဲမှ “ဒိဋ္ဌိ”တလုံးကိုသာ ပယ်ရ သေးသည်။ ၁၄၉၉မျိုးသော ကိလေသာများ သောတာပန်၏ သန္တာန်၌ ကျန်လေသေး၏။ လောဘကျန်၊ ဒေါသကျန်၊ မောဟကျန်၊ မာနကျန် အများကြီးကျန်သေး၏။

ထို့ကြောင့် သောတာပန်သည် လောဘတန်းလန်း၊ ဒေါသ တန်းလန်းနှင့် ရှိနေသေးသောကြောင့် လောဘ ကြီးသည့်အခါ ကြီး၊ ဒေါသထွက်သည့်အခါ ထွက်၍ လောကီအာရုံ၊ ကာမဂုဏ် ဓလေ့ဖြင့် မွှေ့မွှေ့လျော်လျော်၊ ပျော်တပြုံးပြုံးနှင့် မော်မဆုံး အောင်ပင် ရှိနေသေးသောဘဝ ဖြစ်လေသည်။

ထင်ရှားသော သာဓကများမှာ ဝိသာခါကျောင်းအမကြီးသည် (၇)နှစ်သမီး အရွယ်ကပင် သောတာပန် အရိယာဖြစ်သော်လည်း သားတကျိပ်၊ သမီးတကျိပ် မြေး၊ မြစ်တွေက တရုံးရုံးနှင့် အသက် ၁၂၀တိုင်အောင် ကြီးကျယ်လှစွာသော လူ့စည်းစိမ်၊ လူ့ချမ်းသာကို ခံစားစံစား သွားပြီးလျှင် ယခုလည်း နိမ္မာနရတိနတ်ဘုံတွင် သုနိမ္မိတမည်သော နတ်မင်းကြီး၏ နတ်မိဖုရားကြီး ဖြစ်၍ ကြီးကျယ်သော နတ်စည်းစိမ်၊ နတ်ချမ်းသာကို ခံစား၊ ခံစားလျက်ပင် ရှိလေသည်။

သိကြားမင်းသည်လည်း သက္ကပဉှသုတ် ဒေသနာတော်ကို ကြားနာရပြီးသည့် အဆုံး၌ သောတာပန် အရိယာပုဂ္ဂိုလ်ကြီး ဖြစ်သွား၏။ သို့ပါလျက်လည်း လောဘအမျှင် တန်းလန်းနှင့် ရှိနေသေးသောကြောင့် သုံးကုဋေ ခြောက်သန်းမျှသော ဒေဝစ္ဆရာ နတ်ကညာများ၊ နတ်မိဖုရားများ ခြံရံလျက်ပင် ရှိလေသည်။ ဝိသာခါ၊ သိကြားမင်းတို့နှင့် အလားတူသော အခြား အခြားဘုံစဉ်စံ သောတာပန်တို့လည်း များစွာရှိကုန်၏။ အထက်အဆိုပါ ဝိသာခါ၊ သိကြားမင်းစသော အရိယာပုဂ္ဂိုလ်တို့သည် လူ့စည်းစိမ်၊ နတ်စည်းစိမ်များကို ခံစားရင်း သောတာပန်အဖြစ်ဖြင့် နိဗ္ဗာန်ဝင်လိုသူများအတွက် အားထက်ဘွယ်ရာ သာဓကများ ဖြစ်ကုန်သတည်း။

## သောတာပန်ဖြစ်ထိုက်သော အရည်အချင်း

ဗုဒ္ဓဟူသည် လူမှ ဖြစ်တော်မူ၏။ ထို့အတူ ရဟန္တာတို့သည်လည်းကောင်း၊ သောတာပန် သကဒါဂါမ် အနာဂါမ်တို့သည်လည်းကောင်း၊ လူမှ ဖြစ်ကုန်သည်ချည်း ဖြစ်၏။ ဗုဒ္ဓမျိုး၊

ရဟန္တာမျိုး၊ သောတာပန်မျိုး၊ သကဒါဂါမ်မျိုး၊ အနာဂါမ်မျိုး ဟူ၍ သီခြားမရှိ၊ လူထဲက လူချည်းဖြစ်ကုန်၏။

ထို့ကြောင့် ဗုဒ္ဓအဖြစ်ကို ထား၍ ဤသာသနာခေတ်အတွင်း သောတာပန်၊ သကဒါဂါမ်၊ အနာဂါမ် ရဟန္တာများဖြစ်ရန် အလားအလာရှိသည်ပင် ဖြစ်၏။ အတိတ်ဘဝများက မိမိတို့ ဆည်းပူးလာခဲ့ကြသည့် ပါရမီများကို မည်သူမျှမမြင်နိုင်။ မည်သူ မဆို ပါရမီ ရင့်ခိုက်နှင့် ကြုံကြိုက်လျှင် အရိယာဘုံသို့ ဆိုက်ရောက် နိုင်၏။

သောတာပန် အဖြစ်သည် ချစ်သူ့မျက်နှာလေးကို တစိမ့်စိမ့် ကြည့်ရင်း ဘုံစဉ်စံလိုသူများနှင့် အထူးသင့်လျော်၏။သောတာပန် မဖြစ်နိုင်သူဟူ၍ မရှိ။

ယာဒိသံ ဝပ္ပတေ ဗီဇံ တာဒိသံဟာရတေ-ဖလံ။

ယာဒိသံ- အကြင်သို့သဘောရှိသော၊ ဗီဇံ - သရက် ပိန္နဲ စသော မျိုးစေ့ကို၊ ဝပ္ပတေ-စိုက်ပျိုး၏၊ တာဒိသံ- ထိုသို့သော သဘောရှိသော၊ ဖလံ- သရက်သီး ပိန္နဲသီး စသောအသီးကို၊ ဟာရတေ- ဆောင်၏ဟူ၍ ဟောတော်မူအပ်သော ဒေသနာ တော်အတိုင်းပင် သောတာပန် ဖြစ်ထိုက်သော အင်္ဂါရပ်၊ အရည်အချင်းနှင့် ပြည့်စုံမည်ဆိုပါက မည်သူမဆို သောတာပန် ဖြစ်နိုင်၏။ သောတာပန် ဖြစ်ထိုက်သော အင်္ဂါကိုကား သုတ်ပါထေယျပါဠိတော်၌ ဤသို့ ဗုဒ္ဓ ဟောကြားထားတော် မူခဲ့သတည်း။

စတ္တာရိ သောတာပတ္တိ ယင်္ဂါနိ၊
ကတမေစတ္တာရော၊ သပ္ပုရိသသံသေဝေါ
သဒ္ဓမ္မဿဝနံ၊ ယောနိသော
မနသိကာရော၊ ဓမ္မာနုဓမ္မပဋိပတ္တိ။ ၁

အဓိပ္ပါယ်ကား-

(၁) သပ္ပုရိသသံသေဝ- ရုပ်နာမ်ခန္ဓာ၊ ဓာတ်သစ္စာတို့၌ ကျွမ်းကျင်လိမ္မာသော သူတော်ကောင်းနှင့် ပေါင်းဖော်ရခြင်းတပါး။

(၂) သဒ္ဓမ္မဿဝနံ- ရုပ်နာမ်ခန္ဓာ၊ ဓာတ်သစ္စာတို့နှင့် စပ်သော တရားစကားကို ကြားနာခြင်း၊ မှတ်သားခြင်း၊ သင်ကြားခြင်းတပါး။

(၃) ယောနိသောမနသိကာရ- ရုပ်ဓာတ်၊ နာမ်ဓာတ်၊ ခန္ဓာဓာတ်၊ ပရမတ်တရားတို့ကို ထင်းကနဲ၊ လင်းကနဲ ဉာဏ်မျက်စိထဲတွင် ထင်လာ၊ မြင်လာအောင် အသင့်အတင့် နှလုံးသွင်းခြင်းတပါး။

(၄) ဓမ္မာနုဓမ္မပဋိပတ္တိ- မဂ်ဉာဏ်၊ ဖိုလ်ဉာဏ်၊ နိဗ္ဗာန် ရခြင်း၏ အကြောင်းဖြစ်သော သက္ကာယဒိဋ္ဌိကို ပယ်ရှားရခြင်းတပါး။

ဤအင်္ဂါလေးရပ်နှင့် ညီလျှင် သောတာပန်ဖြစ်ပြီဟု ဗုဒ္ဓ ဟောတော်မူ၏။ ဗုဒ္ဓချပေးထားခဲ့သော သောတာပန်လမ်းစဉ် အရ သောတာပန် ဖြစ်လိုသူသည် ရှေးဦးစွာ ဆရာကောင်းကို

---

၁။ ဒီဃနိကာယ်၊သုတ်ပါထေယျပါဠိ၊သင်္ဂီတိသုတ်၊ ၁၉၀။ (ဆဋ္ဌမူ)

ရှာရသည်။' လောကီအလုပ်၌ ဖြစ်စေ၊ လောကုတ္တရာအလုပ်၌ ဖြစ်စေ၊ ဦးဆောင်ညွှန်ကြားပြသသူ ဆရာသည် လွန်စွာ အရေးကြီးလှ၏။

ရှေ့ဆောင်နွားလား အဖြောင့်သွားက နောက်နွားတစိုက် အဖြောင့်လိုက်၏။

ရှေ့ဆောင်နွားလား အကောက်သွားက နောက်နွားတစိုက် အကောက်လိုက်၏။

ထိုစကားအတိုင်း ဆရာက မှန်ရာကိုညွှန်ပြလျှင် သောတာပန် နိုင်လိမ့်မည်။ ဆရာက အမှားကို ညွှန်ပြလျှင်ကား သောတာ မပန်နိုင်ဘဲ ဖြစ်နေမည်။

ထို့ကြောင့် ဗုဒ္ဓသည် ကောင်းသောဆရာ၊ ဖြောင့်မတ်သော ဆရာကို ရှာအပ်ကြောင်းကို "ယထာဘူတံ ဉာဏာယ သတ္ထာ ပရိယေသိ တဗ္ဗော" ဟူ၍ ၄၄-ကြိမ် တိုင်တိုင် သတိပေး တိုက်တွန်း သွားတော်မူသတည်း။

ယထာဘူတံ- ဟုတ်မှန်ရာကို၊ ဝါ - ဟုတ်မှန်သောအတိုင်း၊ ဉာဏာယ- ဇာနနတ္ထာယ- သိခြင်းအကျိုးငှာ၊ သတ္ထာ-ဆရာကို၊ ပရိယေသိတဗ္ဗော- ရှာမှီးအပ်၏။ ဝါ- ရှာမှီး၍ ဆည်းကပ် ရာ၏။

ဤကား ဗုဒ္ဓ၏ ညွှန်ကြားချက် ဖြစ်၏။ ဤ၌ ဆရာ ဆိုသည်ကား "သည်ဟာက ပညတ်၊ သည်ဟာကိုတော့ ပရမတ်လို့ ခေါ်တယ်"ဤ သို့ ပညတ်နှင့်ပရမတ်ကို ခွဲခွဲခြားခြား ကွဲပြားအောင် ပြောပြတတ်သောဆရာကို ဆိုလိုသည်။

အဘယ်ကြောင့်ဆိုသော် ပညတ်နှင့်ပရမတ်ကို ခွဲခွဲခြားခြား နားလည်ပါမှ သက္ကာယဒိဋ္ဌိ အတ္တစွဲပျောက်မည်။ သက္ကာယဒိဋ္ဌိ ကွာ၍ အတ္တစွဲပျောက်မှ သောတာပန်ဘဝသို့ ရောက်နိုင်မည် ဖြစ်သောကြောင့်တည်း။

## သောတာပန် ဖြစ်လိုသော် တရားသားကျကျ နားကိုအသုံးချ

ဤ၌ သဒ္ဓမ္မဿဝနံ ဟူသော ဒုတိယအချက်နှင့် သက်ဆိုင်လာ၏။ သူတော်ကောင်းတို့ ဟောပြောသော တရားကို ကြားနာမှတ်သား ဆိုရာ၌ ကြားနာခြင်း၊ တရားနာခြင်း အလုပ်မှာ နားနှင့်သာ သက်ဆိုင်၏။ နား၏အလုပ် ဖြစ်၏။ မြန်မာမှု၌ နား၊ မျက်စိ ဟူသောစကား ရှိ၏။ ပါဠိဘာသာ အားဖြင့် နားကို သောတ ဟုဆို၏။ ထို့ကြောင့် သောတကို နား ဟု ဘာသာပြန်ကြ၏။

သောတာပန်- ဟူသောစကား၌ သောတ သဒ္ဒါသည် နား ဟူသောအနက်ကိုလည်း ဟောသည်ဖြစ်ရာ နား၏ အလုပ်ကား အသံကို ခံယူခြင်း၊ အသံကို ဖမ်းယူနားထောင်ခြင်း ဖြစ်၏။ အသံဟူသမျှကို နားဖြင့်ခံယူကြောင်း အထက်၌ ဆိုခဲ့ပြီးဖြစ်၏။ ပရမတ်တရားကို အသားကျကျခံယူနိုင်သော နားဟု ဆိုလိုသည်။ ထိုကဲ့သို့သောနားမျိုး ရှိလျှင် တရားပေါက်သူ၊ ဝါ- သောတာပန်ဖြစ်ရန် မဝေးတော့ပြီ။

လောကီ အလုပ်ကိုဖြစ်စေ၊ လောကုတ္တရာ အလုပ်ကိုဖြစ်စေ၊ မိမိ အလိုရှိအပ်သော အကျိုး၊ ကိစ္စ ပြီးမြောက်ရန်အတွက် အလုပ်လုပ်ကြရာ၌ ဆင်းဆင်းရဲရဲ၊ အားပါးတထုတ် လုပ်ယူ

ရသော အလုပ်မျိုးလည်း ရှိ၏။ သက်သောင့်သက်သာနှင့် ပြီးစီးသော အလုပ်မျိုးလည်း ရှိ၏။

ဤတွင် သောတာပန် အလုပ်ခွင်သမိုင်းစဉ်ကို ကြည့်လျှင် အလွန်ညင်သာ၏။ အများအားဖြင့် သက်သောင့်သက်သာနှင့် သောတာပန် ဖြစ်ဖြစ်သွားကြသည်က များ၏။ သောတာပန် ဖြစ်ဘို့အတွက် အရိုးကြေကြေ အရေခန်းခန်း ကမ္မဋ္ဌာန်းအားထုတ်ယူရသော သောတာပန်မှာ မရှိသလောက်ပင်ရှား၏။

သောတာပန် ဖြစ်လိုက်လျှင် တဦးတယောက်တည်း ခြောက်ကပ်ကပ် ဖြစ်သည်ထက် အဖော်များနှင့် တပျော်တပါးကြီး အုပ်လိုက်၊ သင်းလိုက်၊ အဖွဲ့လိုက် ဖြစ်ကြသည်က များကြောင်းကို တွေ့ရ၏။ ဗုဒ္ဓသည် သာဝတ္ထိ၊ ဗာရာဏ၊ ရာဇဂြိုဟ်စသော နေရာအသီးသီးတို့၌ ပရိသတ်အသီးသီး တို့အား တရားဟောတော်မူလေရာ ဒေသနာတော်၏ အဆုံး၌ အားလုံးသော်လည်းကောင်း၊ အချို့အဝက်သော်လည်းကောင်း သောတာပန်၊ သကဒါဂါမ် စသည် တည်ကုန်လေ၏ဟု ဆို၏။

ဤသို့ သောတာပန်တည်ကြခြင်းမှာ ရှေးကဆည်းပူးခဲ့သော ပါရမီ အခံရှိခြင်း၊ တရားစစ် တရားမှန်ကို ကြားနာရခြင်းကြောင့် ဖြစ်၏။ နားပါးသောကြောင့်ဟု ဆိုနိုင်၏။ တရားစကားကို ကြားနာရကာမျှဖြင့် တရားတော်၏ အနှစ်သာရကို သိလွယ်၊ ထင်လွယ်၊ မြင်လွယ်၊ သဘောပေါက်လွယ်သည်ကို "နားပါးသည်၊ နားပါးသူ" ဟု ဆိုလိုသည်။ ယင်းသာဓကကို အမြွက်မျှပြရသော်-

ဘုရားသခင်သည် ဟေမဝတသုတ်ဒေသနာကို ဟောတော်မူပေ၏။ တရားတော်၏ အဆုံး၌ ထိုနတ်စစ်သူကြီး နှစ်ဦး

(ဟေမဝတနှင့်သာတာဂိရိ) တို့သည် သောတာပန် တည်လေကုန်၏။ ကြွင်းကုန်သော နတ်ဘီလူးတို့သည်လည်း သရဏဂုံ၊ ပဥ္စသီ တည်ကြကုန်သတည်း။

ဤဟေမဝတနှင့် သာတာဂိရိနတ်မင်းကြီးတို့သည် ငါတို့ သောတာပန် ဖြစ်ချင်စမ်းပါဘိဟူ၍ မည်သည့်ကမ္မဋ္ဌာန်းကိုမျှ စီးဖြန်း၊ အားထုတ်ရခြင်း မရှိ။ နားပါးသောကြောင့် တရားတော်ကို ကြားနာရကာမျှနှင့် သောတာပန် တည်ကြခြင်း ဖြစ်၏။

ထိုမှတပါး နားပါးသူ အမျိုးသမီးတဦး ရှိ၏။ ကာဠီ ဟု အမည်တွင်၏။ သာသနာတွင် ရှေးဦးသောတာပန် ဖြစ်၏။

နတ်မင်းကြီးနှစ်ပါးထက် စော၍ သောတာပန်ဖြစ်နှင့်သူ ဖြစ်၏။ နတ်မင်းကြီးနှစ်ပါးတို့ ဆိုပြောနေကြသော ဘုရားသခင်၏ ဂုဏ်ကျေးဇူးစကားကို ကြား၍ သောတာပန်ဖြစ်သူ ဖြစ်၏။

နတ်စစ်သူကြီးတို့၏ အသီးသီးပြောဆိုကြသော ဘုရားကျေးဇူးတော် စကားကို ကာဠီအမည်ရှိသော အမျိုးသမီး တယောက်သည် ပြသာဒ်သို့တက်၍ လေသွန်တံခါးကိုဖွင့်လျက် ကိုယ်ဝန်၏ပင်ပန်းခြင်းကို ဖျောက်ခြင်းငှာ ရပ်နေသောအခိုက်တွင် နားစိုက်မိ၍ အစ၊ အလယ်၊ အဆုံး တိုင်အောင် ကြားလျှင် "ဘုရားတို့သဘောသည် ဤသို့သောဂုဏ်အထူးနှင့် ပြည့်စုံပေသည်တကား" ဟု ဘုရားဂုဏ်လျှင် အာရုံရှိသော

---

၁။ ဇိနတ္ထပကာသနီကျမ်း၊ ဟေမဝတနှင့်သာတာဂိရိ နတ်မင်းကြီးနှစ်ဦးတို့၏ အကြောင်းကို ပြဆိုသော အခန်းမှ—

ပီတိကို ဖြစ်စေလျက် ထိုပီတိဖြင့် နီဝရဏတရားကို ခွာ၍ ဝိပဿနာစီးဖြန်းလျှင် ထိုပြဿဒ်ထက်၌ ရပ်လျက်သာပင် သောတာပတ္တိဖိုလ်သို့ ရောက်လေ၏။

သောတာပန်သည် ဤနည်းနှင်နှင် တရားသားကို နှာ ပါးပါးဖြင့် ခံယူ၊ နာကြားခြင်းအားဖြင့် သက်သောင့်သက်သာ တရားပေါက်၍ အရိယာဘုံသို့ ရောက်ရှိသူ ဖြစ်၏။သောတာပန် ဖြစ်လျှင် နိဗ္ဗာန်လက်မှတ် ရပြီးဖြစ်၏။ဝိသာခါတို့ကဲ့သို့ ဘုံစဉ် စံပြီးနောက် နိဗ္ဗာန်သို့ မုချ ရောက်ရတော့မည် ဖြစ်သတည်း။

## လူနှင့် သက္ကာယဒိဋ္ဌိ

လူကို တထောင့်ငါးရာ ကိလေသာ ကြိုးမျှင်တို့ဖြင့် ဆိုင်းထား၏။ ချည်နှောင် ရစ်သိုင်းထား၏။ လှောင်ချိုင့်ထဲက ငှက်ငယ်အလား လူသည် ထောင့်ငါးရာ ကိလေသာ ပိုက်ကွန် တွင်း၌ မိခြင်း ခံနေရသော သားကောင် ဖြစ်၏။

သက္ကာယဒိဋ္ဌိသည် တထောင့်ငါးရာ ကိလေသာ ကြိုးမျှင် များအနက် နှောင်ကြိုးတမျှင် အဖြစ် ပါဝင်၏။ သောတာပန် သည် ထို သက္ကာယဒိဋ္ဌိ တည်းဟူသော နှောင်ကြိုးကို ထောင်းကနဲ ဖြတ်ပြီးသူ ဖြစ်လေသည်။ ထို သက္ကာယဒိဋ္ဌိကား အဘယ်ကို ဆိုလိုလေသနည်း။

သန္တော သံဝိဇ္ဇမာနော ကာယော သက္ကာယော။
မိစ္ဆာဝသေန ဒိဋ္ဌိ - သက္ကာယဒိဋ္ဌိ။

သက္ကာယဒိဋ္ဌိအကြောင်းကို ဤသို့ ဝိဂ္ဂိုဟ်ကျင်း၍ရှင်းကုန်၏။ ယင်း၏ အတ္ထ မြန်မာပြန် နိဿယသော်ကား–

သန္တော-သံဝိဇ္ဇမာနော- ပရမတ္ထအားဖြင့် ထင်ရှားရှိသော။ **ကာယော-ရုပ်နာမ် ခန္ဓာ အာယတန ပဋိစ္စသမုပ္ပါဒ် ဓာတ် အစုတည်း။** သက္ကာယော-ပရမတ္ထအားဖြင့် ထင်ရှားရှိသော ဓာတ်အစု။

မိစ္ဆာဝသေန-ထို ရုပ်နာမ်ခန္ဓာ၊အာယတန၊ ပဋိစ္စသမုပ္ပါဒ်၊ ဓာတ်အစုကိုပင် ငါ၊ သူတပါး၊ ယောကျ်ား၊ မိန်းမ ဟူ၍ မှားယွင်းသည့်၏အစွမ်းအားဖြင့်။ဒိဋ္ဌိ-ထင်မြင်စွဲလမ်းခြင်းတည်း။

သက္ကာယဒိဋ္ဌိ - ပရမတ္ထ အားဖြင့် ထင်ရှား ရှိသော ရုပ်နာမ် ခန္ဓာ၊ အာယတန၊ ပဋိစ္စသမုပ္ပါဒ်၊ ဓာတ်အစုကို ငါ၊ သူတပါး၊ ယောကျ်ား၊ မိန်းမ ဟူ၍ မှားယွင်းစွာ ထင်မြင် စွဲလမ်းခြင်း၊ မှတ်ယူခြင်း။

အဓိပ္ပာယ်မှာ-အမြင်ခံ၊အထင်ခံ၊ ပရမတ္ထအားဖြင့် ထင်ရှား ရှိနေသည်ကား၊ ပေါ်ပေါ်လွင်လွင် မြင်တွေ့နေရသည်ကား ရုပ်ကောင်၊ နာမ်ကောင်၊ ခန္ဓာကောင်ကို **သက္ကာယကောင်** ဟု ခေါ်သည်။ရှိသည့် သက္ကာယကို သက္ကာယဟု မထင်လေဘဲ ငါ၊ ငါ့သား၊ ငါ့မယား၊ ယောကျ်ား၊ မိန်းမ အနေဖြင့် သည်ဟာ ငါ၊ ဟောသည်ဟာက ငါ့မယား၊ သည်ဟာက ငါ့သား ဟူ၍ အထင်မှား၊ အမြင်မှား၊ အမှတ်မှားခြင်းကို ဒိဋ္ဌိ ဟု ဆိုသည်။

သက္ကာယနှင့် ဒိဋ္ဌိ နှစ်ရပ် ပေါင်းစပ်မိသောအခါ ထွက်လာ သော အနက်ကား-ပြောင်းပြန် ဖြစ်နေ၏။ သက္ကာယ အနက် ပျောက်သွား၏။ သက္ကာယပုဒ်ထွက် အနက်ရင်း ဖြစ်သော ရုပ်ကောင်၊ နာမ်ကောင်၊ ခန္ဓာကောင်၊ ပဋိစ္စသမုပ္ပါဒ်ကောင်၊ ဓာတ်ကောင်ကို အရှိအတိုင်းမထင်၊မမြင်လေဘဲ ထို ရုပ်ကောင်၊

နာမ်ကောင်၊ ခေတ်ကောင်၊ ပရမတ်ကောင်ကို ငါဟု ထင်လာသည်။ငါသား၊ငါ့မယား၊ငါ့လင်ဟု ထင်လာသည်။ ယောကျ်ား ဘဲ၊မိန်းမဘဲဟူ၍ စိတ်ထဲ၌ စွဲမှတ် ယုံကြည်ခြင်း ဖြစ်လာသည်။

ပရမတ်မျက်စိဖြင့် ကြည့်လျှင် ရုပ်ကောင်၊ နာမ်ကောင်၊ ခေတ်ကောင်၊ ပရမတ်ကောင်သာ ရှိ၏။ သူကောင်၊ငါကောင်၊ သားကောင်၊ မယားကောင်၊ သမီးကောင်၊ လူကောင်၊ နတ်ကောင်၊ဗြဟ္မာကောင်ဟူ၍ မရှိ။ဤသို့ မရှိပါဘဲလျက် အရှိဟု ထင်နေကြ၏။သက္ကာယဒိဋ္ဌိ-အတ္တစွဲ စွဲနေကြ၏။

## သက္ကာယနှင့် အတ္တ

### အတ္တဆိုတာ ဘာလဲ။

သက္ကာယစွဲနှင့် အတ္တစွဲသည် စကားလုံး ကွဲသော်လည်း အဓိပ္ပာယ် တူ၏။ အတ္တအကြောင်း ကောင်းကောင်း သဘော ပေါက်လျှင် သက္ကာယ၏ အချက်အလက်များ အနက်ထင်ပြီး ဖြစ်၏။ ထို့ကြောင့် အတ္တဒိဋ္ဌိ၏ သွင်ပြင်ကို အထင်းသား မြင်အောင် ရှုကြပါစို့။

ဤ၌ အတ္တကို ပေါ်အောင် သရုပ်ဖော်ဘို့ အရေးကြီး၏။ အတ္တပျောက်မှ အနတ္တပေါက်မည်။ အနတ္တပေါက်မှ သက္ကာဒိဋ္ဌိ ကွာ၍ သောတာပန်ဘဝ ရောက်မည် ဖြစ်သတည်း။

သို့ဖြစ်လေရာ ဤတွင် အနတ္တ မြင်ကွင်းကို ထင်းကနဲ၊ လင်းကနဲမြင်အောင် ပြဘို့ဆိုသောကိစ္စ၌ ကျေးဇူးရှင် လယ်တီ ဆရာတော်ဘုရားကြီး၏ ဟောပြောချက်မှာ သက်သောင့် သက်သာနှင့် သဘောပေါက်လွယ်၏။ လယ်တီဆရာတော်ဘုရား သည် ဝိပဿနာအလုပ်ကို ကိုယ်တိုင်လည်း အားထုတ်တော်

မူ၏။ အတ္တစကား အတ္တဒိဋ္ဌိနှင့် ပတ်သက်သော စကားများကို လည်း အခါအားလျော်စွာ ဟောကြားတော်မူ၏။ ဤဉ္ဈ သက္ကာယဒိဋ္ဌိ၊ အတ္တဒိဋ္ဌိ အချက်နှင့် ပတ်သက်၍ ကျေးဇူးရှင် လယ်တီဆရာတော်ဘုရားကြီး ဟောကြားအပ်သော အနတ္တ တရားတော်ကို ကြားနာကြရလျှင် ပို၍ အကျိုးရှိမည် ထင်ပါ သည်။ သို့ကြောင့် ကျေးဇူးရှင် လယ်တီဆရာတော်ဘုရားကြီးက အနတ္တအချက်ကို ကွက်ကနဲ၊ ထင်းကနဲ၊ လင်းကနဲ မြင်အောင် ဟောကြားတော်မူသည်ကား—

အတ္တ-ဟူသောစကား၏ အနက်များကို ရှေးဦးစွာ သိထိုက်၏။ အတ္တ ဆိုသည်ကား-သတ္တဝါ အနှစ်အသား ဟု ဆိုလိုသည်။

အနှစ်သသား ဆိုသည်ကား မြေအိုး ဟူသောစကား ၌ မြေသည် အိုး၏ အနှစ်အသား ဖြစ်၏။ အိုး၏ အနှစ် အသားဆိုသည်ကား အိုးဟူသောစကားသည် သဏ္ဌာန ပညတ်၏ အမည်တည်း။ မြေ၏အမည် မဟုတ်။ သဏ္ဌာန ပညတ်၏ အမည်တည်း။ မြေ၏အမည် မဟုတ်၊ သဏ္ဌာန ပညတ်သည်လည်း ပရမတ္ထတရားကဲ့သို့ ခေတ်နှစ်ခေတ် သာ ရှိသည်မဟုတ်၊ မြေသာလျှင် ပရမတ္ထဖြစ်၍ ခေတ်နှစ်ခေတ်သာ ရှိ၏။

လောက၌ "အိုးဟူ၍ ရှိ၏လော" ဟု ဆိုခဲ့သော် ပရမတ်နှင့် ပညတ် ခြားနားမှုကို မသိသော သူတို့က "အိုးဟူ၍ ရှိ၏" ဟု ပြောကြားကုန်လတံ့။ "အိုးဟူ၍ ရှိ၏" ဟု ဆိုလျှင် "ထိုအိုးကို ပြစမ်းပါ" ဟု မေးရာ၏။

ထိုအခါ အနီး၌ရှိသော အိုးကို လက်ညှိုးထိုး၍ "ဤသည်ကား အိုးမဟုတ်လော" ဟုပြကုန်လသံ့။

ထိုသို့ပြခြင်းသည် အိုးမဟုတ်သောမြေကို "အိုး" ဟု စွပ်စွဲခြင်း ဖြစ်၏။ အစွပ်စွဲ **မှား၏။** **မှားပုံကား**- မြေဟူသည် ပညတ်မျိုးဖြစ်၍ အနှစ်အသား မရှိ၊ ကောင်းကင်ကဲ့သို့ အချည်းနှီးတည်း။

မြေကို အိုးဟူ၍ စွပ်စွဲခြင်းသည် မြေကို အိုး၏ အတ္တပြုခြင်း ဖြစ်၏။ အနှစ်အသား ရှိသော မြေကို အနှစ်အသားမရှိသော အိုး၏ အထည်ခံ၊အမာခံ၊အနှစ် အသား ပြုခြင်း ဖြစ်၏။ ထိုအခါ မရှိသော အိုးသည် ရှိသောအိုး ဖြစ်လေ၏။မြေသည် အိုး၏အတ္တ ဖြစ်လေ၏။ အတ္တ ဖြစ်ခဲ့သော် "မြေသည်ပင် အိုး၊အိုသည်ပင်လျှင် မြေ ဟူ၍ မြေနှင့်အိုး တခုတည်း ဖြစ်လေ၏။ ဤသို့ ဖြစ်သည်ကို စွပ်စွဲမှားခြင်း (ဒိဋ္ဌိ)ဆိုသတည်း။

**၂ ပရမတ်နှင့် ပညတ်ခွဲပုံ။** ။မြေအိုးဟူသောစကား၌ မြေကား တခြား၊ အိုကား တခြား။ မြေသည် ပရမတ်၊ အတ္တမျိုးတည်း။ ထို့ကြောင့် မြေသည် အိုးမဟုတ်၊ အိုးသည်မြေမဟုတ်။ မြေကို အိုးဟုဆိုလျှင် မှား၏။ အိုးကို မြေဟုဆိုလျှင် မှား၏။ မြေသည် အိုး၏ အတ္တ မဟုတ်ပြီ။ အနတ္တ ဖြစ်လေ၏။ အိုးသည်လည်း သဏ္ဌာန ပညတ်မျှဖြစ်၍ ကောင်းကင်ပညတ်ကဲ့သို့ အချည်းနှီးသာ ထင်ရှားသတည်း။

ထို့ကြောင့် ခန္ဓာငါးပါး ရုပ်နာမ်တရားသည် တခြား၊ ပုဂ္ဂိုလ် သတ္တဝါသည် တခြား၊ ခန္ဓာငါးပါး၊ ရုပ်နာမ်တရားသည် ပရမတ်မျိုး၊ ပုဂ္ဂိုလ်သတ္တဝါကား သဏ္ဌာနပညတ် သန္တတိပညတ်မျိုးတည်း။

ထို့ကြောင့်-

- ရုပ်တရား၊ နာမ်တရားသည် ပုဂ္ဂိုလ်သတ္တဝါ မဟုတ်။
- ပုဂ္ဂိုလ်သတ္တဝါသည် ရုပ်တရား၊ နာမ်တရား မဟုတ်။
- ရုပ်တရား၊ နာမ်တရားကို ပုဂ္ဂိုလ်၊ သတ္တဝါ ဟုဆိုလျှင် မှား၏။
- ပုဂ္ဂိုလ် သတ္တဝါကို ရုပ်တရား၊ နာမ်တရားဟု ဆိုလျှင် မှား၏။

ဤသို့ မြင်နိုင်မှုကား ရုပ်တရား၊ နာမ်တရားသည် ပုဂ္ဂိုလ်သတ္တဝါ၏ အတ္တ မဟုတ်ပြီ။ အနတ္တ ဖြစ်လေ၏။ ပုဂ္ဂိုလ်သတ္တဝါသည်လည်း သဏ္ဌာနပညတ်၊သန္တတိပညတ် မျှဖြစ်၍ အချည်းနှီးထင်ရှားလေ၏။

ဤကား အတ္တနှင့် အနတ္တတို့ကို ဥပမာ၊ ဥပမေယျနှင့် မြန်မာဆန်ဆန် လယ်တီဆရာတော်ဘုရား၏ ရှင်းပြချက် ဖြစ်၏။ အတ္တစစ်ကို ခွဲထုတ်လိုက်လျှင် အနတ္တ အလိုလိုကွယ်လေ၏။

---

၁။ လယ်တီ-ဝိပဿနာဒီပနီ။ ၅၂-၅၃ (ဒီပနီပေါင်းချုပ်ဆဋ္ဌမူ)

## မျက်စိ၊ နား၊ နှာ၊ လျှာ၊ ကိုယ်၊ မနောဟာ ငါလား

မျက်စိဟူ၍ ရှိ၏။ နားဟူ၍ ရှိ၏။ နှာခေါင်း၊ လျှာ၊ ကိုယ်၊ စိတ်ဟူ၍ ရှိ၏။ မျက်စိ၊ နား၊ လျှာ၊ ကိုယ်၊ စိတ် ဟူသော ဤခြောက်ပါးတို့သည် အတွင်းသို့ ရိက္ခာများသွင်းရာ တံခါးပေါက်များနှင့် တူသောကြောင့် ဒွါရ မည်ကုန်၏။

(၁) မျက်စိတံခါး (စက္ခုဒွါရ)
(၂) နားတံခါး (သောတဒွါရ)
(၃) နှာခေါင်းတံခါး (ဃာနဒွါရ)
(၄) ကိုယ်တံခါး (ကာယဒွါရ)
(၅) စိတ်တံခါး (မနောဒွါရ)

လူတိုင်းလူတိုင်းမှာ ဤတံခါး ခြောက်ပေါက်ရှိ၏။ အပြင်အပ အာရုံတို့သည် ထိုတံခါးခြောက်ပေါက် တို့မှ အတွင်းသို့ ဝင်လာကုန်၏။ ဝင်လာသမျှသော ထိုထိုအာရုံတို့သည် ဝင်ရာသာထင်ပြီး ထွက်ရာ မထင်ကုန်။

ယင်းတံခါးခြောက်ပေါက်တို့အနက် မျက်စိတံခါးမှ အဆင်းသဏ္ဍာန် ရူပါရုံအမျိုးမျိုးတို့ ထိုးဝင်ကုန်၏။ လှလှ၊ ချောချော၊ ရှုမောစရာအာရုံတို့လည်း ဝင်ကုန်၏။ အရုပ်ဆိုး၊ အကြည်းတန်အာရုံတို့လည်း ဝင်ကုန်၏။ ရူပါရုံမှန်သမျှ အခြား တံခါးပေါက်မှ လမ်းမှား၍ ဝင်လေ့မရှိ၊ လမ်းမှားသည်ဟူ၍ မရှိ။ ကောင်းသော ရူပါရုံဖြစ်စေ၊ မကောင်းသော ရူပါရုံဖြစ်စေ၊ ရူပါရုံမှန်သမျှ မျက်စိတံခါးပေါက်ကသာ တသုတ်ပြီးတသုတ် တဖြုတ်ဖြုတ် ဝင်ကုန်၏။

ထို့အတူ နားတံခါးပေါက်မှ သဒ္ဒါရုံခေါ်သော ပြောသံ၊ ဆိုသံ၊ငိုသံ၊ရယ်သံ၊ခြိမ်းခြောက်သံ၊ကြုံးဝါးသံ၊ဆဲသံ၊သီချင်းသံ၊ လေတိုက်သံ၊ မိုးချုန်းသံတို့ ဝင်ကုန်၏။ ထိုထို အသံဟူသမျှတို့ သည် လမ်းမှားသည်ဟူ၍ မရှိ။ နားတံခါးပေါက်မှ ဘည့်တည့် ကြီး ဝင်ကုန်လေ၏။

ထို့အတူ ကောင်းသောအနံ့ ဖြစ်စေ၊ ဆိုးသောအနံ့ ဖြစ်စေ၊ အမွှေးနံ့ ဖြစ်စေ၊ အပုပ်နံ့ ဖြစ်စေ၊ ရနံ့ ဟူသမျှတို့သည် နှာခေါင်းတံခါးပေါက်မှ ဝင်ကုန်၏။ ချိုချဉ်စပ်ခါး စသော ရသာရုံ မျိုးစုံတို့ကား လျှာတံခါးပေါက်မှ ဝင်ကုန်၏။ အိစက် ညက်ညော၊ မာကျောကျောနှင့် ပူပူနွေးနွေး၊ အေးအေးမြမြ ဟူသော အတွေ့အာရုံတို့သည် ကိုယ်တံခါးပေါက်မှ ဝင်ကုန်၏။ အကြံအစည်၊ စိတ်ကူးစိတ်သန်း အတွေးအာရုံ ဟူသမျှတို့ကား စိတ်အာရုံမှ ဝင်ကုန်၏။

သူသူငါငါ၊ ကျား၊ မ မရွေး သတ္တဝါတိုင်း သတ္တဝါတိုင်း ဤအတိုင်းချည်းဖြစ်၏။မိမိမျက်စိလည်လမ်းမှား၍ တံခါးပေါက် လွဲ၍ ဝင်သော အာရုံဟူ၍ မရှိ။ အာရုံ ခြောက်ပါးတို့သည် သူ့တံခါးနှင့်သူ တည့်မတ်၊ ဖြောင့်တန်းစွာ အမှားအယွင်း မရှိ ဝင်ကုန်၏။

ဤတွင် ပုထုဇဉ်လူသားက ကြားဝင် ခေါးစခံလေ၏။ လှည်းကျိုးကို ဝင်၍ ထမ်းလေ၏။ ခေါးစခံပုံ၊ လှည်းကျိုးကို ဝင်၍ထမ်းပုံကား ဤသို့ ဖြစ်သတည်း။

သူ့ဖာသာသူ ဖြစ်တည်နေသော တံခါး ခြောက်ပေါက်ကို ပုထုဇဉ်လူသားက "ငါ"ဟု အတ္တစွဲလျက် ငါ့မျက်စိ၊ငါ့နား၊ငါ့

နှာခေါင်း၊ ငါ့လျှာ၊ ငါ့ကိုယ်၊ ငါ့စိတ်- ဟူ၍ ပြောင်ပြောင် တင်းတင်းကြီး အတင့်ရဲစွာ စွပ်စွဲလေ၏။

သို့ကြောင့် ချောချောလှလှ ကိုဝဏ္ဏ၊ မယ်ရူပတို့ကိုဘဲဖြစ်ဖြစ်၊ အကြည်းတန်သော ကိုရုပ်ဆိုး၊ မယ်ရုပ်ဆိုး တို့ကိုဘဲ ဖြစ်ဖြစ်၊ မျက်စိတံခါးပေါက်မှ တသုတ်ပြီးတသုတ်၊ တဖြုတ်ဖြုတ် ဝင်လာသမျှကို ငါမြင်သည်၊ ငါမြင်သည် ဟူ၍ မျက်စိ၌ ပြင်းထန်စွာ အတ္တစွဲ စွဲလေ၏။

ယင်းအချက်နှင့်ပတ်သက်၍ အခါတပါးတွင် ဗုဒ္ဓမြတ်ဘုရားသည် မာဂဏ္ဍိယအမည်ရှိသော ပရိဗိုဇ်အား ဟောကြားတော်မူဘူးပေသည်။

ဟောတော်မူပုံမှာ-

စက္ခုခေါ မာဂဏ္ဍိယ ရူပါရာမံ
ရူပရတံ၊ ရူပသမ္မုဒိတံ။[၁]

မာဂဏ္ဍိယ-မာဂဏ္ဍိ အမည်သော ပရိဗိုဇ်ရဟန်း၊ စက္ခုံ-မျက်စိသည်၊ ခေါ-စင်စစ်၊ ရူပါရာမံ-အဆင်းအမျိုးမျိုးလျှင် မွေ့လျော်ရာရှိ၏။ ရူပရတံ-အဆင်းအမျိုးမျိုး၌ မွေ့လျော်တတ်၊ ခုံမင်နှစ်သက်၊ မခွါရက်အောင် စွဲမက်နေ၏။ ရူပသမ္မုဒိတံ- အဆင်းအမျိုးမျိုး၌ ပျော်မြူးတတ်၏။

ဤသို့လျှင် ပုထုဇဉ်သည် ငါမဟုတ်သော၊ ငါနှင့် မည်သို့မျှ ပတ်သက်ခြင်း အလျင်းမရှိသော မျက်စိကို "ငါ့မျက်စိ" ဟု အတ္တပြုလျက်- "ငါမြင်သည်၊ ငါမြင်သည်" ဟူ၍ မှားယွင်းစွာစွဲမှတ်၍

---

၁၊ ပဏ္ဏာသ ပါဠိတော်။ မာဂဏ္ဍိယသုတ်—၁၇၁၊

ကြေးကြော်လေ၏။ ထို့အတူ နား၊ နှာခေါင်း စသည်တို့ကို "ငါ့နား၊ ငါ့နှာခေါင်း"ဟူ၍ အတ္တပြုလေ၏။

အသံကြားလျှင် ငါကြားသည်၊ ငါကြားသည် ဟူ၍ငင်း၊
အနံ့ရလျှင် ငါနံသည်၊ ငါနံသည် ဟူ၍ငင်း၊
အရသာတွေ့လျှင် ငါစားသည်၊ ငါစားသည် ဟူ၍ငင်း၊
ကိုယ်၌ ပူအေး၊ ညောင်းညာ၊ ကိုက်ခဲ၊ ထုံကျင်ခြင်းဖြစ်လျှင် ငါအေး၊ ငါပူ၊ ငါညောင်း၊ ငါကျင် ဟူ၍ငင်း၊
တခုခုအကြံရလျှင် ငါတွေးသည်၊ငါစဉ်းစားသည် ဟူ၍ငင်း ပြောင်ပြောင်းတင်းတင်းကြီး အတ္တစွဲ စွဲ၍ ဆိုလေ၏။

ထို့ကြောင့် ငါ၊ ငါဟူသော အတ္တသည် ပုထုဇဉ်၏သန္တာန်၌ မူလီနှင့်စုပ်ထားသည်ထက်ပင် မြဲနေ၏။ ငါသွား၊ငါစား၊ငါချစ်၊ ငါမုန်း စသည်စသည်ဖြင့် ပုထုဇဉ်ကို ငါတလုံးက ဦးဆောင် နေချေ၏။

စင်စစ်အားဖြင့် ဆိုခဲ့ပြီးသော မျက်စိတံခါး၊ နားတံခါး စသော တံခါးခြောက်ပေါက်တို့သည် ငါနှင့် အခြားစီဖြစ်ကုန် ၏။ မျက်စိတံခါးပေါက်က တခြား၊ ငါက တခြား။ မျက်စိ တံခါးပေါက်သည် ပရမတ်မျိုး၊ ငါကား ပညတ်မျိုး ဖြစ်၏။ လယ်တီဆရာတော်ဘုရား ပြဆိုသော ဥပမာအတိုင်းပင် မြေအိုး ဆိုရာ၌ မြေသည် အိုးမဟုတ်၊ အိုးသည် မြေမဟုတ်။မြေကို အိုးဆို လျှင် မှား၏။အိုးကို မြေဆိုလျှင် မှား၏ ဆိုသကဲ့သို့ ဤ၌လည်း မျက်စိတခြား၊ ငါတခြား ဖြစ်ပါလျက် မျက်စိကို ငါဆိုလျှင် မှားသည်။ ငါကို မျက်စိဆိုလျှင် မှားသတည်း။ ထို့အတူ နား၊ နှာ၊ လျှာ၊ ကိုယ်၊ မနောကို ငါဆိုလျှင် မှားသတည်း။ ငါကို နား၊ နှာ၊ လျှာ၊ ကိုယ်၊ မနော ဆိုလျှင် မှားသတည်း။

မျက်စိထဲမှာ ငါကိုရှာ၍မတွေ့။ ငါထဲမှာ မျက်စိမရှိ။ ထို့အတူ နားထဲမှာ၊ နှာခေါင်းထဲမှာ၊ လျှာထဲမှာ၊ ကိုယ်ထဲမှာ ငါမရှိ။ ငါထဲမှာလည်း နားမရှိ၊ နှာခေါင်း မရှိ။ ငါ တခြား၊ မျက်စိ တခြား၊ နားတခြား၊ ငါတခြား။ ငါကား ပညတ်မျိုး၊ မျက်စိ သည်ကား ပရမတ်မျိုး ဖြစ်သည်။

သတ္တုချလိုက်သော် အနှစ်သာရအားဖြင့် ပရမတ်မျိုးသည် သာ အတ္တ။ ငါ၊ သူတပါး၊ ယောကျ်ား၊ မိန်းမ စသည်တို့ကား ဘာတခုကိုမျှ မယ်မယ်ရရ ချပြစရာ မရှိသောကြောင့် အနတ္တ ဖြစ်၏။

အတ္တကို မိမိစိတ်ထဲက ကြေကြေညက်ညက်၊ အနှစ်အသား ကျကျ ပျောက်အောင် ဖျောက်လျှင် အနတ္တပေါက်လေ၏။ အနတ္တ ပေါက်သည်နှင့် တပြိုင်နက် မိမိသန္တာန်၌ ပွေးဝဲစွဲသလို စွဲတည်နေသော သက္ကာယဒိဋ္ဌိ ကွာသည်ကိုပင် သောတာပန်ဟု ဆိုသည် မဟုတ်ပါလော။

## ဤလူသားနှင့် ငါ ၃ ငါ

သို့သော် အငိုလွယ်လျက် အရှိုက်ခက်၏ ဆိုသကဲ့သို့ အပြော လွယ်လျက် လက်တွေ့ကျကျ အလုပ် လုပ်ကြည့်သောအခါတွင် မလွယ်လှ။ အတ္တပျောက်၍ အနတ္တပေါက်အောင် သက္ကာယကို ခွါလေသောအခါ လူသား၏ ခံတပ်ကြီးသဖွယ် ငါ ၃-ငါက ရှေ့က ကန့်လန့်ကြီး ခံလာသည်။

(၁) အတ္တ - ငါ
(၂) အဟံ - ငါ
(၃) မမ - ငါ

အဘယ်မျှအစွမ်းကောင်းသည် ဆိုသော်ငြားလည်း ပုထုဇဉ်လူသားသည် ဤ ငါ ၃-ငါကို ကျော်လွှားနိုင်ရန်အတွက် အခက်အခဲနှင့် ရင်ဆိုင်ရလေ၏။

ယင်း ငါ ၃-ငါအနက် အတ္တငါကား **ဒိဋ္ဌိငါ** ဖြစ်၏။ ငါ ငါဟူ၍ တငါငါ စွဲလမ်းနေမှုကို အတ္တငါ၊ ဒိဋ္ဌိ ငါဟု ဆိုသည်။ ငါသွားသည်၊ ငါလာသည်၊ ငါပြောသည်၊ ငါဆိုသည်၊ ငါနေသည်၊ ငါထိုင်သည်၊ ငါချစ်သည်၊ငါမုန်းသည်ဟူ၍ အတ္တစွဲ၊ငါစွဲ **စွဲနေခြင်းမျိုး** ဖြစ်လေသည်။ "ဟောသည်ဟာ ငါဟူ၍ ထောက်ပြစရာ မယ်မယ်ရရ ဘာမျှမရှိပါဘဲလျက် အခြောက်တိုက် ဘဝင်မြင့်၍ တငါငါ စွဲလမ်းနေမှုမျိုးကို **ဒိဋ္ဌိငါ**ဟု ဆိုသည်။

အဟံ ငါကား **မာနငါ**တည်း။ ငါဆိုမှ ငါ၊ ထောင်လွှားချင်သော ငါ၊ ဝင့်ဝါချင်သော ငါ၊ ဆောင့်ကြွားကြွား ငါ၊ ငါလိုလူ ဇမ္ဗူမှာ ရှိရိုးလားဟူ၍ ရင် တကော့ကော့၊ လက်မ တထောင်ထောင်၊ ခြေဖျား တထောက်ထောက်နှင့် မောက်မာသော ငါသည် အဟံငါ ဖြစ်လေသည်။ထို အဟံ ငါဖြင့် အခြားသူများအား အထင်သေးလေ၏။မိမိနှင့် အဖက်မတန်၊ဖုတ်လေသည့်ငါးပိ၊ ရှိသည်ဟူ၍ပင် မအောက်မေ့ ဖြစ်လေ၏။ ငါနှင့်ငါသာ နိုင်းစရာဟု ပတ်ဝန်းကျင်ကို အထင်သေးသောငါ ဖြစ်၏။

မမ ငါကား **တဏှာငါ**တည်း။ကိုယ့်ဗိုက်အောက်ကိုယ် ယက်သော လိပ်မျိုးငါတည်း။ သက်ရှိ၊ သက်မဲ့အားလုံးကို သိမ်းပိုက်ထားသော ရင်ခွင်ပိုက်ငါ ဖြစ်၏။ သည်ဟာ ငါ့လင်၊ ငါ့သား၊ ငါ့မယား။ ဟောသည်ဟာက ငါ့ရွှေ၊ ငါ့ငွေ၊ ငါ့တိုက်၊ ငါ့အိမ်၊
၄ ငါ့ဝင်း၊ ငါ့ခြံ၊ ငါ့မော်တော်ကားဟူ၍ ဇနီးမယား၊ သမီးသား

နှင့် စီးပွားဥစ္စာတို့အပေါ်၌ လောဘရမက်လျှမ်းလျှမ်း**ထက်သော** ငါသည် တဏှာ ငါ ဖြစ်လေသည်။ ငါ့ဟာ၊ ငါ့ဥစ္စာဟူ၍ စွဲလမ်းမှုမျိုး ဖြစ်သည်။

ဥပမာအားဖြင့် ဤ ငါ ၃ ငါ ကား ဒုံးပျံကြီးနှင့် တူ၏။ ပုထုဇဉ်လူသားအား ဒုံးပျံစီးသူနှင့် အလားတူ၏။ ပုထုဇဉ်လူသားသည် ငါတည်းဟူသော ဒုံးပျံကြီးကို စီးလျက် မရပ်မနား သံသရာကို ပတ်၍ ပြေးနေ၏။ သံသရာပတ် လမ်းကြောင်းကြီးပေါ်ဝယ် ငါတည်းဟူသော ဒုံးပျံကြီးကို စီးလျက် သူနိုင်၊ ငါနိုင် အပြေးပြိုင် နေကြသည်နှင့် တူ၏။ ငါစွဲ၊ အတ္တစွဲ ကျွတ်အောင် မချွတ်နိုင်ကြဘဲ လိပ်ခဲတည်းလည်းကြီး ဖြစ်နေကြကုန်သတည်း။

## သွားနေတာ ထင်ရှားပါလျက် ငါမသွားလျှင် ဘယ်သူသွားသလဲ။

ငါ တခြား၊ သွားခြင်း တခြား၊ ငါ တခြား၊ လာခြင်း တခြား ဖြစ်ပါလျက်ကို ငါသွားသည်၊ ငါလာသည်ဟူ၍ မဆိုအပ်၊ မဆိုသင့်၊ မဆိုထိုက်၊ အထင်မှား၊ အမြင်မှား၊ အမှတ်မှား၍ အမှားမှားယွင်းယွင်း ဆိုခြင်းသာ ဖြစ်သည် ဟူ၍ တိတိကျကျ ဆိုထား၏။

ယင်းသို့ ပြောချက်နှင့် ပတ်သက်၍ စောဒက တက်ပါရစေ။ ငါ၊ သူတပါး၊ ယောကျ်ား၊ မိန်းမ၊ မည်သူမည်ဝါမဆို သတ္တဝါမှန်သမျှတို့ကား ခန္ဓာငါးပါးနှင့်ပင် တလှုပ်ရှားရှား သွားလာနေကြသည်မှာ ကိုယ်တွေ့မျက်မြင် အထင်အရှားပင် ဖြစ်နေ

၏။ သို့ပါလျက် ငါမသွား၊ ငါမလာ၊ ငါမပြော၊ ငါမဆို၊ ငါမချစ်၊ ငါမမုန်းဟူ၍ အဘယ်ကြောင့် ဆိုနိုင်သနည်း။ ဤကား စောဒကတက် မေးမြန်းချက် ဖြစ်၏။

ယင်းမေးခွန်းမှာ လွန်စွာလေးနက်လှ၏။ ပညတ်နှင့်ပရမတ်ကို အဖြူအမဲ ကွဲပြားအောင် ခွဲထုတ်သောမေးခွန်း ဖြစ်၏။ အဖြေကို ဤစာရေးသူ အနေဖြင့် ဖြေဆိုခြင်းထက် ယင်းပြဿနာနှင့် ပတ်သက်၍ ကျေးဇူးရှင် လယ်တီ ဆရာတော်ဘုရားကြီး၏ အဆုံးအဖြတ်ကို ခံယူတော်မူကြပါဟု တိုက်တွန်းရင်း ဘာဝနာ ဒီပနီကျမ်းလာ ဆရာတော်ဘုရား၏ မြွက်ကြားချက်ကို အရှိအတိုင်း ဖော်ပြလိုက်ပါသည်။

(မေး)- သတ္တဝါ အများတို့သည် မိမိတို့ ခန္ဓာငါးပါးနှင့် သွားခြင်း၊ ရပ်ခြင်း အစရှိသော အမှုတို့ကို အလိုရှိတိုင်းပြု၍ နေကြသည်ကား ကိုယ်တွေ့မျက်မြင် အထင်အရှား ဖြစ်၏။

ထိုသို့ ဖြစ်ပါလျက် ခန္ဓာငါးပါးသည် ပုဂ္ဂိုလ်သွားလိုလျှင် သွား၏၊ ရပ်လိုလျှင် ရပ်၏၊ အစရှိသော အလိုလိုက်မှု မရှိဟု အဘယ့်ကြောင့် ဆိုပါသနည်းဟု စောဒကတက်ရန် ရှိ၏။

(ဖြေ)- တခုသော ခက်မာမှုသည် မချုပ်မပျက်မူ၍ "ပုဂ္ဂိုလ် သွားလိုလျှင် သွား၏၊ ရပ်လိုလျှင် ရပ်၏ အစရှိသော အလိုလိုက်မှု မရှိသည်ကို ဆိုလိုသတည်း။

လောက၌ ခန္ဓာငါးပါးနှင့်ပင် သွားခြင်း၊ ရပ်ခြင်း စသော အမှုတို့ကို အလိုရှိတိုင်းပြု၍ နေကြသည်မှာကား ခက်မာမှု

အသစ်သစ်ကို အဆက်အဆက် စီစဉ်၍ မြစ်ရေအလျဉ်ကဲ့သို့ အစဉ် သန္တတိ၏ အမှုသာတည်း။

စိတ်၌ ပုဂ္ဂိုလ် အဟုတ်ရှိ၍နေသော သူမှာသာလျှင် ပုဂ္ဂိုလ်၏ သွားခြင်း၊ ပုဂ္ဂိုလ်၏ **ရပ်ခြင်း စသည်** ရှိနေ၏။ ပုဂ္ဂိုလ်ဟူ၍ အဟုတ်မရှိ၊ ခဏ်မာမှု စသည်သာ ရှိသောသူမှာ ပုဂ္ဂိုလ်၏ သွားခြင်း၊ ပုဂ္ဂိုလ်၏ ရပ်ခြင်းသည်ပင် မရှိ။ ထိုခဏ်မာမှု စသည်သာလျှင် အလုပ်အယှက်မခံ၊ ပျက်ဆုံး၍ နေကြသော တရားကိုယ်ဖြစ်၍ လောကမျက်မြင်ဖြစ်သော သွားမှု၊ ရပ်မှုကို ပြု၍ နေနိုင်သော တရားဟူ၍ တစုံတခုမျှ မရှိ၊ သန္တတိ မျှသာ ရှိသတည်း။

ထိုသို့ သန္တတိအားဖြင့် အလိုလိုက်မှု မရှိသည်မှာလည်း "ခန္ဓာငါးပါး ရုပ်နာမ်တရားတို့၏ ပကတိသဘော မဟုတ်" မြစ်ရေကို အလိုရှိရာသို့ ဆန်တက်၍ ပါလေအောင် ပြုပြင်မှု ကဲ့သို့ လက်ပူးလက်ကြပ် ပြုပြင်၍ ယူရသော အာဂန္တုက မျှသာတည်း။

ဤသို့ မိန့်တော်မူပြီးနောက် မျက်စိထဲတွင် ကွင်းကနဲ၊ ထင်းကနဲ မြင်လာအောင် ဆရာတော်က ဥပမာခင်း၍ ပြတော်မူပြန်သည်မှာ-

ထိုစကား မှန်၏။ မွေးဖွားစ အခါကပင် မပြုမပြင်ဘဲ ပေါက်လွှတ်ထားခဲ့သော် နှစ်ရက် သုံးရက်အတွင်းမှာ သုသာန်သို့ ထုတ်၍ စွန့်ပစ်ရအံ့သည်ကား မုချ မလွဲတည်း။ ထိုအခါမှ နောက်၌ နာရီစဉ်များစွာ၊ နေ့စဉ်များစွာ၊ လစဉ်၊ နှစ်စဉ်

များစွာ တည်ရှိ၍ လာကြသည်ကား အစာအာဟာရ ထောက်ပံ့မှု အစရှိသော ပြုပြင်မှုတို့၏ အစွမ်းသက်သက် သာတည်း။

ဟုတ်သည်၊ မဟုတ်သည်ကို ဥာဏ်၌ ထင်ရှားစေလိုသော ထိုပြုပြင်မှုတို့ကို အကုန်နုတ်ပယ်၍ကြည့်။ ကိုယ်တွင်း၌ အာဟာရ အလျှင်းပြတ်သည်နှင့် တပြိုင်နက် ပိုင်းပိုင်းလဲ၍ သေဆုံးသည်ကို ဥာဏ်၌ မြင်လိမ့်မည်။ သွားလာလှုပ်ရှားမှု စသည်ကို မွေးဖွားစ ခလေးနှင့် ဥပမာခင်း၍ ရှင်းပြသွားပုံမှာ ထင်ရှားပေါ်လွင် လှ၏။ မွေးစခလေးကို ကောက်ယူပြုစုခြင်း မရှိဘဲ စွန့်ပစ် ထားချေက ထိုခလေး သေသွားလိမ့်မည်။ မသေဘဲ အသက် ရှင်၍ နေခြင်းမှာ မွေးဖွားပြီးသည့် အချိန်မှစ၍ ထိုခလေးကို အညစ်အကြေး သန့်စင်အောင် ရေချိုးခြင်း၊ အနီးဖြင့်နွေးအောင် ထွေးပိုက်ခြင်း စသော ပြုပြင်စောင့်ရှောက်မှု အဆင့်ဆင့် တို့ကြောင့်သာ အသက် ရှင်နေခြင်း ဖြစ်သည်။ ထိုအတိုင်း ဟုတ်-မဟုတ်၊ မှန်-မမှန် သိလိုက နို့မတိုက်ဘဲ အငတ်ထား ကြည့်။ မကြာမီ ထိုခလေး အသက်ထွက်သွားသည်ကို တွေ့ရ အံ့ဟု မိန့်တော်မူခြင်း ဖြစ်၏။

ဥပမာ၊ ဥပမေယျဟပ်လိုက်သော် သူသူငါငါ သတ္တဝါ များကို ခလေးနှင့် နှိုင်း၍ဆိုသည်။ မြစ်ရေအလျဉ်ကဲ့သို့ တသွင်သွင် အဆက်မပြတ် ဆက်တိုက်ဖြစ်နေသော သွားမှု၊ လာမှု၊ ရပ်မှု စသည်တို့ကို ခလေး မသေအောင် ပြုပြင် စောင့်ရှောက်မှု အဆင့်ဆင့်နှင့် နှိုင်းယှဉ်၍ ပြသည်။

မြစ်ရေပြင်ကြီးကို အမြဲစီးနေသည်ဟု ထင်ရခြင်းမှာ စီးပြီးရင်း စီးရင်း ဝါ-အောက်သို့ စီးသွားသော ရေဟောင်း နေရာတွင် အထက်က ရေသစ်များ တသွင်သွင် စီးဝင်လာခြင်း တို့ကြောင့် အဆက်မပြတ် ရေချင်းစပ် နှောမိသည်ကို အမြဲစီးသည်ဟု ထင်နေခြင်းသာ ဖြစ်၏။ စင်စစ်အားဖြင့် စီးပြီးပျက်၊ စီးပြီးပျက်လေ၏။ အမြဲတည်နေသော ရေဟူ၍ မရှိ၊ စီးနေသော ရေအလျဉ်ချင်း ဆက်မိသောကြောင့် သည်ရေ သည်ရေတွေဘဲ အမြဲစီးနေသည်ဟု ထင်ရခြင်းသာ ဖြစ်၏။

ထို့အတူ သွားရာ လာရာတို့၌လည်း လှမ်းသောခြေတို့သည် တလှမ်းပြီး တလှမ်း ချုပ်ကုန်လေ၏။ ရှေ့ခြေလှမ်းနှင့် နောက် ခြေလှမ်း ခြေလှမ်းချင်း ဆက်မိသောကြောင့်သာ တလှုပ် ရှားရှား သွားနေသည်ဟု ထင်ရ၏။ ခြေလှမ်းဟောင်းများ ချုပ်ဆုံးသွားသော နေရာတွင် ခြေလှမ်းသစ်များ အဆက်မပြတ် တလှုပ်ရှားရှား ဝင်ရောက်လာသည်ကိုပင် သွားနေသည်ဟု ထင်ရသတည်း။

ဤသည်ကို ထောက်ခြင်းအားဖြင့် သွားသည်မှာ ငါ မဟုတ်၊ ငါ မသွား၊ ငါ၌ သွားတတ်သောသတ္တိလည်း မရှိ။ ထိုငါကား ပညတ်။ ပါးစပ်ပေါက်မှ ထွက်သော လေသာတည်း။ အသံသာတည်း။ ပါးစပ်ထဲက ထွက်သွားပြီးသည့်နောက် အသံလည်း ပျောက်၊ ငါလည်း ပျောက်လေ၏။ ထိုငါ၊ ဤငါကား အဘယ်မှာလျှင် သွားနိုင်စွမ်း၊ လာနိုင်စွမ်း၊ ရပ်နိုင်စွမ်း ရှိပါမည်နည်း။

## ဒိဋ္ဌိငါ ကွာသော်လည်း သောတာပန်မှာ တဏှာနှင့်တင်းကျပ်

ဒိဋ္ဌိငါ၊ မာနငါ၊ တဏှာငါ ဤငါ ၃ ငါအနက် သောတာပန်သည် ဒိဋ္ဌိငါ တလုံး-ကို အဆုံးတိုင် ပယ်ပြီးသော်လည်း မာနငါနှင့် တဏှာငါ၊ ဤငါ ၂ လုံး ကျန်ပေသေး၏။ မာန ငါသည်လည်း တဏှာငါတင်းကျန်းနှင့် ရှိနေသေး၏။

ထို့ကြောင့် သောတာပန်သည် မာနငါ၊ တဏှာငါတို့၏ အရှိန်အဝါကြောင့် ဘဝင်မြင့်စရာရှိလျှင် ပုထုဇဉ်များကဲ့သို့ပင် မိုးမမြင်၊ လေမမြင် ဘဝင်မြင့်လေဦးအံ့။ မာန တလူလူ၊ ငါတကောကောဟူ၍ တံခွန်ထူလေဦးအံ့။ ရင်တကော့ကော့၊ လက်မတထောင်ထောင် ခြေဖျားတထောက်ထောက်နှင့် မောက်ခွင့်ကြုံလျှင် မောက်ဂုဏ် ကိုးလေဦးအံ့။

ထိုမှတပါး တဏှာငါကလည်း သူ့အခွင့်အရေးရှိသလောက် သောတာပန်ကို အမောက်ထောင် ပြပေဦးမည်။ ပုထုဇဉ်များကဲ့သို့ပင် ငါ့လင်၊ ငါ့သား၊ ငါ့မယား၊ ငါ့စီးပွားဟူ၍ လောဘအကျိုး ကမ်းနယ်ပြိုပေဦးမည်။

သို့သော် မာနကို အကြောင်းပြု၍ ဖြစ်စေ၊ တဏှာကို အကြောင်းပြု၍ဖြစ်စေ၊ အပါယ်လေးပါးသို့ လားစေနိုင်လောက်အောင်သော ဒုစရိုက်မှုမျိုးကိုကား ပါဏုပေတံ အသက်ထက်ဆုံး ရှောင်ကြဉ်၏။ အထက်၌ ဆိုခဲ့ပြီးသောအတိုင်း သောတာပန်ဘဝနှင့် ပျော်ပျော်ရွှင်ရွှင် ဘုံစဉ်စံသွားမည် ဖြစ်သတည်း။

## ၃၁ ဘုံ ထိုက်တန်သော သက္ကာယ ပတ္တမြားလုံးကြီး-၂၀

ထောင့်ငါးရာ ကိလေသာတို့အနက် သက္ကာယဒိဋ္ဌိတလုံး ကွာတာမျှဖြင့် သောတာပန် ဖြစ်၏။

သို့သော် ထိုသက္ကာယဒိဋ္ဌိကား တလုံးတည်း ဖြစ်သော်ငြားလည်း လွန်စွာအားကောင်းလှ၏။ ဒိဋ္ဌိကို ဖြိုလေတိုင်း ခါခြင်ကောင် မာန်ကြီးလို့ တောင်ကြီးကိုတဲ့ ဖြိုမည့်ကြံ ခါးကမသန် ဆိုသကဲ့သို့ နောက်သို့ ပက်လက်လန်၍ ကျကြသည်ကများ၏။

ပတ္တမြားဆန်ကျိုး၊ အဘိုးပြည်တန်ဟု ဆိုရိုးစကား ရှိ၏။ သက္ကာယသည် ဆန်ကျိုးပတ္တမြားမျိုး မဟုတ်။ လုံးဝန်း၍ အရည်လဲ့နေသော ပြည်တန်ပတ္တမြားကြီး ဖြစ်၏။ တဖန် ပတ္တမြားမှန်လျှင် ညွန်မှာနစ်စေတော့ ဟု ဆိုပြန်၏။ ညွန်အိုင် ဗွက်ထဲတွင် မည်မျှပင် နစ်မြုပ်နေစေကာမူ အရောင်မညစ် ဟု ပတ္တမြား၏ ရောင်ပုဒ်ကို ထုတ်ဖော်၍ ပြဆိုခြင်း ဖြစ်၏။

တွင်းထွက်ပတ္တမြား မှန်လျှင် လူတိုင်း လိုချင်ကြ၏။တပ်မက်ကြ၏။ လောဘရမက် လျှမ်းလျှမ်းတက်ကြ၏။ မလိုချင်သူ၊ မစုံမက်သူဟူ၍ မရှိ။

သက္ကာယဒိဋ္ဌိသည် သံသရာတွင်းထွက် ပတ္တမြားကြီးတည်း။ ပုထုဇဉ်တိုင်းသည် ထို သက္ကာယဒိဋ္ဌိကို မက်ကြ၏။ ထို့ကြောင့် နွားကုပ်လက်ကိုင် မလွှတ်နိုင်ကြဘဲ သူသူငါငါ ထို သက္ကာယ ပတ္တမြားကြီးကို ဆုပ်ကိုင်ထားကြလေရကား သူရော ငါပါ ပတ္တမြားသူဌေးကြီးချည်း ဖြစ်ကုန်၏။

ထိုသက္ကာယ ပတ္တမြားလုံးကြီးသည် လွန်စွာ တန်ခိုးကြီး၏။ ၎င်းကို ဆောင်ထားသောသူတိုင်း မြေကိုလျှို၍ အဝီစိသို့လည်း တိုးလျှိုပေါက် ရောက်နိုင်၏။ မိုးကိုပျံလျက် လူ့ပြည်နှင့် နတ်ရပ်ကို ထုတ်ချင်းခတ် ကူးသန်းနိုင်၏။ အမြင့်ဆုံးဖြစ်သော အကနိဋ္ဌဗြဟ္မာ့ဘုံကြီးကိုပင် ဂျမ်းထိုးမှောက်ခုန် ပြုကာ ထင်သလို ချယ်လှယ်နိုင်၏။ တိရစ္ဆာန်ဘုံဆိုသည်မှာကား ရေအိုးနှင့် ရေမှုတ်အလားတည်း။ သက္ကာယတန်ခိုးကြောင့် ဘဝမျိုးစုံတွင် အကောင်မျိုးစုံဖြစ်၍ ကျင်လည်နိုင်၏။ လူတွင်လည်း လူအမျိုးမျိုး၊နတ်တွင်လည်း နတ်အမျိုးမျိုး၊ ဗြဟ္မာတွင်လည်း ဗြဟ္မာအမျိုးမျိုး ဖြစ်ပြီး ချစ်ရခင်ရ၊ကြင်နာရ၊တွယ်တာမြတ်နိုးရသည်မှာလည်း သူ့ကြောင့်ပင်။ အချင်းချင်း မုန်းရ၊ တီးရ၊ ရှုံ့ရှာရ၊စက်ဆုတ်ရ၊ တယောက်မျက်နှာကိုတယောက် မကြည့်နိုင်လောက်အောင် အမုန်းကြီးမုန်းကြရသည်။ ဤသည်မှာလည်း သူ့ကြောင့်ပင်။ကမ္ဘာကျော် သန်းကြွယ်သူဌေးကြီးများ၊ကမ္ဘာကျော် မြေဗိုလ်ကြီးများ၊ကမ္ဘာကျော် လူသတ်ကောင်ကြီးများ ဖြစ်ကြသည်မှာလည်း သူ့ကြောင့်ပင်တည်း။ ထို့ကြောင့် သက္ကာယကို ၃၁-ဘုံ ထိုက်တန်သော ပတ္တမြားလုံးကြီးဟု ဆိုအပ်သည်။

လူတိုင်းလူတိုင်းသည် ခန္ဓာငါးပါး အစုအဝေးချည်းသာ ဖြစ်၏။ခန္ဓာငါးရပ် စပ်ထားသည့် စပ်တုံးကြီးကို လူဟု သမုတ်ထားကြ၏။ထို့ကြောင့် ရုပ်၊ဝေဒနာ၊သညာ၊ သင်္ခါရ၊ ဝိညာဏ်ဟု ဆိုအပ်သော ခန္ဓာငါးပါးတို့သည် လူ့အဖွဲ့အစည်းအတွက် သူမပါလျှင် မပြီးသော အသုံးဝင်ပစ္စည်းများ ဖြစ်ကုန်၏။

သက္ကာယဒိဋ္ဌိသည် ခန္ဓာတပါးတပါး၌ ၄ မျိုးစီ ကပ်၍ ပါလာ၏။ ရုပ်(ရူပက္ခန္ဓာ)ထဲမှာ သက္ကာယ ၄ လုံး၊ ဝေဒနာ (ဝေဒနာက္ခန္ဓာ)ထဲမှာ သက္ကာယ ၄ လုံး၊ သညာ(သညက္ခန္ဓာ) ထဲမှာ သက္ကာယ ၄ လုံး၊သင်္ခါရ(သင်္ခါရက္ခန္ဓာ)ထဲမှာ သက္ကာယ ၄ လုံး၊ဝိညာဏ်(ဝိညာဏက္ခန္ဓာ)ထဲမှာ သက္ကာယ ၄ လုံး၊ဤသို့ အားဖြင့် ခန္ဓာငါးပါး၌ သက္ကာယပတ္တမြား အလုံးပေါင်း (၂၀)ရှိသတည်း။

(ရုပ်) (၁) ရုပ်သည် - ငါ။
(၂) ငါသည် - ရုပ်။
(၃) ရုပ်ထဲမှာ - ငါရှိသည်။
(၄) ငါထဲမှာ - ရုပ်ရှိသည်။

ဤကား ရုပ်၌စွဲသော သက္ကာယ ၄ ချက် ဖြစ်၏။ ဝမ်းနှင့် လေ မကွဲသကဲ့သို့ ရုပ်နှင့်ငါ မကွဲဘဲ ရုပ်သည်ပင်လျှင် ငါ၊ ငါသည်ပင်လျှင် ရုပ်ဟူ၍ ရုပ်နှင့်ငါကို တန်းတူထားကာ အချက် ၄ ချက်ဖြင့် ရုပ်ကို ငါဟု ထင်မှား၊မြင်မှား၊ မှတ်မှား၊ ယုံမှားလေ၏။

ဥပမာ- နတ်ပွဲတခု ရှိလေ၏။ နတ်ကတော်ကို နတ်ဝင်၍ ပူးလေသတတ်။ပူးနေခြင်ချပ်ချိမ်းဟု ဆိုင်းက တီးပေးလိုက်သော အခါ နတ်ကတော်သည် ဒရိုးဒရိုင် ကလေ၏။ဤတွင် ပွဲကြည့် နေသူများက "နတ်ကနေသည်"ဟု ထင်ကြ၏။စင်စစ် ကနေသူ

မှာ နတ်မဟုတ်၊ နတ်ကတော်သာ ဖြစ်လေသည်။ သို့သော် နတ်ကတော်၏ ကိုယ်ထဲမှာ နတ်ရှိနေသည်၊ နတ်ဝင်နေသည်ဟု ထင်ရ၏။ထင်ကြ၏။မမြင်ရသော နတ်၊ မထင်မရှိသော နတ်ကို အမြင် အထင် အရှိလုပ်၍ "နတ်ကသည်"ဟု စွဲမှတ် ယုံကြည်ကုန်လေသတည်း။

ထို့အတူပင် ရုပ်သည် ငါ၊ငါသည် ရုပ်၊ ရုပ်ထဲမှာ ငါရှိ၏၊ ငါထဲမှာ ရုပ်ရှိ၏ဟူ၍ စွဲမှတ်ယုံကြည်ခြင်းမှာလည်း မမြင်ရသော ငါ၊ မထင်မရှိသောငါကို ရုပ်ထဲသွင်း၍ ငါသွားသည်၊ ငါလာသည်၊ ငါပြောသည်၊ ငါဆိုသည်၊ ငါမြင်သည် ဤသို့စသည်ဖြင့် ထင်မှား၊ မြင်မှား၊မှတ်မှား၊ယုံမှားခြင်း ဖြစ်ကြကုန်သတည်း။

ထို့ကြောင့် ဗုဒ္ဓသည် ရူပက္ခန္ဓာ-ရုပ်၌ သက္ကာယ ၄ ချက် စွဲထင်ကြောင်းကို-

(၁) ရူပံ အတ္တတော သမနုပဿတိ။
(၂) ရူပဝန္တံ ဝါ အတ္တာနံ၊
(၃) အတ္တနိ ဝါ ရူပံ၊
(၄) ရူပသ္မိံ ဝါ အတ္တာနံ၊

ဟူ၍ ဓမ္မသင်္ဂဏီပါဠိတော်ကြီး၌ ဟောတော်မူ၏။ အနက်ကား- ရူပံ-ရုပ်ကို၊အတ္တတော-ကိုယ်ဟူ၍၊ သမနုပဿတိ-စွဲမြဲထင်မြင်၏။ အတ္တာနံဝါ - ကိုယ်ကိုမူလည်း၊ ရူပဝန္တံ - ရုပ်ရှိ၏ ဟူ၍၊ သမနုပဿတိ-စွဲမြဲထင်မြင်၏၊ အတ္တာနိဝါ-ကိုယ်၌မူလည်း၊ ရူပံ-

ရုပ်ကို၊ သမနုပဿတိ-စွဲမြဲထင်မြင်၏။ ရူပသ္မိံ ဝါ-ရုပ်၌မူလည်း၊ အတ္တာနံ-ကိုယ်ကို၊သမနုပဿတိ-စွဲမြဲထင်မြင်၏။

(ဝေဒနာ) (၁) ဝေဒနာသည် - ငါ။
(၂) ငါသည် - ဝေဒနာ။
(၃) ဝေဒနာထဲမှာ - ငါရှိ၏။
(၄) ငါထဲမှာ - ဝေဒနာရှိ၏။

ဤသို့လျှင် ဝေဒနာ၌လည်း သက္ကာယ ၄ ချက်စွဲမြဲ ထင်လေ၏။ထင်ရှားရှိနေသည်မှာ ဝေဒနာ။ငါကား ထင်ရှားလည်း မရှိ၊အရိပ်အယောင်မျှလည်း မရှိ။ သို့မရှိပါဘဲလျက် မရှိသော ငါကို ရှိသောဝေဒနာ တင်စား၍ ငါနာသည်၊ ငါရောင်သည်၊ ငါကိုက်ခဲသည်၊ ငါထုံကျင်သည်ဟူ၍ ယုံမှတ်စွဲလမ်းလေ၏။

(သညာ) (၁) သညာသည် - ငါ။
(၂) ငါသည် - သညာ။
(၃) သညာထဲမှာ - ငါရှိ၏။
(၄) ငါထဲမှာ - သညာရှိ၏။

ဤသို့ သက္ကာယ ၄ ချက် စွဲမြဲထင်မြင်လေ၏။ ဤအစွဲများ ကြောင့် သံသရာထဲမှ မထွက်နိုင်ကြဘဲ ဖြစ်နေ၏။

(သင်္ခါရ) (၁) သင်္ခါရသည် - ငါ။
(၂) ငါသည် - သင်္ခါရ။
(၃) သင်္ခါရထဲမှာ - ငါရှိ၏။
(၄) ငါထဲမှာ - သင်္ခါရရှိ၏။

မည်သည့်အရာမျှ အရှည်စွဲ၍ တည်မြဲသည် မရှိ။ ဝယမ္မ-ပျက်ခြင်းသဘောအရ တသွက်သွက် ပျက်လေ၏။ အဟောင်းကို စွန့်ပစ်၍ အသစ်အသစ်တွေ ဖြစ်ပေါ်လာသည်ကို သင်္ခါရ ခေါ်၏။သင်္ခါရ၌လည်း သင္ဂဟ ၄ ချက် အတ္တစွဲ စွဲလေ၏။ မရှိသောငါကို အရှိသင်္ခါရ၌ တင်စား၍ ငါစီမံသည်၊ငါပြုပြင်သည်ဟူ၍ ငါစွဲ စွဲသတည်း။

(ဝိညာဏ်) (၁) ဝိညာဏ်သည် - ငါ။
(၂) ငါသည် - ဝိညာဏ်။
(၃) ဝိညာဏ်ထဲမှာ - ငါရှိသည်။
(၄) ငါထဲမှာ - ဝိညာဏ်ရှိ၏။

ဤသို့လျှင် မရှိငါကို အရှိဝိညာဏ်၌ တင်စား၍ ငါ သိသည်၊ ငါ နားလည်သည်ဟူ၍ သက္ကာယ ၄ ချက် ငါစွဲ စွဲသတည်း။

လောက၌ အထက်လမ်းဆရာ၊အောက်လမ်းဆရာဟူ၍ ဆရာတွေ အမျိုးမျိုး ရှိ၏။သူတို့သည် သက်ဆိုင်ရာပညာတွင် ကျွမ်းကျင်သော ဆရာများ ဖြစ်ကြ၏။ ထိုဆရာ ဤဆရာကြီးတို့သည် အဘယ်မျှ အစွမ်းလှငြားသော်လည်း စုန်းစွဲ၊ နတ်စွဲ၊ တစ္ဆေစွဲ၊ သရဲစွဲ၊ ဖုတ်စွဲ၊ ပြိတ္တာစွဲများကိုသာ အစွဲ ကျွတ်အောင် ချွတ်နိုင်ကြပေမည်။အတ္တစွဲ ကျွတ်အောင်ကား မချွတ်နိုင်ကြကုန်။

## ရုပ် ၂၈ ပါး၌ ခြယ်စီထားသော ပတ္တမြားလုံးကြီးများ

ကြောင်ရုပ်ပင်ဖြစ်စေ၊ ကြွက်သေတာသာ လိုရင်း ဖြစ်၏။ ထို့အတူ သောတာပန် ဖြစ်မှုကိစ္စ၌ သက္ကာယဒိဋ္ဌိ ကွာ၍ အတ္တစွဲ ပျောက်မှုသည် အဓိကဖြစ်၏။ အတ္တ ပျောက်လျှင် အနတ္တ ပေါက်မည်။ အနတ္တ ပေါက်လျှင် သောတာပန်ဘဝ ရောက်ပြီ ဖြစ်၏။

ထို့ကြောင့် သက္ကာယ မပျောက်၍ အတ္တစွဲ ပျောက်နည်း နိဿယည်းကို ခန္ဓာငါးပါးနှင့် ဇယားချ၍ ရှင်းပြခဲ့၏။ ခန္ဓာငါးပါးသည် ချစ်ဘွယ်၊ ခင်ဘွယ်၊ မြတ်နိုးဘွယ် မရှိ၊ စက်ဆုတ်ဘွယ် အတိသာ ဖြစ်ချေ၏ဟူ၍ ဥာဏ်၌ လိုက်လိုက်လှဲလှဲ စွဲတည်ခြင်းအားဖြင့် သောတာပန် ဖြစ်နိုင်ကြောင်းကို ပြဆိုခဲ့ပြီးပေပြီ။

သို့သော် သက္ကာယကား လွန်စွာ အားကောင်းလှ၏။ လက်က မမြဲ၊ ခြေက မြဲဆိုသကဲ့သို့ အကယ်၍ ခန္ဓာငါးပါးကို ရှုပွားခြင်းအားဖြင့် အကျွတ်တရား မရနိုင်သေးခဲ့သော် တဆေးမကောင်း တဆေးပြောင်း ဆိုသကဲ့သို့ သောတာပန်ဘဝသို့ ရောက်ရာ ရောက်ကြောင်း အခြား နည်းလမ်းကောင်းများကို ပြောင်း၍ ရှုရာ၏။

ဗုဒ္ဓသည် သက္ကာယ ကွာမှုအတွက် ရှုပွားဆင်ခြင်နိုင်ရန် နည်းအမျိုးမျိုး ချပေးခဲ့သည်ဖြစ်ရာ ယခုတဖန် ရုပ် ၂၈ ပါးကို အခြေခံ၍ ရှုပွားကြည့်ကြပါဦးစို့။

ခန္ဓာငါးပါး၏ အစုအဝေးသာ ဖြစ်သော ဤခန္ဓာကိုယ် ကောင်ကို ငါငါ ဟူ၍ တငါငါ စွဲလမ်းနေကြ၏။ ထိုငါကို

ရုပ် ၂၈ ပါးထဲ၌ ရှာ၍ တွေ့၊ မတွေ့ကို လေ့လာရာ၏။ ရုပ် ၂၈ ပါးထဲ၌ ငါကို မရှာမီ ရှေးဦးစွာ ရုပ် ၂၈ ပါးကို သရုပ်ခွဲ၍ ခွဲတမ်းချလိုက်သော်-

| | | | |
|---|---|---|---|
| (၁) | မဟာဘုတ် | - ၄ | ပါး |
| (၂) | ဟဒယဝတ္ထုရုပ် | - ၆ | ပါး |
| (၃) | ဂေါစရရုပ် | - ၅ | ပါး |
| (၄) | ဘာဝရုပ် | - ၂ | ပါး |
| (၅) | ဇီဝိတရုပ် | - ၁ | ပါး |
| (၆) | အာဟာရရုပ် | - ၁ | ပါး |
| (၇) | ပရိစ္ဆေဒရုပ် | - ၁ | ပါး |
| (၈) | ဝိညတ်ရုပ် | - ၂ | ပါး |
| (၉) | ဝိကာရရုပ် | - ၃ | ပါး |
| (၁၀) | လက္ခဏရုပ် | - ၄ | ပါး |

မှတ်ချက်။ ။ပြဆိုခဲ့ပြီးသောရုပ်များတွင် ဖောဋ္ဌဗ္ဗဆိုသည်ကား ပထဝီ၊ တေဇော၊ ဝါယော ဟူသော မဟုတ် ၃ ပါးကိုပင် ခေါ်သည်။ ထို့ကြောင့် ဖောဋ္ဌဗ္ဗအတွက်နှင့် ရုပ်အရေအတွက် မဆိုရ။ ရုပ် ၂၈ ခု ဖြစ်၏။ (လယ်တီ-ပဋိစ္စသမုပ္ပါဒ်ဒီပနီ)

၁။ မဟာဘုတ်။ ။ပ-အာ-ဝါ-တေ၊ မြေ-ရေ-လေ-မီး၊ ဤခေါက်ကြီး ၄ ပါးကို မဟာဘုတ်ဟု ခေါ်သည်။

ရှင်းဦးအံ့။ စကြဝဠာအဆက်ဆက် စကြဝဠာလည်း အနန္တ၊ သတ္တဝါလည်း အနန္တ ဖြစ်၏။ မြေကြီး၊ မြင့်မိုရ်တောင်၊ သတ္တရဘန်၊ လေးတန်သော သမုဒ္ဒရာ၊ နေ၊ လ၊ နက္ခတ်တာရာ၊ နတ်ပြည်ခြောက်ထပ်၊ အက္ကနိဋ္ဌ ဗြဟ္မာ့ဘုံလည်း ရှိ၏။ ဤအလုံးစုံကို အကုန် သတ္တုချလိုက်သော် ရုပ်အားဖြင့် ၂၈ ခုသာ အမှန်ရ၏။

ရုပ်၌လည်း သက္ကာယဒိဋ္ဌိ၊ အတ္တစွဲ ၄ မျိုး စွဲကြောင်းကို ဓမ္မသင်္ဂဏီပါဠိတော်၌ ဗုဒ္ဓ ဟောတော်မူသောကြောင့် ယင်း ရုပ် ၂၈ ပါးကို တည်၊ သက္ကာယ ၄ ခုဖြင့် မြှောက်သော် ရုပ်၌ သက္ကာယဒိဋ္ဌိပေါင်း ၁၁၂ ဖြစ်၏။ သက္ကာယဒိဋ္ဌိတည်းဟူသော ပတ္တမြားကြီး ၁၁၂ လုံးတို့ဖြင့် ဤရုပ်ကြီးကို တန်ဆာဆင်ထား၏။

ထို့ကြောင့် ဥပမာ- အိမ်ကို သက္ကာယဒိဋ္ဌိ အတ္တစွဲ ၄ ခုစွဲ စွဲရာ၌-

(၁) အမာခံ သစ်ဝါး - ရုပ်သည် အိမ်။
(၂) အိမ်သည် - ရုပ်။
(၃) ရုပ်ထဲ၌ - အိမ် ရှိ၏။
(၄) အိမ်ထဲမှာ - ရုပ်ရှိ၏။

ရုပ်ခေတ် ရုပ်သားဖြစ်သော အမာခံ သစ်၊ ဝါးကို အထင်းသား မြင်နေရပါလျက် အတ္တစွဲကြောင့် သစ်၊ဝါးကိုပင် အိမ်ဟု ထင်လေ၏။စင်စစ်အားဖြင့် အိမ်ဟူ၍ ထင်ရှားရှိသည် မဟုတ်။ ထင်ရှားရှိနေသည်ကား သစ်၊ဝါးဖြစ်၏။မရှိကို အရှိဟု ထင်မှတ်-

စဲ့လမ်း၏။ ထို့ကြောင့် ရုပ် ၂၀ ၌ သက္ကာယ အတ္တစွဲ ၁၁၂ ဖြစ်သတည်း။

သက္ကာယဒိဋ္ဌိသည် သောတာပန်၏ ဆူးငြောင့်ခလုတ် ဖြစ်၏။ သက္ကာယဆူး၊သက္ကာယငြောင့် စူးလျှင် အနုတ်ရခက်၏။သက္ကာယ ခလုတ် တိုက်မိလျှင် အရှိုက်ထိတတ်၏။သက္ကာယကို အကြောင်းပြု၍ စိုးရိမ်ရ၏၊ ပူဆွေးရ၏၊ ငိုကြွေးရ၏။ အတွင်းမီး၊ အပြင်မီး ဒုက္ခမီးတို့သည် တညီးညီး တပြောင်ပြောင်နှင့် လောင်၍မဆုံး တဟုန်းဟုန်း တောက်လောင်လေသတည်း။

ထို့ကြောင့် မရှိကို မရှိမှန်းသာသိ မဟုတ်ကို မဟုတ်မှန်းသာ သိ ဉာဏ်ဖြင့် အကြွင်းမဲ့ သိရှိကာ သက္ကာယကို ကွာအောင် ခွါနိုင်သူကား အာဇာနည်၊ သောတာပန် ယောကျ်ားမြတ် ဖြစ်မည်မှာ မလွဲတည်း။

## သက္ကာယထောင်တွင်းမှ ပုထုဇဉ်အကျဉ်းသား၏ အမြင်

တနည်းအားဖြင့် ဆိုသော် ခန္ဓာငါးပါးသည် နိုင်ငံကြီး တနိုင်ငံနှင့် တူ၏။ ခန္ဓာပူရ နိုင်ငံကြီး ဖြစ်၏။ ပုထုဇဉ် လူသား တို့ကား ထိုခန္ဓာပူရ နိုင်ငံတွင်း၌ မှီတင်းနေထိုင်ကြကုန်သော တိုင်းရင်းသားများနှင့် အလား တူကုန်၏။

သက္ကာယဒိဋ္ဌိသည် ထိုခန္ဓာပူရနိုင်ငံသားများအတွက် မပြေး နိုင်အောင် ကာရံထားသော အချုပ်ထောင်ကြီးနှင့် အလား တူ၏။ အာရုံငါးပါးကိုကား ထိုအချုပ်ထောင်ကြီး၏ နံရံ၊
၅ အုတ်တံတိုင်း၊ သံမဏိတံတိုင်းကြီးများနှင့် အလားတူကုန်၏။

ထောင်တွင်း၌ အကျဉ်းခံနေကြကုန်သော အကျဉ်းသား တို့သည် လွတ်ရာလွတ်ကြောင်းဖြင့် ထောင်ကို ဖောက်၍ ထွက်ပြေးရန် ကြံစည်လေ၏။

ထောင်နံရံကြီးကို မေ့ကြည့်လေ၏။ အထပ်ထပ်ကာရံထား အပ်သော အာရုံငါးပါး သံမဏိတံတိုင်းကြီးများကို မြင်ရလေ သောအခါ ခါချဉ်ကောင် မာန်ကြီးလို့ တောင်ကြီးကိုတွဲ ဖြိုမည့်ကြံ၊ ခါးကမသန် ကိန်း ဆိုက်ကာ မျက်ဖြူဆိုက်သွား လေ၏။

မှန်၏။ ပုထုဇဉ် သက္ကာယ အကျဉ်းသားတဦးသည် စမ်းကြည့်၏။ ခါးတောင်းကို မြှောင်လောက်အောင်ကျိုက်ပြီး လျှင် "ငါဟဲ့ ယောကျာ်း၊ မတထောင်တကောင်ဘွား၊ ကျား ဆိုမှကျား" ဟူ၍ ကြုံးဝါးကာ သက္ကာယထောင်ကြီးကို ချိန်ကြည့်လေသည်။ ထိုအခါ မယားက သူ့ရှေ့သို့ စွေ့ကနဲ ရောက်လာ၏။ သားမျက်နှာက တသီး၊ သမီးမျက်နှာက တဖြာ ငါ့ဥစ္စာ၊ ငါ့ဟာ၊ ငါ့ပစ္စည်းဆိုသည်က တဖုံ၊ အာရုံမျိုးစုံတို့ ကလည်း ဝိုင်းအုံလျက် ထင်လာကုန်လေ၏။

ဩော် ငါ့မှာ မယား ရှိပါသေးကလား၊ သား၊ သမီးနှင့် ပစ္စည်းတွေ၊ ရွှေတွေ၊ ငွေတွေ၊ တိုက်တွေတာတွေ ရှိပါသေး ကလား။ ငါ မရှိလျှင် ငါ့ဇနီးနှင့် ငါ့သား၊ သမီးတွေ မျက်နှာ ငယ်ရှာမည်။ ငါ့ပစ္စည်းတွေ ဆုံးပါးကုန်တော့မည်။ ငါ့ပစ္စည်း

များကား လွယ်လွယ်နှင့် ရသောပစ္စည်းများ မဟုတ်။ သွေးနှင့် ချွေးနှင့် အသက်နှင့် ရင်းနှီး၍ ရှာထားရသော ပစ္စည်းများ ဖြစ်၏။ လောကီအာရုံ ခံမင်စရာတွေ အနင့်သား ရှိပါလျက်နှင့် သည်ဟာတွေကို မျက်နှာလွှဲ ခဲပစ် စွန့်ပစ်ထားခဲ့သော် အိုင်တွေ လို့မှ မလူးတဲ့ ကျွဲရူးကြီး ဖြစ်နေမည်။ ဟယ်.... တတ်နိုင်ပါဘူး ပိုနေမြဲ ကျားနေမြဲ၊ ငါ့သား၊ ငါ့မယားနှင့် ဥမကွဲ သိုက်မပျက် နေတာဘဲ ကောင်းပါတယ်။

ဤသို့ဤနှယ် မဖွယ်ရာသော အဖျက်အာရုံ ကာမဂုဏ်များနှင့် အတွေ့တွင် ပုထုဇဉ် သက္ကာယ အကျဉ်းသားသည် မွတ်မေ့၊ ပဒတ်မေ့ မေ့သွားလေ၏။ ငါဟဲ့ယောကျ်ားဟု လွှားကနဲ ခုန်ငြားသော်လည်း ငါ့သား၊ ငါ့မယား၊ ငါ့ရွှေ၊ ငါ့ငွေ၊ ငါ့အိမ်၊ ငါ့တိုက်တည်းဟူသော သက္ကာယစွဲကြောင့် ဦးခေါင်းကို နံရံနှင့် ရိုက်ပြီး ငိုက်ကနဲ ဂျမ်းစိုက်၍ ကျလေ၏။

ထို့နောက် သက္ကာယ ထောင်တွင်းမှ ပုထုဇဉ် အကျဉ်းသား သည် သက္ကာယထောင်ကြီးကို ဖောက်ရန် ဆက်လက်ကြိုးစားပြန် လေ၏။ ထိုအခါ နဝံပိယံ ချိုသာသောအသံ (သဒ္ဒါရုံ)များက ၎င်း၊ ထုံတလှိုင်လှိုင်၊ ကြိုင်တလူလူ၊ သင်းသင်းကြူရနံ့ (ဂန္ဓာရုံ)များက၎င်း၊ ချို၊ ချဉ်၊ စပ်၊ ဖန်၊ ခါး၊ အငန်(ရသာရုံ) များက၎င်း၊ ညက်ညောအိစက်၊ စွဲမက်စရာထိတွေ့မှု(ဖောဋ္ဌဗ္ဗာရုံ) များက၎င်း၊ မုန်း၊ချစ်၊ သနား၊ ထွေပြားအာရုံ (ဓမ္မာရုံ)များက ၎င်း၊ ခြေထောက်ကို ဆွဲထားသဖြင့် တွဲလဲဖြစ်နေ၏။

ဤသို့ တွဲလဲကြီး ဖြစ်နေစဉ် ပုထုဇဉ် အကျဉ်းသားသည် စဉ်းစား၏။ ထောင့်ပြင်ဘက် ရောက်သွားရန် ဒီလို သာယာတဲ့ အသံကလေးတွေကို ငါ ကြားရတော့မည် မဟုတ်။ သင်းသင်း ပျံ့ပျံ့ မွှေးရနံ့ကလေးတွေကို ငါ နမ်းရတော့မည် မဟုတ်။ ပြီးတော့ မျိုးမျိုးမျက်မျက် ခံတွင်းတွေ့စရာ အရသာကလေးတွေ ကိုလဲ ငါ စားရတော့မည် မဟုတ်။ ကတ္တီပါ၊ ပိုး၊ ဖဲအစရှိတဲ့ နူးညံ့တဲ့ အတွေ့၊ အသားချင်းထိ၊ ယားကျိကျိ အတွေ့ထူး ကလေးနဲ့လဲ ငါ ယစ်မူးရတော့မှာ မှုတ်ဘူး။ စိတ်ကူးစိတ်သန်းနဲ့ မှန်းမျှော်ပြီး တွေးရတာရတဲ့ အရသာ ကလေးတွေကိုလဲ ငါ ခံစားရတော့မှာ မှုတ်ဘူး။ ဒီလို ချစ်စရာ၊ ခင်စရာ၊ ဖြတ်နိုး စရာ ကောင်းလှတဲ့ ချောချောလှလှကလေးတွေ ဆိုတာမျိုးက ဒီ သက္ကာယ ထောင်ကြီးထဲမှာသာ ရှိတာ။ ဒီဟာ ဒီဟာကလေး တွေနဲ့ တချစ်ခင်ခင် ပျော်ရွှင်နေတာဘဲ ကောင်းပါတယ်လေ။ နိဗ္ဗာန်ဆိုတာ ကြားရုံသာ ကြားဘူးတာ၊ ရောက်ဘူးတာလဲ မဟုတ်။ ပြောသံကြားနဲ့ လွမ်းနေရတာ တော်တော်ကြာ ချောင်းကိုပစ်၍ မြစ်ကိုရှာ၊ ရေသာများ၍ ငါးမတွေ့ ဆိုတာ မျိုးလို ဖောက်ပြီး ထွက်ပြေးလို့ နိဗ္ဗာန်ကို ထုတ်ချင်းပေါက် ရောက်သွားရင် တော်ပါရဲ့။ အေးလေ- သေချာတဲ့ အလုပ်ကို လုပ်တာဘဲ ကောင်းပါတယ်။ ဒီ ချစ်စရာကလေးတွေနဲ့ နေရ တာဟာ ပျော်စရာကောင်းတာ လက်တွေ့ဘဲ။

ပုထုဇဉ် အကျဉ်းသားသည် ဤသို့ အတွေးပေါက်ပြီး သက္ကာယထောင်ကြီးကို ဖောက်ဘို့ကို မဆိုထားဘိ၊ ထောင်၏ လောင်းရိပ်အောက်မှပင် ပျောက်ကွယ်သွားရမည်ကိုပင် တစိုး ရိမ်ရိမ် ဖြစ်နေလေတော့သတည်း။

## စေ့စေ့တွေး ရေးရေးပေါ် လွတ်အောင်ပြေး ဘေးကင်း၏

**ခွေးသေကောင်**ပုပ်တခု ရှိလေ၏။
"သည်ဟာ ခွေးကောင်ပုပ်"
အပုပ်ကောင်မှန်းလည်း သိ၏။
"ဟာ-နံလိုက်တာ"
နံမှန်းလည်း သိ၏။ ထိုအခါ အပုပ်နံ့ မခံနိုင်၍ နှာခေါင်း ပိတ်ပြီး ခွေးသေကောင်နှင့် ဝေးရာသို့ ရှောင်ကွင်း သွား၏။

ဤခန္ဓာကို ခွေးသေကောင်ပုပ်လောက် မထင်သမျှ၊ သဘော မပေါက်သမျှ၊ ငါငါဟူ၍ တငါငါနှင့် သာယာနေဦးမည် သာတည်း။ မခွာနိုင်၊ မခွဲရက်၊ တပ်မက်နေဦးမည်သာတည်း။ ထို့ကြောင့် အပုပ်ကောင်ကို အပုပ်ကောင်မှန်း သိအောင်၊ ထင်အောင်၊ မြင်အောင်၊ အပုပ်နံ့မှန်း သိအောင်၊ ထင်အောင်၊ မြင်အောင် စေ့စေ့တွေးရာသည်။ စေ့စေ့တွေးသော် အမှန် တရားကို ဖုံးထား၍ မရ။ တရေးရေး ပေါ်လာမည်။ ထိုအခါ အဘယ်သူသည် အကောင်ပုပ်ကြီးကို ဖက်၍ အိပ်စက်ချင် မည်နည်း။ အဘယ်သူသည် အပုပ်နံ့ ခံချင်ရှာမည်နည်း။

ကဲ—ကောင်းပေ့ဆိုသော နတ်ဘုံ၊ ချမ်းသာပေ့၊ နေချင့်ဘွယ် ကောင်းပေ့ဆိုသော ဗြဟ္မာဘုံကြီးများကို ကြည့်ဦးစို့။

လူ့ဘုံ၊ နတ်ဘုံ၊ ဗြဟ္မာဘုံဟူ၍ သုဂတိဘုံကြီးတွေ ရှိ၏။ ငရဲဘုံ၊ တိရစ္ဆာန်ဘုံ၊ ပြိတ္တာဘုံ၊ အသူရကာယ်ဘုံဟူ၍ ဒုဂ္ဂတိ အပါယ်ဘုံကြီးတွေ ရှိ၏။ သုဂတိဘုံကြီးများသည် ကုသိုလ်ရှင်

သုစရိုက်သမားများ၏ ကွန်းခိုရာဖြစ်၍ ဒုဂ္ဂတိဘုံများကား ဒုစရိုက်ကောင်များ၏ အကျဉ်းထောင်ကြီး ဖြစ်၏။

အပါယ်ဒုက္ခခေါ်သော အပါယ်ဆင်းရဲတွင်းကြီးသည် ရှိ၏။ ထိုတွင်းကြီးကား လွန်စွာနက်၏၊ လွန်စွာလည်း ကျယ်၏။ ဗုံးကျချလိုက်သောအခါ မြေပေါ် ကျသည်နှင့် တပြိုင်နက် အစိတ်စိတ်အမွှာမွှာ ဖွာရရာကျဲ၍ လွင့်စင်ကုန်သော အစအနများကဲ့သို့ အပါယ်ဘုံသည် ဒုစရိုက်ကောင်များ ဖရိုဖရဲ၊ ကစင့်ကလျား၊ ဦးစောက်ပြောင်းပြန် ကျခံရာဌာနကြီး ဖြစ်လေသည်။ ယင်း အပါယ်ဒုက္ခအကြောင်း သိသူတို့သည် လွန်စွာကြောက်ကုန် လန့်ကုန်၏။ မသိသူတို့မှာ မသိသည့်အတွက် ဆင်းရဲတွင်းကြီး သာ၍ နက်ပြန်၏။

**အပါယ်လမ်းစ။** ။ အပါယ်၏ ရေသောက်မြစ်ကား ဒုစရိုက်မှု ဖြစ်၏။ ဒုစရိုက်မှုများကြောင့် အပါယ် လားကြရကုန်၏။ ထိုဒုစရိုက်မှုများ၏ လမ်းစ၊ ဒုစရိုက်မှုများ၏ ရေသောက်မြစ်ကား အဘယ်နည်းဟု စီစစ်လိုက်သော် သက္ကာယဒိဋ္ဌိ၌ အခြေစိုက်သည်ကို တွေ့ရ၏။ သက္ကာယဒိဋ္ဌိ ထက်သန်လျှင် ထက်သန်သည့်အလျောက် ထို ဒုစရိုက်မှုတို့သည် လျှမ်းလျှမ်းတောက် ထက်သန်ကုန်၏။ သက္ကာယဒိဋ္ဌိ ညှိုးနွမ်းလျှင်လည်း ညှိုးနွမ်းသည့်အလျောက်ပင် ထိုဒုစရိုက်မှုတို့လည်းသွေ့ခြောက်ကုန်လေ၏။ သက္ကာယ ငြိမ်းလျှင်လည်း ထိုဒုစရိုက်မှုကို လက်စသိမ်း၍ ငြိမ်းကုန်လေ၏။

သက္ကာယဒိဋ္ဌိ ရှင်သန် အားကောင်းမှု၊ အားနည်းမှု၊ ချုပ်ငြိမ်းမှုနှင့် ပတ်သက်၍ ထင်ရှားအောင်၊ မျက်ဝါးထင်ထင်

မြင်လာအောင် ဤဥပမာကို ရှုရာ၏။ မီးထွန်းထားသော တိုက်ခန်းကြီးတခု ရှိ၏။ မီးရောင်ဖြင့် တခန်းလုံး ထိန်နေ၏။

သက္ကာယဒိဋ္ဌိသည် မီးတောက်ကြီးနှင့် တူ၏။ ဒုစရိုက်မှုများသည် မီးတောက်မှ ထွက်သော မီးရောင်များနှင့် အလားတူ၏။ မီးတောက် အားကောင်းလျှင် အားကောင်းသည့်အလျောက် မီးရောင်တို့လည်း အားကောင်းကုန်၏။ တောက်ပလင်းထိန်ကုန်၏။ မီးတောက် မှိန်လျှင် မှိန်သည်နှင့်အမျှ မီးရောင်တို့လည်း မှိန်ကုန်၏။ မီးတောက် သေ၍ ငြိမ်းလျှင် မီးရောင်တို့လည်း ငြိမ်းကုန်လေ၏။ သက္ကာယဒိဋ္ဌိသည်လည်း ဤဥပမာအတိုင်းပင် ဖြစ်၏။

လူမှာလည်း လူ့အလျောက်၊ လူသက္ကာယ ရှိ၏။ နတ်မှာလည်း နတ်သက္ကာယ၊ ဗြဟ္မာမှာလည်း ဗြဟ္မာသက္ကာယ ရှိ၏။ လူဖြစ်ဖြစ်၊ နတ်ဖြစ်ဖြစ်၊ ဗြဟ္မာဖြစ်ဖြစ်၊ အားလုံးသည် သက္ကာယတန်းလန်းနှင့်ချည်း ဖြစ်၏။ သူတို့သည် အပါယ်ဆင်းရဲအကြောင်းကို မသိ မဟုတ်၊ သိကုန်၏။ သို့ပါလျက်လည်း အပါယ်သို့ တဖုတ်ဖုတ် ကျရောက်နေခြင်းမှာ အရင်းစစ်သော် သက္ကာယကြောင့် ဖြစ်၏။ သက္ကာယသည် အပါယ်သို့ ကျအောင်ချလိုက်သည့် လက်သည်ဖြစ်၏၊ တရားခံ ဖြစ်၏။ သက္ကာယဒိဋ္ဌိက မြှောက်ပင့် ပေးသောကြောင့် ဒုစရိုက်မှုများကို အသိခေါက်ရက်နှင့် ပြုကြရကုန်၏။ အပါယ်ဆင်းရဲအကြောင်းကို ပိတ်ပိတ်သား နားမလည်သူတို့ကိုကား အဘယ်မှာလျှင် ဆိုဘွယ်ရာ ရှိချေတော့အံ့နည်း။ ဒုစရိုက်မှုများကို အားသွန်

ခုန်စိုက် တုံးတိုက်တိုက်၊ ကမ်းတိုက်တိုက် ပြုလိုက်ကြမည်သာ ဖြစ်သတည်း။ ဤသို့ သက္ကာယက မြှောက်ပင့်ပေးတိုင်း ပြုလေသည့်အတွက် ဆီးဖြူပင်မှ ဆီးဖြူသီးများကို လှုပ်ချသည့်ပမာ အပါယ်သို့ တဖုတ်ဖုတ် ကျကုန်လေသတည်း။

အပါယ်ကြောက်သူတို့သည် အပါယ်သွားတံခါးကြီးကို ဒါနပြု၍ ပိတ်ကြကုန်၏။ သီလမှုဖြင့် ဆို့ကြကုန်၏။ ဘာဝနာမှုဖြင့် ဟန့်တားကြကုန်၏။ ထိုအခါ ဒါနကုသိုလ်၏ တန်ခိုး၊ သီလကုသိုလ်၏အရှိန်အဝါ၊ ဘာဝနာကုသိုလ်၏ စွမ်းအားအလျောက် သုဂတိဘုံသို့ ရောက်ကာ လူဖြစ်လို့ ဖြစ်၊ နတ်ဖြစ်လို့ ဖြစ်၊ ဗြဟ္မာဖြစ်လို့ ဖြစ် အမျိုးမျိုး ဖြစ်ကြကုန်လေ၏။

သို့သော် သူတို့ သူတို့၏ လည်ပင်းတွင် သက္ကာယကြိုးကွင်းကြီး စွပ်လျက်သား ပါလာသောကြောင့် သက္ကာယ၏ အမိန့်အာဏာကို မလွန်သာသဖြင့် ရောက်လေရာရာ ဘဝမှာ ဒုစရိုက်အမှုသစ်တွေ ဖြစ်ဖြစ် လာပြန်လေ၏။ ရှေးကပြုခဲ့သော ကုသိုလ်အဟုန် အကျိုးပေးကုန်လေသောအခါ ထိုသို့ ဖြစ်ရာဘုံဘဝမှ ရွှေလျောရမည်သာ ဖြစ်၏။

ထိုသို့ တဘဝမှစုတေ၍ ရွှေလျောသည်နှင့်တပြိုက်နက် ထိုလူ၊ ထိုနတ်၊ ထိုဗြဟ္မာသည် သက္ကာယ၏ ကောင်းမှုကြောင့် ဖြစ်ရသော၊ ဒုစရိုက်အကျိုးကြောင့် ဖြစ်ရသော ဒုစရိုက်မှု အကျိုးကြောင့် အပါယ်သို့ စောက်ထိုးမိုးမျှော် ကျရောက်ရလေ၏။ အပါယ်ဘုံတွင် အပါယ်သားကြီးတွေ တဖန် ဖြစ်ရ

ပြန်လေ၏။ ဘဝပေါင်း တရာနှင့်လည်း လွတ်ခွင့်မရ၊ ဘဝပေါင်း တထောင်နှင့်လည်း လွတ်ခွင့်မရ။ အဠကထာကျမ်းများ၌ ပြဆိုထားကုန်၏။

ဤသို့လျှင် သက္ကာယ အမျှင်တန်းလန်းနှင့် ရှိနေသမျှ ကာလပတ်လုံး သူသူ၊ ငါငါ၊ ပုထုဇဉ် သတ္တဝါမှန်သမျှသည် လူဖြစ်လိုက်၊ နတ်ဖြစ်လိုက်၊ ဗြဟ္မာဖြစ်လိုက်၊ အပါယ်လားလိုက်နှင့် ဘဝသံသရာ ချာချာလည်လေသတည်း။

ဤအချက် ထင်ရှားအောင် ဥပမာဆောင်ရသော် ဝါးပင်၊ ပေပင်၊ ငှက်ပျောပင်တို့သည် သီးချိန်တန်လျှင် သီးကုန်၏။ သီးသီးလာသော ထိုထိုအသီးများက ဝါးပင်၊ ပေပင်၊ ငှက်ပျောပင်များကို ပြန်၍ သတ်လေကုန်၏။

အသီး သီးသည်နှင့်တပြိုင်နက် သေလမ်းကြီး စင်း နေ၏။ သေမင်းရထားကြီးကို စီးရန် လက်မှတ် ပေးလိုက်သည်နှင့်တူ၏။ မသေဘဲ နေချင်၍ မရတော့ပြီတည်း။

ထို့နည်းငှင်းပင် လူခန္ဓာ၊ နတ်ခန္ဓာ၊ ဗြဟ္မာခန္ဓာဟူ၍ ခန္ဓာ အသစ်အသစ်တွေ ထည်လဲနှင့် ဖြစ်ဖြစ် လာကုန်၏။ ဖြစ်ဖြစ်လာသော ခန္ဓာများက မိမိတို့၏ တည်ရာဖြစ်သော လူကောင်၊ နတ်ကောင်၊ ဗြဟ္မာကောင်တွေကို တသတ်ထဲ သတ်ပစ်လေ၏။ ဖြစ်လာသမျှ သေဘို့ချည်းသာ ဖြစ်ကုန်၏။

ထို့ကြောင့် အသစ်အသစ်ဖြစ်လာသော ခန္ဓာတို့ကား လူသတ်ကောင်၊ လူသတ်သမားး။ လူ၊ နတ်၊ ဗြဟ္မာတို့ကား အသတ်ခံရသူများ ဖြစ်ကုန်၏။ ဆိုးမှု၊ ကောင်းမှုဟု ဆိုအပ်သော

ဝိပရိဏာမဓမ္မ အချက်တို့ကား အလွန် အသွားထက်လှသည့် လူသတ်လက်နက်၊ နတ်သတ်လက်နက်၊ ပြဟ္မာသတ်လက်နက် များသာ ဖြစ်ကုန်၏။ ထိုအကြောင်းကို မာရသုတ်[၁] ၌ ဗုဒ္ဓ ဟောတော်မူသည်မှာ- ရာဓ- ချစ်သားရဟန်း ရာဓ၊

(၁) ရူပံ- ရူပက္ခန္ဓာသည်၊ မာရော- သူသတ် ယောက်ျားကြီးတယောက်တည်း။

(၂) ဝေဒနာ- ဝေဒနက္ခန္ဓာသည်၊ မာရော- သူသတ် ယောက်ျားကြီးတယောက်တည်း။

(၃) သညာ- သညက္ခန္ဓာသည်၊ မာရော - သူသတ် ယောက်ျားကြီးတယောက်တည်း။

(၄) သင်္ခါရာ- သင်္ခါရက္ခန္ဓာတို့သည်၊ မာရော-သူသတ် ယောက်ျားကြီးတယောက်တည်း။

(၅) ဝိညာဏံ- ဝိညာဏက္ခန္ဓာသည်၊ မာရော- သူသတ် ယောက်ျားကြီးတယောက်တည်း။

ဤဒေသနာတော်ကို ထောက်ခြင်းအားဖြင့် ဖြစ်လာသမျှ သော လူတွေ၊ နတ်တွေ၊ ပြဟ္မာတွေ၊ တိရစ္ဆာန်ကောင်တွေ တသေထဲသေကြရကုန်၏။ ထိုသို့ သေကြရခြင်းမှာလည်း ရိုးရိုး သားသား သေကြရသည် မဟုတ်။ ဝါးပင်ကို ဝါးသီးက သတ်သကဲ့သို့ငှင်း၊ မိမိကို ပြန်၍ သတ်သတ်ပစ်သောကြောင့် သေကြရခြင်းဖြစ်ကြောင်း ကောင်းစွာထင်ရှား၏။

---

၁၊ ခန္ဓသံယုတ်ပါဠိတော်၊ မာရသုတ်၊ ၁၅၉၊

ဤလောကဉ် မြဲသောအရာဟူ၍ ဘာမျှမရှိ။ဖြစ်လျှင် ပျက်၏။ အဖြစ်ရှိလာလျှင် အပျက်ရှိမြဲ ဖြစ်၏။ ဘာမျှ မဖြစ်တော့လျှင် ဘာမျှ ပျက်ဘွယ်မရှိတော့။

သို့ပွံခေတ်၌ လူသတ် လက်နက်ဆန်းတွေ တသွက်သွက် ထွက်လာ၏။ လူကို ထိုလက်နက်ဆန်းတို့ဖြင့် သတ်ငြား သော်လည်း သေချင်မှ သေမည်။ဂျပန်ပြည်၌ အနုမြူဗုံးချစဉ်က မသေဘဲ လွတ်မြောက်လာသူများ ရှိသည် မဟုတ်ပါလော။ ခန္ဓာက သတ်လျှင်ကား မည်သူမျှ မခံနိုင်။ လူလည်း မခံနိုင်။ နတ်လည်း မခံနိုင်။ဗြဟ္မာလည်း မခံနိုင်။စင်းစင်း သေကြရသည် ချည်း ဖြစ်ကုန်၏။ခန္ဓာသတ်၍ မသေသူဟူ၍ တယောက်မျှ မရှိ။ဗုဒ္ဓမြတ်ဘုရားသော်မှပင် ခန္ဓာက သတ်ပစ်သဖြင့် သက်တော် ရှစ်ဆယ်အရတွင် ပရိနိဗ္ဗာန် ကြွတော်မူရရှာသည်။

တွေးပါ။ ဤခန္ဓာကြီး ရှိနေတာ ကောင်းသလား၊ ဆိုးသလား။ ကောင်းကျိုး ပေးသလား၊ ဆိုးကျိုး ပေးသလား ဆိုသည်ကို တရေးရေး ပေါ်လာအောင် တစေ့စေ့တွေးပါ၊ စဉ်းစားပါ။ တွေးတောစဉ်းစားရင်း ဤဉပမာကိုလည်း သတိ ပြုပါလေ။

လူသတ်မှု ကျူးလွန်ထားသူတယောက်ကို အပြစ်ထင်ရှား သဖြင့် မသေမချင်း သတ်စေဟု ရုံးတော်က အမိန့်ချလိုက်လေ သတတ်။ထိုသူသည် မုချ အသတ်ခံရတော့မည် ဖြစ်၏။ အသတ် ခံရမှာ သေချာ၏။

ဤတွင် သတ္တဝါတို့၏သဘောမှာ သဗ္ဗေဘာယန္တိမစ္စုနော။ သဗ္ဗေ-ခပ်သိမ်းကုန်သော သူတို့သည်၊ မစ္စုနော-သေရခြင်းမှ၊ ဘာယန္တိ-ဆတ်ဆတ်တုန်အောင် ကြောက်ကုန်၏ဆိုသောအတိုင်း သေစားသေစေဟူ၍ ကြိုးမိန့်ချခြင်း ခံရသူအဘို့ မည်သို့ နေရှာမည်နည်း။ မည်မျှ ကြောက်ရှာမည်နည်း။ သေရမည့်ရက်၊ သေရမည့်အချိန်၊အသတ်ခံရမည့်အခါကို မသိရလျှင် အကောင်းသား။ မည်သို့မျှ ဆိုပြောခြင်း မပြုလေဘဲ သတ်ခြင်း ခံရက သေသော်မှ သေရစေ၊ ထိုသူသည် ဤမျှ ကြောက်လန့်မည် မဟုတ်။အသတ်ခံရတော့မည်ကို သိ၍ ကြောက်ခြင်း ဖြစ်၏။

ဤသူကို ပုံမှီး၍ မကြောက်သင့်ပါလော။ သူသူ ငါငါ ခန္ဓာဟူ၍ ရှိလာသူချည်း ဖြစ်၏။ထိုခန္ဓာကို ဗုဒ္ဓက ရူပ်မာရော-ရူပက္ခန္ဓာသည် သူသတ်ကောင်ကြီးတယောက်ဟု ဟောတော်မူထားသည် မဟုတ်ပါလော။ ကြိုးမိန့်ကျသူမှာ သတ်မည့်သူ၊ ဒေါက်ဖြုတ်မည့်သူ မည်သူတယောက်သာ ရှိ၏။ မိမိမှာမူ သတ်မည့် လူသတ်ကောင်ကြီး ငါးယောက်က ဓားတဝင့်ဝင့် ရှိနေ၏။

ဝါးပင်ကို ဝါးသီးက သတ်သကဲ့သို့ မိမိ ရုပ်ခန္ဓာကလည်း မိမိကို သတ်ရန် တကဲကဲ။ ဝေဒနက္ခန္ဓာကလည်း မိမိကို သတ်ရန် တကဲကဲ။ သညာ၊ သင်္ခါရ၊ ဝိညာဏ - ဤသူသတ်သမားကြီး သုံးယောက်တို့ကလည်း မိမိကို သတ်ရန် ဓားတဝင့်ဝင့် ရှိနေ၏။ သို့ပါလျက် ဤ သူသတ်ကောင်ကြီး ငါးယောက်ကို အဘယ့်ကြောင့် မကြောက်သနည်း။

ဤ သူသတ်ကောင်ကြီး ငါးယောက်ကို အသဲချမ်းအောင် ဖိမ့်ဖိမ့်တုန်အောင် မကြောက်သမျှ သက္ကာယဒိဋ္ဌိ ပျောက်လေမည် မဟုတ်။ သက္ကာယဒိဋ္ဌိ မပျောက်သမျှ သောတာပန်ဖြစ်ဘို့ ဝေးသေး၏။ သက္ကာယဒိဋ္ဌိ ပျောက်လျှင်ကား မြောက်ခနဲ သောတာပန်အဖြစ်သို့ ရောက်လေ၏။

ယင်းအကြောင်းနှင့် ပတ်သက်၍ လယ်တီဆရာတော်ဘုရားကြီးသည် လူအများ သိလွယ်၊ ထင်လွယ်၊ မြင်လွယ်၊နားလည်လွယ်၊ သဘောပေါက်လွယ်အောင် ပဋိစ္စသမုပ္ပါဒ်ဒီပနီ ^၁^ ၌ ဤသို့ ခပ်ရှင်းရှင်း မြွက်ကြားသွားတော်မူ၏။

စိတ်နှလုံးထဲမှာ သက္ကာယဒိဋ္ဌိ အမြဲ ပါရှိ၍နေသမျှ ကာလပတ်လုံး ပဉ္စာနန္တရိယ ကံကြီးငါးပါးလည်း အမြဲ ပါရှိ၍ နေလေတော့သည်။ ဒုစရိုက် ဆယ်ပါး အမြဲပါရှိ၍ နေလေတော့သည်။ ဘယ်မကောင်းမှုမျိုး၊ ဘယ်အမိုက်အမဲမျိုး၊ ဘယ်အမှောက်အမှားမျိုး ငါ၌ မဖြစ်လတံ့ဟု တစုံတခုမျှ မရှိ။

လူ့ပြည်မှာ လူဖြစ်သော်လည်း ရင်ထဲမှာ အပါယ်လေးဘုံ အမြဲပါ၏။ နတ်ပြည် ခြောက်ထပ်မှာ နတ်မင်းကြီး၊ သိကြားမင်းကြီး ဖြစ်သော်လည်း ရင်ထဲမှာ အပါယ်လေးဘုံ အမြဲပါ၏။ ဗြဟ္မာပြည်မှာ ဗြဟ္မာ

---

၁။ ပဋိစ္စသမုပ္ပါဒ်ဒီပနီ၊ စာမျက်နှာ ၁၆(ဂန္ဓမာမူ)

မင်းကြီး ဖြစ်သော်လည်း ရင်ထဲမှာ အပါယ်လေးဘုံ အပြီးပါ၏။

**ထောင်ဒဏ်မှု။** အပြစ်သင့်ကြသော လူနှစ်ယောက် ရှိသတည်း။ တယောက်သူမှာ ထောင်သို့ ကျလေ၏။ တယောက်မှာကား ထောင်ကျနေ့ရက် မပေးသေး။ (ယင်း ၂ ယောက် အနက်) ထောင်သို့ ကျလေသူမှာ ထောင်မှ လွတ်ခွင့်သို့ တရက်ထက်တရက် နီး၍သွား၏။ ထောင်သို့မကျသေးသူမှာ ထောင်ကျခွင့်သို့ တရက်နှင့် တရက် နီး၍သွား၏။

ဤအတူ အပါယ်သို့ ကျရောက်နေသူတို့မှာ အပါယ်မှ လွတ်ခွင့်သို့ တရက်ထက်တရက် နီး၍ သွားကုန်၏။ လူ့ပြည်၊နတ်ပြည်၊ဗြဟ္မာပြည်၌ နေကုန်သော သူတို့မှာ အပါယ်ကျခွင့်သို့ တနေ့ထက်တနေ့ နီး၍ သွားကုန်၏။

ထို့ကြောင့်–

ဇတဿ အာနန္ဒ ပဋိစ္စသမုပ္ပါဒဿ အညာတာ
အပ္ပဋိဗောဓာ တန္တာကုလကဇာကာ၊

မုဉ္စပဗ္ဗဇာဘူတာ သကုဏာဂုဏ္ဍိက ဇာတာ၊
အပါယံ ဒုဂ္ဂတိံ ဝိနိပါတံ သံသာရံ နာတိ ဝတ္တန္တိ။

အာနန္ဒ–အနန္ဒာ၊ဇတဿ ပဋိစ္စသမုပ္ပါဒဿ–ထိုပဋိစ္စ–သမုပ္ပါဒ် သဘောကို၊ အညာတာ– မသိခြင်းကြောင့်၊ အပ္ပဋိဝေဓာ– သဘော မပေါက်ခြင်းကြောင့်၊ ဣမေ သတ္တာ– ဤ ပုထုဇဉ် သတ္တဝါတို့သည်၊ တန္တာကုလက–

ဇာတာ- မသင်နိုင်၊ မရှင်းနိုင်သော ရက်ကန်းထွေး အူပေါက်သကဲ့သို့ ထွေးရှုပ်၍ နေကြကုန်၏။ မုဉ္စပဗ္ဗဇ- ဘူတာ-ဖြူဆံမြက်တော၊ ပြိန်းမြက်တောကဲ့သို့ ထူထပ် ရှုပ်ထွေး၍ နေကြကုန်၏၊ သကုဏဂုဏ္ဍိက ဇာတာ- စာပေါင်းသိုက်ကဲ့သို့ ထွေးယှက်၍ နေကြကုန်၏၊ အပါယံ- ချမ်းသာကင်းရာဖြစ်သော၊ဒုဂ္ဂတိံ - မကောင်း သဖြင့် လားရာဖြစ်သော၊ ဝိနိပါတံ- အလိုဆန္ဒကင်း၍ ကျရာဖြစ်သော၊ သံသာရံ- သံသရာကို၊ နာတိဝတ္တန္တိ- မလွန်နိုင်ကြကုန်။

(ရှင်းချက်)

တန္တာကုလကဇာတာ-ဟူသောပုဒ်၏အဓိပ္ပာယ်မှာ- တယောက် ထယောက်သော လူ၊ နတ်၊ ဗြဟ္မာ သတ္တဝါတို့၏ နှလုံးထဲမှာ ၂၅၆ ပါးသော သက္ကာယ ဒိဋ္ဌိနှင့်တကွ ပြဆိုခဲ့ပြီးသော အပြစ် ဒေါသမျိုးတွေ အသင်္ချေ ရှုပ်ထွေး၍ နေကြသည်ဟု ဆိုလိုသည်။ မုဉ္စပဗ္ဗဇဘူတာပုဒ်-သကုဏဂုဏ္ဍိကပုဒ်တို့၏ အဓိပ္ပာယ် တို့ကို ထိုနည်းအတိုင်း သိလေ။

ဝိနိပါတံ သံသာရံ-ပုဒ်၏ အဓိပ္ပာယ်ကား ထိုသို့ နှလုံးအတွင်း ရှုပ်ထွေး၍ နေကြကုန်သော လူ၊ နတ်၊ ဗြဟ္မာ ပုထုဇဉ်သတ္တဝါတို့သည် "ဘယ်ဘုံသို့ ငါသွား မည်"ဟု မှန်းတန်း၍ သွားနိုင်ကြသည် မဟုတ်။ စုတေ သည့်နောက် ရောက်လိုရာ ရောက်၊ ကျလိုရာ ကျ၊

ကမ္မဿကာ- ကံချရာဟု ပေါက်လွှတ်ခဲ့မွေတာ ထားကြရကုန်၏။

တပေါင်းတံခူးအခါ လေမုန်တိုင်း ရိုက်၍ ကြွေကျကုန်သော သစ်ရွက်တို့သည် အညာက ကျွတ်လျှင်ကျစရာ၊ နေစရာကို ရွေးချယ်၍ "ဘယ်နေရာမှာ ငါကျမည်"ဟု မှန်းတန်း၍ ကျနိုင်ကြသည်မဟုတ်၊ ရောက်မိရောက်ရာ ရောက်၍ ကျမိကျရာ ကျလေကုန်သကဲ့သို့ ထို့အတူ သက္ကာယဒိဋ္ဌိ တန်းလန်း ရှိနေသူတို့သည် အထက်ဘုံဖြစ်သော "ဘဝဂ်ဘုံ" ကပင်သော်လည်း နေ့စေ့၍ စုတေလေသောအခါ ရောက်ချင်ရာရောက် ပေါက်ချင်ရာ ပေါက်နှင့် ပေါက်လွှတ်ကျကုန်သည်သာတည်း။

သက္ကာယဒိဋ္ဌိ ရှိကြသော သတ္တဝါတို့မှာကား ယနေ့ နတ်မင်းကြီး၊ သကြားမင်းကြီး၊ မနက်ဖန်ခါ ခွေး၊ ဝက်၊ ခြ၊ ပရွက်၊ သန်း၊ ကြမ်းပိုး။ ယနေ့ သီလဝန္တကြီး၊ မနက်ဖန်ခါ ခမြ၊ သူခိုး၊ လူဆိုး၊ တံငါ။ ယခုနေ့ စျာန်အဘိဉာဏ်ရ သမာဓိဝင်ကြီး၊ မနက်ဖန်ခါ ပွဲသဘင်အလယ်မှာ လူပြက်ကြီး။ ယနေ့အခါ ကျမ်းတတ် ဂန်တတ် ပညာရှိကြီး၊ မနက်ဖန်ခါ အရူး၊ အသွမ်း၊ ဥမ္မတ္တက၊ လူအ၊ လူနှမ်းကြီး ဖြစ်နိုင်သော သဘော ရှိကြကုန်၏။

ဤသို့လျှင် သက္ကာယဒိဋ္ဌိ ရှိကြသူတို့၏ အပြစ်ဒေါသ အနန္တကိုဂုဏ်း၊ သက္ကာယဒိဋ္ဌိမီး ငြိမ်းကြကုန်ပြီးသော

သူတို့၏ အကျိုးအာနိသံသ အနန္တကိုရင်း ကောင်းစွာ သိကြသဖြင့် သက္ကာယဒိဋ္ဌိတည်းဟူသော ပါပဓမ္မကြီး၏ ကြောက်ဘွယ်၊လန့်ဘွယ်၊ ရွံဘွယ်၊ စက်ဆုပ်ဘွယ်သော သဘောသည် အလွန် ထင်ရှားကြကုန်ရာ၏။

ရင်တွင်းနှလုံးမှာ ငါငါဟူသော သက္ကာယဒိဋ္ဌိမီး တထိန်ထိန် တညီးညီး တောက်ထ၍နေကြသော မိမိတို့ ကိုယ်အဖြစ်၏ ပြဆိုခဲ့ပြီးသော လေမုန်တိုင်းမှာ လွင့်ပါ သော မြက်မှိုက်၊သစ်ရွက်မှိုက်၊မြစ်ရေအလျဉ်မှာ မျော၍ ပါသော မြက်မှိုက်၊ သစ်ရွက်မှိုက်တို့၏ အလားကဲ့သို့ သံသရာအလား၊ ဘဝအလား ကြောက်ပါးလိလိ ရှိ၍ နေကြသော သဘောသည်လည်း ထင်ရှားကြကုန်ရာ၏။

ဘုရား သာသနာတော်နှင့် ကြုံကြိုက်သော ဘဝ၌ သာလျှင် ငါငါဟူ၍ စွဲလမ်းမှုကို "သက္ကာယဒိဋ္ဌိ ၏ မီးတောက်"ဟု သိနိုင်ရာသည်။ ဘုရားသာသနာပသို့ ရောက်၍သွားလျှင် မဟာကမ္ဘာ အသင်္ချေပင်ကြာသော် လည်း "သက္ကာယဒိဋ္ဌိ ဟူ၍ သိပေါက်သိလမ်း မရှိ" မှောင်အတိ ဖုံးလွှမ်းလေတော့သည်။

ဤသည်တို့ကား သက္ကာယဒိဋ္ဌိနှင့်ပတ်သက်၍ မှတ်သားစရာ မြွက်ကြားသွားသော လယ်တီ ဆရာတော်ဘုရားကြီး၏ မိန့်ခွန်း တော် ဖြစ်သတည်း။

ထို သက္ကာယဒိဋ္ဌိသည် မျိုးစေ့နှင့် အလားတူ၏။ တူပုံကား ထန်းပင်၊ အုန်းပင်များ အပါအဝင် ကောက်ပဲသီးနှံ စသော
၆ အပင်တို့သည် ရှိကုန်၏။ထိုအပင်တို့သည် မျိုးစေ့မှ ပေါက်ပွား

ဖြစ်ထွန်းလာကုန်၏။ မျိုးစေ့ရှိလျှင် နေရာမရွေး အပင်ပေါက်နိုင်၏။သဲကန္တာရ၊ ကျောက်ဖျာကြီးများပေါ်မှတပါး မျိုးစေ့ကျလျှင် အပင်ပေါက်သောနေရာဟူ၍ မရှိဟု မဆိုရာ၊ မဆိုနိုင်။ မျိုးစေ့မရှိ၍ မျိုးပြတ်သွားလျှင်ကား ဘာပင်မျှ ပေါက်တော့သည် မဟုတ်၊ အပေါက်ငြိမ်း၏။ မျိုးစေ့မပြတ်လျှင် အပေါက်မငြိမ်းသေး။

ထို့အတူ သက္ကာယဒိဋ္ဌိသည် မျိုးစေ့နှင့် အလားတူ၏။ပုထုဇဉ်တို့၏နှလုံးသားကား မြေကြီးနှင့် အလားတူ၏။ ပုထုဇဉ်တို့၏နှလုံးသားမြေပြင်ပေါ်၌ သက္ကာယမျိုးစေ့ ကျရောက်လျှင် ဒိဋ္ဌိအပင်တွေ ဖြိုးဖြိုးမောက်မောက် ဟိုကပေါက် သည်ကပေါက် ပေါက်လာကုန်လေ၏။ ဒိဋ္ဌိအပင်တွေ ဖြိုးဖြိုးဝေအောင်ပေါက်လာသောအခါ အမှန်ကို အမှန်အတိုင်း မမြင်၊ အဟုတ်ကို အဟုတ်အတိုင်း မထင်တော့ကုန်။ အပါယ်ထဲတွင် ထည်လဲနှင့်ခံကြရမည်သာဖြစ်၏။ဗုဒ္ဓသာသနာနှင့်ကြုံခိုက်တွင် ယုတ်စွအဆုံး သောတာပန်ဘုံ ဆိုက်ရုံကလေးလောက်တော့ဖြင့် ရယူ၍ထားထိုက်ကြ၏။

## ရုပ်ကိုရှုဆ သက္ကာယကွာ သောတာပန်ဖြစ် လမ်းစဉ်

မှန်ကြေးမုံပြင်ကဲ့သို့ ပကတိအားဖြင့် ကြည်လင်နေသော စိတ်အစဉ်ကို အမဲစက် စွန်းထင်း ညစ်ထပ်သွားအောင် ပြုတတ်သောတရား၊ အသဲနှလုံး၌ မီးဟုန်းဟုန်းတောက်ပြီး တကိုယ်လုံး ပူလောင်၍ အပူကောင်ကြီး ဖြစ်အောင် မီးမြိုက်တတ်သော တရားကို **ကိလေသာ** ဟု ဆိုပေသည်။

ထိုကိလေသာကား အရေအတွက်အားဖြင့် ၁၅၀၀ ရှိသတည်း။ ယင်း ၁၅၀၀ ကိလေသာအားလုံး ခန်းလျှင် ရဟန္တာဖြစ်၏။ သောတာပန်မှာ ကိလေသာအားလုံးကို **ပယ်နိုင်သေးသူ** မဟုတ်။ ကိလေသာ ၁၅၀၀-အနက်မှ ၁၄၉၉ မျိုးသော ကိလေသာများကို ချန်လှပ်၍ ဒိဋ္ဌိတလုံးကိုသာ ပယ်သတ်နိုင်သေးသည်။ ဤဒိဋ္ဌိတလုံးကို အသေသတ်နိုင်လျှင် ကိစ္စပြတ်၏။ အရိယာဇာတ် သောတာပန် ဖြစ်လေ၏။

သောတာပန် ဖြစ်မှု၌ စာတတ်ခြင်း၊ မတတ်ခြင်းနှင့်မဆိုင်။ **သောတာပန်သည် စာတတ်သူအတွက် မဟုတ်၊ အသိပေါက်သူ အတွက်** ဖြစ်၏။ စာတတ်လျက် သောတာမပန်သူတွေ အများကြီးရှိ၏။ တရားကို များများကြီးသိမှ၊ များများကြီးတတ်မှ မဟုတ်၊ တရားသဘောကို အချက်မိမိ တကွက်လောက်မျှ သိလျှင် သောတပတ္တိအဖြစ်သို့ ရောက်နိုင်၏။ သိမှုသည်သာ အချုပ်အခြာဖြစ်၏။ အသိထက်လျှင် လက်ခနဲ လင်းနိုင်သတည်း။

သိမှုဆိုရာ၌-

(၁) ဆရာသိ
(၂) စာသိ
(၃) နှလုံးသိ

အသိ ၃-မျိုး ရှိသည့်အနက် "သည်ဟာက ပရမတ်၊ သည်ဟာကို ပညတ်ဟု မှတ်" ဤသို့ ဆရာက မှတ်ခိုင်း၊သိခိုင်း၍ သိသောအသိမျိုးသည် ဆရာသိ မည်၏။ အသဲထဲ မစွဲလျှင်

ကြက်တူရွေး စကားသင်နည်းမျိုးသာ ဖြစ်၏။ ဤသို့ ဆရာသိ သိကာမျှဖြင့် သောတာမပန်နိုင်သေး။

သမထစာအုပ်တွေ ဖတ် ဝိပဿနာစာအုပ်တွေ ဖတ်၍ တတ်သောအသိသည် စာသိ မည်၏။ အသဲနှလုံးခိုက် စူးစူး စိုက်စိုက် မရှိ။ "သည်ဟာက သည်လိုကိုး" ဟူ၍ သိကာမျှ ဖြစ်လျှင် အရာမထင်နိုင်သေး။ သောတာပန်နှင့် ဝေးသေး၏။

ဆရာက ညွှန်ပြသည့်အတိုင်း စာအုပ်များက မျက်စိဖွင့်သည့် အတိုင်း သဘောပေါက်စွာ တရားစစ်ကို တစ်တစ်ခွခွ၊ တိတိ ကျကျ၊ ထိထိရောက်ရောက် အသိပေါက်သော အသိမျိုးသည် နှလုံးသိ မည်၏။ ထိုအသိကသာ သောတာပန် ဖြစ်စေနိုင်၏။ သောတာပန်အဖြစ်သို့ ရောက်အောင် တွန်းပို့နိုင်သော အသိမျိုး ဖြစ်လေ၏။

ထို့ကြောင့် တရားရှာ ကိုယ်မှာ တွေ့၏။ တခြားသွား၍ ရှာနေစရာမလို။ နှလုံးအသိဖြင့် တရားသားကို မိအောင် ဖမ်းယူရာ၏။ တရားသားကို သိမှ တကယ်သိ သိမှလည်း တကယ်အကျိုးရှိမည် ဖြစ်သတည်း။

ခန္ဓာငါးပါး အကြောင်းကို အထက်၌လည်း တတွတ်တွတ် ရွတ်ပြခဲ့ပြီး သူ၏ သဘောရင်းကို အတော်အတန် ရှင်းပြခဲ့ပြီး ဖြစ်၏။ သို့ရာတွင် ဤ၌လည်း ခန္ဓာကိုယ်ပင် အခြေတည်၍ ဆိုရပေဦးမည်။

အဘယ်ကြောင့်ဆိုသော် လူတွေ၊ နတ်တွေ၊ ဗြဟ္မာတွေသည် ခန္ဓာကြောင့် ခက်နေ၏။ ခန္ဓာကို ပျက်အောင် ဖျက်နိုင်လျှင် တက်လမ်းပွင့်သွားမည် ဖြစ်၏။ ထို့ကြောင့် အပ်ကြောင်းထပ်

ခြင်းသည် ပမာဒမဟုတ်။ ခန္ဓာကို အပျက်သဘောဖြင့် နှစ်နှစ်ကာကာ သိမြင်ခြင်း၊ ခန္ဓာ၌ တွယ်တာတပ်မက်မှု၊ စွဲလမ်းမှု ကင်းခြင်းသာလျှင် လိုရင်းဖြစ်သည့်အလျောက် အခေါက်ခေါက် အခါခါ ဆိုနိုင်လေ၊ အကျိုးရှိလေပင် ဖြစ်မည်။ ဓာတ်မီးခြစ်ကို ခြစ်သကဲ့သို့ မှတ်နိုင်၏။ တချက်ခြစ်ရုံနှင့် မီးမပွင့်လျှင် ရပ်၍ မထား၊ နှစ်ချက်၊ သုံးချက်စသည် ဆက်ကာဆက်ကာ ခြစ်သော် မီးပွင့်၍ လိုအပ်သောကိစ္စ ပြီးသကဲ့သို့တည်း။

ရပ်ကို ရှု၍ "ဤခန္ဓာကြီးဟာ မက်မောစရာ၊ တွယ်တာစရာ၊ ခုံမင်စရာဆို၍ ဘာမျှမရှိပါတကား" ဟူ၍ နှလုံးသိ သိအောင် တနည်းတဖုံ ရှုဒေါင့်တနေရာမှ ကြည့်ကြကုန်ဦးစို့။

"ရုပ်ဆိုတာ ဖောက်ပြန်တတ်တဲ့သဘော၊ ဖောက်ပြန်ဆိုတာက သူ့နဂိုအတိုင်း တည်တံ့လေ့မရှိဘဲ ရွေ့ရွေ့သွားတတ်တဲ့သဘော အဲဒါကြောင့် သူ့ကို ရုပ်လို့ ခေါ်တာ"

ဤသို့ ဆရာတွေကလည်း ဟောပြောကြ၏။ စာအုပ်တွေကလည်း အခိုင်အမာ ဆိုကုန်၏။ ဤသို့ ဟောကြ၊ ပြောကြတိုင်း ရေးကြ၊ သားကြတိုင်းကို ယုံသင့်-မယုံသင့် ကိုယ်ပိုင်ဉာဏ်ဖြင့် ခြင့်ချိန်ကြရန် အခါတပါးတွင် ဗုဒ္ဓမြတ်ဘုရားသည် ကာလာမ မင်းတို့အား သတိပေးတော်မူဘူးပေသည်။

အချင်းကာလာမမင်းတို့၊ ဤကား ငါ့ဆရာ၏ ဩဝါဒ ဟူ၍လည်း အခိုင်အမာ မယူကုန်လင့်။ လက်မခံလင့်ဦး။ ဤကား ကျမ်းဂန်ထွက် စကားဟူ၍လည်း အမှန်ဟု မယူ

ဆကြကုန်လင့်ဦး။ ဆရာက ပြောသည့်အတိုင်း ဟုတ် မဟုတ်ကိုလည်းကောင်း၊ ကျမ်းဂန်က ဆိုသောအတိုင်း မှန် မမှန်ကိုလည်းကောင်း ကိုယ်ပိုင်ဉာဏ်ဖြင့် ဝေဖန် ချိန်ဆပြီးမှ ယုံသင့်ရာကို ယုံကုန်ရာ၏၊ လက်ခံသင့်ရာကို လက်ခံကုန်ရာ၏။

ဤသို့ ဗုဒ္ဓ၏ သတိပေးတော်မူချက်ကို အခြေခံလျက် ရုပ်ဟာ ဆရာက ပြောဟောသည့်အတိုင်း၊ ကျမ်းဂန်တွေက ဆိုသည့် အတိုင်း အကယ်ပင် ဖောက်ပြန်သလော။ ဘယ်ပုံဘယ်နည်း ဖောက်ပြန်သနည်းဟူ၍ ရုပ်၏ ဖောက်ပြန်ပုံ အခြင်းအရာများကို ဉာဏ်မျက်စိထဲတွင် ထင်းကနဲ၊ လင်းကနဲ ဝင်းလက်လာအောင်၊ သဘောပေါက်လာအောင် ဖောက်ပြန်ချက်ကို လက်တွေ့စူးစမ်း ကြည့်ရာ၏။

ရုပ္ပတီတိရူပံ။ ။ ရုပ္ပတိ- ဖောက်ပြန်တတ်၏။ ဣတိတသ္မာ- ထို့ကြောင့်၊ ရူပံ-ရုပ်မည်၏။

မူလအရှိ ပကတိ အတိုင်းတည်နေခြင်းမရှိဘဲ ပုံပန်းသဏ္ဌာန်မှ စ၍ အခြေအနေတမျိုးမှ တမျိုးသို့ ပြောင်းလဲရွေ့လျားသွား မှုကို ဖောက်ပြန်ဟု ဆို၏။

ရုပ်သည် မည်သို့ ဖောက်ပြန်လေသနည်း။

ဥပမာ- စပါးဟူ၍ ရှိသည်။ ထိုစပါးသည် ရုပ်ဖြစ်၏။ ထိုစပါးကို စက်ထဲထည့်၍ ကြိတ်လျှင်၊ မောင်းထဲ ထည့်၍ ထောင်းလျှင် ဆန်ဖြစ်လာ၏။ စပါးမှ ဆန်အဖြစ်သို့ ပြောင်းလဲ လာခြင်းသည် ရုပ်၏သဘောအရ ဖောက်ပြန်ခြင်းပင်တည်း။

တဖန် ထိုဆန်သည် ဆန်အတိုင်း မနေလေဘဲ ဆန်မှ ဆန်မှုန့်ဖြစ်၍ ဖောက်ပြန်သွားပြန်၏။ ဆန်မှ ထမင်းဖြစ်၍ ဖောက်ပြန်သွားပြန်၏။ တဖန် ထမင်းပူမှ ထမင်းကြမ်းဖြစ်၍ ဖောက်ပြန်သွားပြန်၏။ ဤကား ရုပ်စပါးတခု၏ ဖောက်ပြန်မှု အမျိုးမျိုးတို့ ဖြစ်၏။

လူတို့ သွားလာခြင်း ဣရိယာပုထ် တခု၌ပင် ဖောက်ပြန်မှုတွေ အဘယ်မျှ များပြားပုံကို ရှုပါလေဦး။ ဥပမာ–ဈေးကို သွားသည် ဆိုပါတော့၊ ခြေကို တလှမ်းပြီးတလှမ်း လှမ်းကာ လှမ်းကာ ရွေ့လျားသည်ကို သွားသည်ဟု ခေါ်၏။ ခြေတလှမ်း တလှမ်း၌ လှမ်းတိုင်း လှမ်းတိုင်းမှာပင် အစ၊ အလယ်၊ အဆုံး သုံးပါးရှိ၏။ ခြေလှမ်း၏ ဖြစ်ပေါ်မှုသည် အစ၊ ခြေလှမ်း၏ ကြာညောင်းမှုသည် အလယ်၊ ခြေလှမ်း၏ သေဆုံးမှုသည် အဆုံး ဖြစ်၏။

ထင်ရှားစေဦးအံ့။ ပထမခြေလှမ်းကို လှုံ့ဆော်သောစိတ်သည် ပထမခြေလှမ်းရုပ် ဆုံးရာ၌ ချုပ်ဆုံး၏။ ဒုတိယခြေလှမ်းကို လှုံ့ဆော်သောစိတ်မျိုး ဖြစ်ပေါ်၏။ ဒုတိယခြေလှမ်း၏ ဆိုင်ရာ ရုပ်လည်း တမျိုး ဖြစ်ပေါ်ပြန်၏။ ရုပ်၏ ဖောက်ပြန်မှုသဘောပင်တည်း။

ဒုတိယခြေလှမ်း ရုပ်ဆုံးရာ၌ ထိုစိတ်လည်း ချုပ်ဆုံး၏။ ဤနည်းအတူ အလှမ်းတရာ သွားခဲ့လျှင် စိတ်အကြိမ်ပေါင်း တရာ၊ ရုပ်အကြိမ်ပေါင်း တရာ ချုပ်ဆုံး၏။ အလှမ်းတထောင် ဆုံးခဲ့လျှင် စိတ်အကြိမ်ပေါင်း တထောင်၊ ရုပ်အကြိမ်ပေါင်း တထောင် ချုပ်ဆုံး၏။ ရုပ်၏ဖောက်ပြန်မှု သဘောပင်တည်း။

ရှေးရှေးခြေလှမ်း၏ ဆိုင်ရာဖြစ်သော စိတ်စု၊ ရှေးရှေး ခြေလှမ်းခေါ်သော ရုပ်စုသည် နောက်နောက် ခြေလှမ်းသို့ မရောက်နိုင်။ သူ့ခြေလှမ်းနှင့်သူ အသီးသီး ချုပ်ဆုံးလေ၏။

ခြေလှမ်းတလှမ်းကို လှမ်းတိုင်းလှမ်းတိုင်း တကိုယ်လုံး ပါ၏။ အမျိုးမျိုးသော လှုပ်ရှားမှု အသစ်အသစ်တို့သည် ဖြစ်ပေါ်ကုန်၏။ စိတ် အသစ်အသစ်တို့ကြောင့် ဖြစ်ပေါ်သော ရုပ် အသစ်အသစ်တို့ ပေတည်း။ ရုပ်၏ ဖောက်ပြန်မှု သဘောပင် မြင်အောင် ရှုလေ။

တနေ့တနေ့အဘို့မှာ ဦးခေါင်း၊ ခြေလက်စသော ထိုထိုကိုယ် အင်္ဂါကြီးငယ်တို့ အထွေထွေ အလာလာ လှုပ်ရှားမှု၊ ထွက်သက်ရှူမှု၊ ဝင်သက်ရှိုက်မှု၊ မျက်တောင်ခတ်မှု၊ ပါးစပ်လှုပ်မှု အစရှိသော အမျိုးမျိုးသော ကိုယ်အင်္ဂါလှုပ်ရှားမှုတို့မှာလည်း သူ့လှုပ်ရှားနှင့် သူ့စိတ် အသီးသီး ဖြစ်သည်ချည်းပင်။ ဤကား ကာယကံရုပ် အမျိုးမျိုး ဖြစ်ပေါ်ဖောက်ပြန်ပုံတည်း။

ရုပ်ကို စိတ်က ဦးဆောင်၏။ သွားလိုသောဆန္ဒသည် စိတ်ဖြစ်၏။ စိတ်၏ လှုံ့ဆော်ချက်အရ ရုပ်က သွားရ၏။ ထိုစိတ်သည် ပုဂ္ဂိုလ် မဟုတ်၊ သတ္တဝါ မဟုတ်၊ သူ မဟုတ်၊ ငါ မဟုတ်၊ မိန်းမ မဟုတ်၊ ယောကျ်ားမဟုတ်၊ လူမဟုတ်၊ နတ်မဟုတ်၊ ဗြဟ္မာမဟုတ်။ စိတ်သည် စိတ်သာတည်း။ ဓာတ်တမျိုးသာ ဖြစ်၏။

ထိုစိတ်၏ လှုံ့ဆော်ချက်မှ ထွက်ပေါ်လာရသော တလှုပ်ရှားရှား သွားလာမှုသည်လည်း ပုဂ္ဂိုလ်၊ သတ္တဝါ၊ အတ္တ၊ ဇီဝ၊ မိန်းမ၊ ယောကျ်ား၊ သူ မဟုတ်၊ ငါ မဟုတ်။ ထို တလှုပ်

ရှားရှား သွားလာမှုကို ပြုတတ်သောသူဟူ၍ မရှိ။သွားတတ်သူဟူ၍ မရှိ။ လာတတ်သူဟူ၍ မရှိ။ ထိုင်တတ်သူ၊ ရပ်တတ်သူ၊ အိပ်တတ်သူ ဟူ၍ မရှိ။ ပြောတတ်သူ၊ ဆိုတတ်သူ ဟူ၍ မရှိ။ စိတ်တည်းဟူသော အကြောင်းတရား၏ အာနုဘော်ကြောင့် သွားရုပ်၊ လာရုပ်၊ ထိုင်ရုပ်၊ အိပ်ရုပ်၊ ပြောရုပ်၊ ဆိုရုပ်တို့၏ ဖြစ်ပေါ်ခြင်းမျှသာတည်း ဟူ၍ ရှင်းလင်းစွာ မြင်သော ဉာဏ်သည် ပစ္စယပရိဂ္ဂဟဉာဏ် မည်၏။

စိတ်သည် ဆန္ဒသာ ဖြစ်၏။ ပုဂ္ဂိုလ်သတ္တဝါ မဟုတ်။ သွားလာခြင်းသည် စိတ်ဆန္ဒအရ လှုပ်ရှားမှုသာ ဖြစ်၏။ပုဂ္ဂိုလ် သတ္တဝါ မဟုတ်။ ထိုင်၊ လျောင်း၊ ရပ်၊ သွား၊ စား၊ သောက်၊ ဆို၊ ပြောမှုတို့သည် စိတ်၏လှုံ့ဆော်ချက်အရ ထွက်ပေါ်လာရသော အမှုအရာများသာ ဖြစ်၏။ဤအချက်ကို အလေးအနက် ပိုင်ပိုင်နိုင်နိုင် သဘောပေါက်လျှင် ငါ့ကိုယ်၊ ငါ့ခန္ဓာ၊ ငါ့ရုပ် ဟူသော ရုပ်၌ စွဲလမ်းမှု ပျောက်လေ၏။ရုပ်ပျောက်သွားလျှင် ရုပ်၌ သာယာမှု၊ တွယ်တာမှု၊ ခုံမင်မှုတို့သည်လည်း ရုပ်နောက်သို့ တပြိုင်တည်း ပါသွားကုန်လေ၏။ ထိုအခါ အဘယ်သူသည် ထိုရုပ်၌ စွဲလမ်းမှု ရှိပါတော့မည်နည်း။

ထိုမှတပါး ရုပ်၏ ဖောက်ပြန်မှုများကို၊ ဤ အခြင်းအရာများကို ကြည့်ခြင်းအားဖြင့်လည်း ထင်ရှား၏။ ရုပ်သည် ဖောက်ပြန်တတ်၏။ ဖောက်ပြန်တတ်သော သဘောသည် ရုပ်မှာ ရှိ၏။ ဤသည်ကို စွဲမြဲစွာ မှတ်ထားပြီးနောက် ဆောင်းရာသီသို့ ရောက်လာပြီ ဆိုပါတော့။ ထိုအခါ ရာသီဉတု၏ ဒဏ်ကြောင့် ရုပ်သည် အေးလာ၏။ နွေရာသီသို့ ရောက်သောအခါကျလျှင်

လည်း ရာသီဥတု၏ဒဏ်ကြောင့်ပင် ရုပ်သည် ပူနွေးလာပြန်က အိုက်စပ်စပ်ကြီး ဖြစ်လာပြန်၏။ အေးသည်မှာလည်း ဤရုပ်၊ ပူသည်မှာလည်း ဤရုပ်ပင် ဖြစ်၏။ အခြားရုပ်တခုက လာ၍ အအေးဒဏ်၊ အပူဒဏ်ကို ခံလာသည် မဟုတ်။

အကယ်၍သာ ဤရုပ်သည် ဖောက်ပြန်ခြင်း မရှိခဲ့သော် မည်သည့် ဥတုဒဏ်ကို ခံရသည်ပင် ဖြစ်စေ၊ အေးလိုက်၊ ပူလိုက်၊ မဖြစ်ထိုက်ချေ။ အေးမှု၊ပူမှုဖြစ်ရန် အကြောင်းမရှိ။ ယခုသော်တမူ ရုပ်သည် ရာသီဥတုဒဏ်ကို မခံနိုင်ရှာချေ။ ရာသီဥတုပူလျှင် ရုပ်လည်း ပူလာလေ၏။ ရာသီဥတုက အေးလျှင် ရုပ်လည်း အေးလေ၏။ ဤသို့ ဖြစ်ရခြင်းမှာ အဘယ့်ကြောင့်နည်း။ အဖြေကား ရှင်းလှ၏။ ရုပ်၌ တည်တံ့သောသဘော မရှိ။ ကြံ့ခိုင်သောသဘော မရှိ။ နှိပ်လျှင် နှိပ်တတ်၏။ ဆွဲလျှင် ပါတတ်၏။ ဖောက်ပြန်တတ်၏။ ဖောက်ပြန်ရေးသမား ဖြစ်၏။ ထို့ကြောင့် ရုပ်သည် အေးသည့်အခါတွင် အေးရုပ် ပေါ်သတည်း။ ပူသော ရာသီတွင် ပူရုပ် ပေါ်သတည်း။

ဤမျှသာမကသေး ရုပ်သည် ဝေပြတ်ခြင်း ဒဏ်ကိုလည်း ခံနိုင်စွမ်း မရှိ။ ထမင်းဆာသောအခါ၊ ရေငတ်သောအခါ များတွင် ရုပ်သည် ရွှင်ရွှင်လန်းလန်း မရှိ။ ညှိုးတိညှိုးနွမ်း၊ မချမ်းမသာအသွင်မျိုး ပေါ်နေ၏။ ဝမ်းဝ ဗိုက်ကားနှင့် နင့်လောက်အောင် စားရသောအခါများ၌ကား ရုပ်သည် ကြည်ကြည်လင်လင်နှင့် ရွှင်သောအမူအရာကို ပြနေ၏။

ထို့ကြောင့် ရုပ်သည် ဖောက်ပြန်၏။ အမာခံသဘော၊ ကြံ့ကြံ့ခံနိုင်သောသဘော မရှိ။ ဆွဲရာပါတတ်၏။အပူကဆွဲလျှင် အပူရုပ်ပေါ်ပြီး အပူနောက်ပါ၏။ အပူရုပ်ဖြစ်လာ၏။ ထို့အတူ

အအေးကဆွဲလျှင် အအေးနောက်ပါပြီး အေးရုပ်ကြီး ဖြစ်လာ၏။ ချမ်းသာနှင့်တွေ့လျှင် ချမ်းသာနောက်ပါပြီး ရွှင်ရုပ်ကြီး ဖြစ်လာ၏။ ဆင်းရဲနှင့်တွေ့လျှင် ဆင်းရဲနောက်ပါပြီး မရွှင်ရုပ်ကြီး ထင်လာ၏။ ထို့ကြောင့် ဖောက်ပြန်ရေးသမား ဟူသော အမည်မှာ ရုပ်နှင့်အပူ ဆီလျော်သောအမည်၊ အံ့ဝင်ခွင်ကျ လှသော အမည်နာမ ဖြစ်လေသည်။

ထိုမှတပါး ရုပ်၏ဖောက်ပြန်ပုံများကို ရှုပါလေဦး။ ရုပ်ကို ရှက်ကြောပြတ်၊ အရှက်မရှိတဲ့အကောင်ဟု ဆိုက မှားအံ့မထင်။ အဘယ်ကြောင့်ဆိုသော် ပရိတ်သတ်ထူထပ်လှသည့် လူသူလေးပါးအလယ်၌ပင် ဖြစ်စေဦးတော့ စိတ်ထိခိုက်စရာတခုခုနှင့် ကြုံကြိုက်လျှင် အရှက်မရှိ၊ ရှိုက်ကြီးတငင်၊ ချုံးပွဲချ၍ ငိုပါလေ၏။ စိတ်နှလုံးကြည်နူး၍ အူမြူးဘွယ်နှင့် ကြုံကြိုက်ပြန်လျှင်လည်း အရှက်ကင်းမဲ့စွာ တဝါးဝါးနှင့် ဟားတိုက်၍ ရယ်ပါလေ၏။ ရုပ်၏ဖြစ်ပုံမှာ အဘယ်မျှဂုဏ်သိက္ခာ ထိခိုက်စေလေသနည်း။ သူသာ တည်တည်တန့်တန့် ဖြစ်ခဲ့သော် ဤသို့သောရှက်ဖွယ်မျိုးနှင့် တိုးမိရဘွယ် မရှိ။ ယခုသော်တမူ ရုပ်၏ဖောက်ပြန်ချက်ကြောင့် လူသူလေးပါး ပရိတ်သတ်အလယ်မှာ မျက်နှာ မပြရဲအောင် အရှက်ကွဲရလေပြီကော။

ခြုံ၍ကြည့်လျှင် ရုပ်သည် လွန်စွာစက်ဆုပ်ဘွယ်ကောင်း၏။ ရုပ်၌ ခင်တွယ်စရာ မြတ်နိုးစရာဟူ၍ တကွက်မျှ ရှာ၍မတွေ့။ ဆိုပါတော့ အရိုက်ခံရသည်မှာလည်း ရုပ်ကြောင့်။ ရုပ်မရှိလျှင် အဘယ်သူ ရိုက်မည်နည်း။ သူတပါး၏ ဆဲဆိုခြင်း၊ ကဲ့ရဲ့ခြင်း ခံရသည်မှာလည်း ရုပ်ကြောင့်။ ရုပ်မရှိလျှင် အဘယ်ကို ဆဲမည်နည်း၊ အဘယ်ကို ကဲ့ရဲ့မည်နည်း။ မတော်တဆ ကားတိုက်ခြင်းခံရ

သည်မှာလည်း ရုပ်ကြောင့်။ ရုပ်မရှိလျှင် ကားက အဘယ်ကို တိုက်မည်နည်း။ ဖျားခြင်း၊ နာခြင်း၊ ညောင်းညာခြင်း၊ ကိုက်ခဲခြင်း၊ ထုံခြင်း၊ ကျင်ခြင်း ဖြစ်ရသည်များမှာလည်း ရုပ်ကြောင့်။ ရုပ်မရှိလျှင် အဘယ်ကို ဖျားနာမည်နည်း၊ အဘယ်ကို ညောင်းညာကိုက်ခဲ မည်နည်း။

သတ္တုချသော် ဤရုပ်ကြောင့်သာ ငါ အရှက်ကွဲရသည်၊ ငါ အဆဲခံရသည်၊ ငါ အရိုက်ခံရသည်၊ ငါ ကားတိုက်ခံရသည်၊ ငါ ဖျားနာရ၊ ညောင်းညာရ၊ ကိုက်ခဲရ၊ ထုံရ၊ ကျင်ရသည် ဟူ၍ အူထဲအသဲထဲက သဘောပေါက်ခဲ့သော် အဘယ်သူသည် ရုပ်၌ စွဲလမ်းမှု ရှိချင်ပါတော့မည်နည်း။ ရုပ်၌ တွယ်တာမှု အာလယဖြတ်လိုက်သည်နှင့်တပြိုင်နက် ငါစွဲ၊အတ္တစွဲ၊သက္ကာယဒိဋ္ဌိသည် နောက်သို့ လှည့်ကြည့်ခွင့် မရတော့ဘဲ တချိုးထဲ လစ်လေ၏။ မိမိကိုယ်မှာ သက္ကာယဒိဋ္ဌိကွာသော် မြှော်လင့်သည် ဖြစ်စေ၊ မမြှော်လင့်သည်ဖြစ်စေ၊ သောတာပန်အဆင့်၊ အရိယာဘုံသို့ ရောက်သွားလေပြီတည်း။ ဤကား ရုပ်ကို ရှုဆ၍ သက္ကာယကွာသော သောတာပန်ဖြစ် လမ်းစဉ်ဖြစ်၏။

## အတိုက်ခံတတ် အခံခံတတ်မှ သောတာပန်သို့

ရန်ကုန်မှမန္တလေးသို့ လူ ၄ ယောက် ခရီးသွားကြရာ၌ တယောက်က သင်္ဘောဖြင့်၊ တယောက်က မော်တော်ကားဖြင့်၊ တယောက်က မီးရထားဖြင့်၊ တယောက်က လေယာဉ်ပျံဖြင့် သွားကြလေသတတ်။ အလျင်ရောက်နှင့် နောက်ရောက်သာ ကွာသည်။ ၄ ယောက်စလုံးပင် မန္တလေးသို့ ချောမောစွာ ရောက်သွားကြ၏။

ဤကား ဥပမာ ဖြစ်၏။ ဥပမေယျကား သောတာပန်တည်း။ မန္တလေးသွား ခရီးသည် ၄ ဦးနှင့် သောတာပန်သွား ခရီးသည်များကို တင်စား၍ဆိုခြင်း ဖြစ်၏။မန္တလေးသို့သွားရန် လမ်းအသွယ်သွယ်ရှိသကဲ့သို့ သောတာပန်ဖြစ် နည်းလမ်းများလည်း အသွယ်သွယ်ပင် ရှိသည်ဟု ဆိုလိုသည်။

သောတာပန်သို့ ဓာတ်လမ်း၊ ဓာတ်ရထားကြီး စီး၍ သွားကြည့်ကြပါဦးစို့။ငါ၊သူတပါး၊ ယောကျ်ား၊မိန်းမ၊ လူကောင်၊ နတ်ကောင်၊ ဗြဟ္မာကောင်တို့သည် ဓာတ်နှင့် ကင်းသူဟူ၍ တယောက်မျှ မရှိကုန်။ လူမှာလည်း ဓာတ်နှင့်၊ နတ်မှာလည်း ဓာတ်နှင့်၊ ဗြဟ္မာမှာလည်း ဓာတ်နှင့် အားလုံး ဓာတ်ကောင်ချည်း ဖြစ်ကုန်၏။

မှန်၏။လူကောင်၊နတ်ကောင်၊ ဗြဟ္မာကောင်၊ ငါကောင်၊ သူကောင်တိုင်း၌ ဓာတ် (၁၈)မျိုးစီ အသီးသီး ရှိကြ၏။ ယင်းဓာတ်ဖြင့် သံသရာကြီးကို ပတ်နေကြ၏။ ဓာတ် ၁၈-မျိုး ဟူသည်ကား-

အခံဓာတ် ၆ ပါး။
အတိုက်ဓာတ် ၆ ပါး။
အပေါ်ဓာတ် ၆ ပါး။

ဤသို့အားဖြင့် ၁၈ ပါး ဖြစ်သတည်း။ ယင်းဓာတ် ၁၈ ပါးကို ခွဲတမ်းချလိုက်သော်-

**အခံဓာတ် ၆ ပါး**- (၁) မျက်စိအကြည်ဓာတ်။
(၂) နှာခေါင်းအကြည်ဓာတ်။
(၃) လျှာအကြည်ဓာတ်။

(၄) ကိုယ်အကြည်ဓာတ်။
(၅) နှာအကြည်ဓာတ်။
(၆) မနောအကြည်ဓာတ်။

ဤကား အခံဓာတ် ၆ ပါးတည်း။

အတိုက်ဓာတ်၆ ပါး- (၁) အဆင်းဓာတ်။
(၂) အသံဓာတ်။
(၃) အနံ့ဓာတ်။
(၄) အရသာဓာတ်။
(၅) အတွေ့အထိဓာတ်။
(၆) စိတ်ကူးဓာတ်။

ဤကား အတိုက်ဓာတ် ၆ ပါးတည်း။

ဤ အခံဓာတ် ၆ ပါးနှင့် အတိုက်ဓာတ် ၆ ပါးကို ပေါင်းသော် ဓာတ်ပေါင်း ၁၂ ဓာတ်။ ယင်း ၁၂ ဓာတ်ကို ရုပ်ဓာတ်ဟု ခေါ်၏။

ရုပ်ဓာတ် ၁၂ မျိုးတည်း။

အခံဓာတ် ၆ မျိုးကို ဓာတ်မ၊ အတိုက်ဓာတ် ၆ မျိုးကို ဓာတ်ဖိုဟူ၍လည်း ဆိုနိုင်၏။ ဖို+မ တို့၏သဘောထား အဖိုနှင့် အမ၊သံဝါသမှုဖြင့် ဆက်ဆံမိလေသောအခါ သား သမီး ဖွားလေ၏။ဤကား ဖို မ ဆက်ဆံမှုဓမ္မတာတည်း။

အခံခေတ်နှင့် အတိုက်ခေတ်တို့သည် အဖို+အမ ဖြစ်သော ကြောင့် ဆက်ဆံကြ၏။သံဝါသမှု ပြုကြ၏။ဤသို့ အချင်းချင်း ဆက်ဆံမှုဖြင့် သံဝါသ ပြုကြရာ၌ စည်းကမ်းရှိကြ၏။ သစ္စာ ကြီးကြ၏။ တစ်-တစ်ချင်း၊နှစ်-နှစ်ချင်း သံဝါသ ပြုကြ၏။ တစ်က နှစ်ကိုသော် လည်းကောင်း၊ ငါးက နှစ်ကိုသော် လည်းကောင်း၊ သုံးက ခြောက်ကိုသော် လည်းကောင်း ဖောက်ဖောက်ပြားပြား ကျူးလွန်ခြင်း မရှိ၊ပြစ်မှားခြင်း မရှိ။ ဥပမာ—အဆင်း တည်းဟူသော အတိုက်ခေတ်၊ အဖိုနှင့် အခံခေတ်၊မျက်စိ ခေတ်မနှင့်သာ ဆက်ဆံ၏။ ခေတ်ဖိုဖြစ်သော အဆင်းသည် ခေတ်မဖြစ်သော နားနှင့် မည်သည့်အခါမျှ မှောက်မှောက်မှားမှား ဖောက်ပြားလေ့ မရှိ၊ ကျူးလွန်လေ့ မရှိဟု ဆိုလိုသည်။

စက္ခု ရူပေန သံဝါသာ၊
ရာဂ ပုတ္တံ ဝိဇာယတိ။

စက္ခု-မျက်စိတည်းဟူသော အခံခေတ် ခေတ်မသည်၊
ရူပေန-အဆင်းတည်းဟူသော အတိုက်ခေတ် ခေတ်ဖိုနှင့်၊
သံဝါသာ- ပေါင်းဖော် ဆက်ဆံမှုကြောင့်၊
ရာဂပုတ္တံ-ရာဂတည်းဟူသော သားကို၊
ဝိဇာယတိ-ဖွားမြင်လေ၏။

မျက်စိနှင့်ရူပါရုံ တွေ့ဆုံကြုံကြိုက် တိုက်ခိုက် မှိဝဲမိလေသော အခါ ဓမ္မတာသဘောအရ သား သမီး မွေးဖွား၏။

ဤ၌ ဖိုခေတ်နှင့်မခေတ် တိုက်ခိုက်မိလေသောအခါ၊ ဆက်ဆံပေါင်းသင်း မှီဝဲခြင်းပြုလေသောအခါ မည်သို့ သားကို ဖွားလေသနည်း။

**အသိခေတ်-၆ပါး**

(၁) အခံခေတ်(ခေတ်မ)မျက်စိနှင့် အတိုက်ခေတ်(ခေတ်ဖို) တိုက်ခိုက်မိသောအခါ တခုခုကို မြင်၏။ မြင်လျှင် ဘာဟူ၍ သိသော မြင်သိစိတ်ကလေး။

(၂) အခံခေတ် (ခေတ်မ) နားနှင့် အတိုက်ခေတ် (ခေတ်ဖို) အသံ တိုက်ခိုက်မိသောအခါ တခုခုကို ကြား၏။ ကြားလျှင် ဘာဟူ၍သိသော ကြားသိမှု စိတ်ကလေး။

(၃) အခံခေတ် (ခေတ်မ) နှာခေါင်းနှင့် အတိုက်ခေတ် (ခေတ်ဖို) အနံ့ တိုက်ခိုက်မိသောအခါ တခုခုကို နံ၏။ နံလျှင် ဘာ ဟူ၍သိသော နံသိမှု စိတ်ကလေး။

(၄) အခံခေတ် ခေတ်မ-လျှာနှင့် အတိုက်ခေတ် ခေတ်ဖို-အရသာ တိုက်ခိုက်မိသောအခါ တခုခုကို တွေ့၏။ တွေ့လျှင် ဘာဟူ၍ သိသော လျှက်သိမှု စိတ်ကလေး။

(၅) အခံခေတ် ခေတ်မ-ကိုယ်နှင့် အတိုက်ခေတ် ခေတ်ဖို-ထိတွေ့ တိုက်ခိုက်မိသောအခါ တခုခုကို ခံစားရ၏။ ခံစားရလျှင် ဘာ ဟူ၍ သိသော ထိတွေ့သိ စိတ်ကလေး။

(၆) အခံခေတ် ခေတ်မ-မနေနှင့် အတိုက်ခေတ် ခေတ်ဖို-
စိတ်ကူး တိုက်ခိုက်မိသောအခါ တခုခု ပေါ်၏။
ပေါ်လျှင် ဘာ ဟူ၍ သိသော တွေးသိ စိတ်ကလေး။

ဤသိမှုကလေး၊ ထိုသိမှုကလေးသည် အခံခေတ်၊ အတိုက်ခေတ် (ခေတ်မ-ခေတ်ဖို) တို့မှ ဖွားသောသား ဖြစ်၏။ ယင်းသိမှုစိတ်ကလေးကို အသိခေတ် ၆ပါးဟု ဆိုသည်။ ယင်းအသိခေတ် ၆-ပါးကို နာမ်ဟု ခေါ်၏။

မည်သည့် လူကောင်၊ နတ်ကောင်၊ ဗြဟ္မာကောင်၊ သူကောင်၊ ငါကောင်မှာပင် ဖြစ်စေ ပြဆိုခဲ့ပြီးသော အခံခေတ် ၆ပါး၊ အတိုက်ခေတ်-၆ပါး၊ အသိခေတ် ၆ပါး၊ ပေါင်းခေတ် ၁၈ပါးမှတပါး အခြားဘာမျှ မရှိပြီ။ ထို့ကြောင့် သူကောင်၊ ငါကောင်၊ လူကောင်၊ နတ်ကောင်၊ ဗြဟ္မာကောင်တွေကို ခေတ်ကောင်ဟု ဆိုခဲ့သတည်း။

ယင်းခေတ် ၁၈ပါးကို လိုရင်းချုပ်လိုက်သော် ရုပ်နှင့် နာမ်သာ ကျန်၏။အတိုက်အခံခေတ် ၁၂ပါးကား ရုပ်၊အပေါ် ခေတ် ၆ပါးကား နာမ်ဖြစ်၏။ မည်သည့်အကောင်မှာဘဲဖြစ်ဖြစ် ရုပ်နာမ်မှတပါး ဘာမျှမရှိ။

ထို့ကြောင့် ရှေးနိဿယများ၌-
အဟံ-နှစ်ဖြာနာမ်ရုပ်၊ အကောင်ပုပ်ကို ငါဟုသမုတ်၊
၇ အကျုံးနိုပ်သည် ဟူ၍ရင်း၊

အဟံ-ရုပ်နာမ်နှစ်ပြာ၊ ဟုတ်မှန်ရာကို ငါဟုမှည့်ခေါ်၊ တပည့်တော်သည် ဟူ၍ဝင်း ဘာသာ ပြန်ဆိုကြကုန်သတည်း။

သောတာပန် ဖြစ်လိုသော် သက္ကာယဒိဋ္ဌိကို ပယ်ရ၏။ သက္ကာယဒိဋ္ဌိကို မည်သို့ ပယ်မည်နည်း။ မည်သည့် အရာဖြင့် ပယ်မည်နည်း။

သက္ကာယကို ပယ်ရာ၌ ရုပ်မဟုတ်သောကြောင့် ဆူးကော်သလို ကုပ်နှင့် ကော်ပစ်၍လည်း မရချေ။ လက်ပံသားကို ခါးနှင့်ချိုင်သလို ခုတ်ချိုင်၍ ရစကောင်းသော အရာမျိုးလည်း မဟုတ်ချေ။ ငရုပ်သီးထောင်းသကဲ့သို့ ထောင်း၍ ရစကောင်းသော အရာမျိုးလည်း မဟုတ်ချေ။

အာရုံခံဓာတ် ၆ ပါး၌ မျက်စိ ပါ၏။ ထိုမျက်စိကလည်း သက္ကာယကို မပယ်နိုင်။ ထို့အတူ နား၊ နှာ၊ လျှာ၊ ကိုယ်၊ မနောတို့ကလည်း မပယ်နိုင်ကုန်။ တဖန် အတိုက်ခံဓာတ် ၆ ပါးထဲက ရူပါရုံဆိုသော ရုပ်အဆင်းများကလည်း သက္ကာယကို မပယ်နိုင်။ အသံ၊ အရသာတို့ကလည်း မပယ်နိုင်။ အခံဓာတ် ၆ ပါး၊ အတိုက်ခံဓာတ် ၆ ပါးတို့က အသီးအသီးသော်ငင်း၊ အင်တိုက်အားတိုက်နှင့် စုပြုံ၍သော်ငင်း သက္ကာယကို မပယ်နိုင်။ ပယ်ရအောင်ကလည်း သူတို့၏ အရာပင် မဟုတ်။

သက္ကာယဒိဋ္ဌိကို ပယ်နိုင်သည်ကား ဉာဏ်၊ပညာ၊သိမှု ဖြစ်၏။ သိမှု ပယ်နိုင်၏။ ထိုသိမှုကား နာမ်ဓာတ် ဖြစ်၏။

သက္ကာယဒိဋ္ဌိကား ရုပ်သတ်၍ မသေ၊ နာမ် သတ်မှ သေ၏။ ရုပ် ချေ၍ မကျေ၊ နာမ် ချေမှ ကျေ၏။ ရုပ်ဖျက်၍ မပျက်၊ နာမ် ဖျက်မှ ပျက်၏။ ရုပ် ဖြိုး၍ မပြို၊ နာမ် ဖြိုမှ ပြို၏။ ရုပ် လှဲ၍ မလဲ၊ နာမ် လှဲမှ လဲ၏။

ထို့ကြောင့် သောတာပန် ဖြစ်လိုသော် သဘောပေါက် အောင် သိမှု၊ ထိရောက်အောင် နာမ်ဓာတ်ကို နာနာ ရှုပေးရာ သတည်း။

ရှုပွားနည်း

အခံဓာတ် ၆ ပါးနှင့် အတိုက်ဓာတ် ၆ ပါးတို့သည် တစ်-တစ်ချင်း၊နှစ်-နှစ်ချင်း၊ ထိပ်ချင်းတိုက် တိုက်ကြသည်ဟု ဆိုခဲ့၏။

ယင်းတို့အနက် စက္ခုအခံဓာတ်၊ ဓာတ်မ-တစ်နှင့် အဆင်း ရူပါရုံ အတိုက်ဓာတ် ဓာတ်ဖို-တစ်တို့ တိုက်ခိုက်ကြရာ၌ ရှုပွားပုံ တခုကို သာဓကပြု၍ ကြည့်ကြပါစို့။

စက္ခုံစ ပဋိစ္စ ရူပေစ ဥပ္ပဇ္ဇတိ၊
စက္ခု ဝိညာဏံ၊ (ပဋ္ဌာန်းပါဠိတော်)

စက္ခုံစ-မျက်စိဟုဆိုအပ်သော စက္ခုအကြည်ဓာတ်ကိုလည်း၊ ပဋိစ္စ- အစွဲပြု၍၊ ရူပေစ-အဆင်းသဏ္ဌာန်ဟုဆိုအပ်သော ရူပါရုံ တို့ကိုလည်း၊ ပဋိစ္စ-အစွဲပြု၍၊ စက္ခုဝိညာဏံ- မြင်သိ စိတ်သည်၊ ဥပ္ပဇ္ဇတိ-အသစ်အသစ် ဖြစ်ပေါ်၏။

အခံခေတ် ၆ ပါးတွင် စက္ခုခေတ်၏ သတ္တိကား ကြည်လင်၏။ ကြည်လင်ခြင်းသည် စက္ခုခေတ်၏သတ္တိ ဖြစ်၏။ စက္ခုခေတ်သည် မိမိ၌ရှိသော၊ဝါ-မိမိတဦးတည်းပိုင်ဖြစ်သော ထိုကြည်လင်ခြင်းသတ္တိဖြင့် မြင်ခြင်းအလုပ် လုပ်နေ၏။ အခြားအလုပ်ကို သူမလုပ်။

ပမာအားဖြင့် စက္ခုခေတ်ကို ကြည်လင်သော ရေအိုင်ကြီးကဲ့သို့ မှတ်နိုင်၏။ကြည်လင်သော ရေအိုင်ကြီးတခု ရှိလေသတတ်။ ထိုရေအိုင်ကြီးထဲ၌ရှိ ငါးများ တလှုပ်ရှားရှားနှင့် သွားလာနေကြ၏။ ဤသို့ သွားလာနေကြသည်ကို အထင်းသား မြင်နေရ၏။ အဘယ့်ကြောင့် မြင်ရသနည်းဆိုသော် ရေကြည်သောကြောင့် ဖြစ်၏။ ရေအိုင်ကမ်းနဖူး၌ ရှိသော သစ်ပင်ကြီးငယ်တို့သည် ထိုရေအိုင်ထဲ၌ အထင်းသားစွဲထင်ကြခြင်းမှာလည်း ရေကြည်သောကြောင့်ပင် ဖြစ်၏။ အခံခေတ်သား ကြည်လျှင် ပတ်ဝန်းကျင်မှ အရိပ်များ စွဲထင်လာကုန်၏။ စက္ခုခေတ်၌ စွဲထင်လာကုန်သတည်း။

ထိုခေတ် ထင်ရှားသော ဥပမာကား ကြေးမုံခေါ်သော ကိုယ်လုံးပေါ် မှန်ကြီးတချပ် ထောင်ထား၏။ မှန်၏ သဘောသတ္တိကား ကြည်၏။ ကြည်ခြင်းသည် မှန်၏သတ္တိ ဖြစ်၏။ထိုမှန်၏ ရှေ့၌ ရှိသော အဆင်းသဏ္ဍာန်မျိုးစုံ ရူပါရုံတို့သည် ထိုမှန်ကြီးထဲ၌ စွဲထင်လာကုန်ခြင်းမှာ ကြည်သောကြောင့် ဖြစ်၏။ အခံမှန်သား ကြည်လျှင် ကြည်သလောက် ရူပါရုံများ ပြတ်ပြတ်သားသား စွဲထင်လာကုန်၏။ အခံမှန်သားမှုံလျှင်လည်း မှုံသည့်အားလျော်စွာ ရူပါရုံများ မှုံဝါးဝါး စွဲထင်လာကုန်၏။

လူတယောက်သည် ထို ကိုယ်လုံးပေါ်မှန်ကြီးနှင့် ယှဉ်ရပ် လျက် ရှေ့တူရှုကိုကြည့်လျှင် မှန်သားထဲ၌ စွဲထင်နေသော ရူပါရုံ အားလုံးသည် မျက်စိအကြည်ဓာတ်၌ စွဲထင်လာကုန်၏။ စက္ခု ဓာတ်သား ကြည်သောကြောင့် စွဲထင်လာခြင်း ဖြစ်၏။ ထိုသို့ စက္ခုဓာတ်နှင့် ရူပါရုံ အဆင်းဓာတ်တို့ တဖျပ်ဖျပ် တိုက်ခိုက်ချက် ကြောင့်သာ ထွက်ပေါ်လာသည်ဖြစ်သောကြောင့် ရူပါရုံများ ကို မြင်လေသောအခါ စက္ခု၌ စက္ခုဝိညာဏ်ခေါ်သော မြင်သိ စိတ် ဖြစ်ပေါ်လာ၏။ ထို မြင်သိစိတ်သည် ရူပါရုံများက လုပ်၍ ပေးသော မြင်သိစိတ် ဖြစ်လေ၏။

ဤ၌ စွဲထင်သည်ချင်း တူလျက် ကွာဟချက်ကား-

- မှန်သားသည် ရူပါရုံအဆင်းပုံသဏ္ဌာန်များကို မိမိ၏ အကြည်ဓာတ်တွင် ထင်ရုံသာ စွဲထင်စေနိုင်၏။ ဤအလုပ်ကိုသာ သူ လုပ်နိုင်၏။ ဝိညာဏ်ခေါ် သောအသိစိတ် သူ့မှာ မဖြစ်လေ။
- စက္ခု ဓာတ်သည်ကား ရူပါရုံ အဆင်းပုံသဏ္ဌာန် များကို မိမိ၏ အကြည်ဓာတ်တွင် စွဲထင်စေရုံ သာမက ဘာကို မြင်သည် ဟူ၍လည်း မြင်ရသော ရူပါရုံများ အပေါ်၌ မြင်သိစိတ် ဖြစ်ပေသည်။

မြင်သိစိတ်၌ - မြင်ခြင်းအားဖြင့် မြင်ခြင်းက တခြား၊ သိခြင်းက တခြား၊ ခွဲခြား၍ မှတ်ရာ၏။

သည်ဟာ လူ၊ သည်ဟာ နွား၊ သည်ဟာ အိမ်၊ သည်ဟာ ကျောင်းဟူ၍ မြင်မှု ဖြစ်ပေါ်အောင် မည်သူ လုပ်သနည်း။ မည်သူက လုပ်သောကြောင့် မြင်မှု ပေါ်လာသနည်း။

အဖြေမှာ ရှင်းလှ၏။ လူ မရှိပါဘဲလျက် လူကို မြင်နိုင်မည်လော။ လူရှိစေကာမူလည်း စက္ခုဓာတ် မျက်စိမရှိလျှင် မြင်နိုင်မည်လော။ ရူပါရုံနှင့်မျက်စိကို အကြောင်းပြု၍သာ မြင်မှုပေါ်လာရ၏။ ထို့ကြောင့် **မြင်မှု ဖြစ်ပေါ်အောင်** မည်သူလုပ်သနည်း ဟူသော မေးခွန်း၏အဖြေမှာ ရူပါရုံနှင့်မျက်စိဟူလေ၏။ ရူပါရုံနှင့်မျက်စိက လုပ်သောကြောင့် သည်ဟာ လူ၊ သည်ဟာ နွား၊ သည်ဟာ မိန်းမ၊ သည်ဟာ ယောကျ်ားဟူ၍ မြင်မှုဖြစ်ပေါ်သတည်း။

မြင်မှု ဖြစ်ပေါ်အောင်ပြုလုပ်သူ လက်သည်တရားခံမှာ ရူပါရုံ ဖြစ်သည်။ မျက်လုံး ဖြစ်သည်။ ငါ မဟုတ်။ ရူပါရုံနှင့် မျက်လုံးက လုပ်သောကြောင့်သာ မြင်မှု ပေါ်လာသည်။ ငါ လုပ်သောကြောင့် မဟုတ်။

ပေါ်လာသောမြင်မှုကို သည်ဟာလူ၊ သည်ဟာနွား ဟူ၍ ခွဲခွဲခြားခြားသိအောင် မည်သူက လုပ်သနည်း။ ဝိညာဏ်ခေါ်သောသိမှု၊ အသိစိတ်က လုပ်၏။ ငါလုပ်သည် မဟုတ်။ ဝိညာဏ်ခေါ် အသိစိတ်က လုပ်၏။ ငါလုပ်သည် မဟုတ်။ ဝိညာဏ်ခေါ်အသိစိတ်က လုပ်သောကြောင့်သာ လူဘဲ၊ နွားဘဲ ခွဲခွဲခြားခြားသိရခြင်း ဖြစ်သည်။

ငါလုပ်သောကြောင့်၊ ငါ၏ အစွမ်းအစကြောင့် မဟုတ်။

သတ္တုချလိုက်သော် ငါလုပ်သောအရာ ဘာမျှမရှိ။ ငါမြင်သောအရာ ဘာမျှမရှိ။ ငါသိသောအရာ ဘာမျှမရှိ။ မျက်စိ၊ ရူပါရုံ၊ မြင်သိစိတ်တို့က သူ့ကိစ္စ သူ့တာဝန်ကို ဆောင်ရွက်

နေခြင်းမျှသာ ဖြစ်သည်။ ငါနှင့် မည်သို့မျှမဆိုင်။ မြင်တတ်သော စက္ခုဓာတ် မျက်လုံးသည် ငါ မဟုတ်။ မြင်စရာရူပါရုံသည်လည်း ငါ မဟုတ်။ မြင်သိစိတ်သည်လည်း ငါ မဟုတ်။ သို့ပါလျက်ကို ငါမြင်သည်၊ ငါမြင်သည်၊ ငါသိသည် ဟူ၍ ကိုယ့်ကိုယ်ကို ဖိုးမြင်ကြီး၊ ဖိုးသိကြီး ထင်လာခဲ့သည်မှာ ဒိဋ္ဌိကြောင့် ဖြစ်သတည်း။

ဤသို့ အခံဓာတ်နှင့်အတိုက်ဓာတ်တို့ တိုက်ခိုက်မိရာမှ ဖြစ်ပေါ်လာသော မြင်သိမှုကို သေသေချာချာ၊ ကွဲကွဲပြားပြား၊ ခြားခြားနားနား၊ သဘောပေါက်အောင် ရှုနိုင်ကလည်း သက္ကာယဒိဋ္ဌိသည် ကိုယ်မှ ကွာလေ၏။ နားနှင့်အသံ တိုက်ခိုက်မိရာ၊ နှာခေါင်းနှင့်အနံ့ တိုက်ခိုက်မိရာ တို့၌လည်း-

ကြားအောင်လုပ်သူမှာ ငါ မဟုတ်။ ငါလုပ်သောကြောင့် ကြားသည်မဟုတ်။ နံ့အောင်လုပ်သူမှာ ငါမဟုတ်။ ငါလုပ်သောကြောင့် နံ့သည် မဟုတ် ဟူ၍ ပရမတ်ခိုက်အောင် စူးစူးစိုက်စိုက် သဘောပေါက်လျှင် သက္ကာယဒိဋ္ဌိ ပျောက်လေတော့၏။ သက္ကာယဒိဋ္ဌိ ပျောက်လေက သောတာပန်သည် ပြေး၍ မလွတ်တော့ပြီတည်း။

## နာမ်မှာ ဒိဋ္ဌိစိုက် ရုပ်မှာ တဏှာစိုက်

ပရိသတ် များစွာတို့အား တရား ဟောတော်မူရာ၌ သောတာပတ္တိမဂ်၊ အောက်မဂ်တပါး ရရန် အလားအလာ မြင်တော်မူပါလျှင် ဗုဒ္ဓ မြတ်ဘုရားသည် ဓာတ် ၁၈ ပါးကို ဟောတော်မူ၏။ ယင်းတွင်လည်း နာမ်ဓာတ်၊ အသိဓာတ် ၆ ပါးကို ဖိ၍ ဟောတော်မူ၏။

ယင်း နာမ်ဓာတ် ၆ ပါး၌ အသက်မရှိ၊ ငါမရှိ၊ ပုဂ္ဂိုလ်၊ သတ္တဝါဟူ၍ မရှိကြောင်းကို စည်နှင့်လက်ခတ် ဥပမာဖြင့် ဟောတော်မူ၏။ နာမ်ဓာတ်သည် စည်နှင့်လက်ခတ် ထိခိုက်မိသောအခါ ထွက်လာသောအသံနှင့် တူ၏ဟု ဆိုလိုသည်။

ယင်းအကြောင်းနှင့် ပတ်သက်၍ အဋ္ဌကထာဆရာကြီးများ မေး၊ ဖြေကြသည်မှာ အလွန်မှတ်သားဘွယ်၊ စိတ်ဝင်စားဘွယ် ကောင်းလှ၏။

(မေး) ဗုဒ္ဓ မြတ်ဘုရားသည် ဓာတ် ၁၈ ပါးကို ဘယ်အတွက် ဟောတော်မူပါသနည်း၊ ငါ့ရှင်။

(ဖြေ) များစွာသော သတ္တဝါတို့သည် အခံဓာတ်နှင့် အတိုက်ဓာတ်တို့ ဆိုင်ပြိုင် တိုက်ခတ်မိသော အခါများတွင် ဝိညာဏ်ခေါ်သော စိတ်ဓာတ်သိမှုကလေး ပေါ်လာ၏။ ယင်း ပေါ်လာသော စိတ်ဓာတ်ကလေးကိုပင် ငါဟု မှတ်ထင်သိမ်းပိုက်၍ ငါမြင်သည်၊ ငါကြားသည်ဟု အယူမှားခြင်း၊ ယင်းသိမှု စိတ်ဓာတ်ကလေးကိုပင် အသက်-ဇီဝ၊ အတ္တ၊ ပုဂ္ဂလ၊ နိစ္စဓူဝ-အမြဲဟု သက္ကာယဒိဋ္ဌိ၊ သဿတဒိဋ္ဌိ၊ အယူမှားကို ပယ်ဖျောက်၍ သောတာပန်ပေါက်အောင် ဟောပါသည်ဟု ဖြေ၏။

ဝိဇာနနသဘာဝေ ဝိညာဏော
ဇီဝသညီနံ၊ သညာ သမူဟနနတ္ထံ
အဋ္ဌာရသေဝ၊ ဝုတ္တာ။

ဝိဇာနန နသဘာဝေ-ထိုထိုအာရုံ အဖုံဖုံတို့ကို သိခြင်းသဘော ရှိသော၊ ဝိညာဏော-ပရမတ်ဟူသော ဝိညာဏ်သိစိတ်ကလေး၌၊

ဇီဝသညီနံ-ငါ၊ ငါ့အသက်ဝိညာဉ် ရှိ၏ဟု ထင်မှတ်ကာ အယူ
သည်းနေကုန်သော ပုထုဇဉ်တို့အား ဝါ၊ ပုထုဇဉ်တို့၏၊
(သညာ-သမူဟနနတ္တံ-၌ သညာမှာစပ်) သညာသမူဟနနတ္တံ-
မှားယွင်းဖောက်ပြန်နေသောအယူကို နုတ်ပယ်တော်မူခြင်းငှာ၊
အဋ္ဌာရသေဝ-အခံခေတ်၊ အတိုက်ခေတ်၊ အသိခေတ်တည်းဟူ
သော ခေတ်၁၈ ပါးတို့ကိုသာလျှင်၊ ဝုတ္တာ-ဟောတော်မူအပ်
ကုန်ပြီ။

ဤဖြေဆိုချက်ကို ထောက်ခြင်းအားဖြင့် နာမ်ခေတ်မှာ
ဒိဋ္ဌိစူးစိုက်ကြောင်း ထင်ရှား၏။ဤသည်ကို အစွဲပြု၍ပင် မြန်မာ
မှု၌ နာမ်မှာ ဒိဋ္ဌိစိုက်၊ရုပ်မှာ တဏှာစိုက်ဟု ဆောင်ပုဒ်ဖြစ်လာ
သတည်း။

## နာမ်မှာ ဒိဋ္ဌိစိုက်ပုံ

ဒို့မျှားတော့ သေလျှင်လည်း အရေးမကြီး၊ သေပျော်ပြီ၊
အသေ ဖြောင့်ပြီ။ ကုသိုလ်ကောင်းမှု၊ ဘုရား၊ တန်ဆောင်း
ကျောင်းကန်တွေလဲ ပြုပြီးပြီ။ကထိန်ခင်း၊ရှင်ပြု၊ ရဟန်းခံဆိုတာ
တွေလဲ မပြုဘူးတာ ငါ့မှာ မရှိဟု ဆိုပြောစကား၌
ငါဟူသော ဒိဋ္ဌိသည် နာမ်မှာ စိုက်သလား။ စဉ်းစားကြည့်။
နာမ်မှာ အမြဲမရှိ။နာမ်ကား အမြဲရှိ၏။ တဘဝမှာ တခါသေ၊
ခန္ဓာဟောင်းကို မြေမှာ မြှုပ်ထားခဲ့ပြီး ခန္ဓာသစ် ထည်လဲနှင့်
လူဖြစ်လဲ ဒီနာမ်၊ နတ်ဖြစ်လဲ ဒီနာမ်၊ ဗြဟ္မာဖြစ်လဲ ဒီနာမ်ဟု
မှတ်ထင်ခြင်းတား နာမ်မှာ ဒိဋ္ဌိစိုက်မှုပေတည်း။

ရုပ်မှာ တဏှာစိုက်ပုံ

(၁) လှတမျက်နှာ၊ ယဉ်တကိုယ်လုံး၊ ရှုမဆုံးအောင် လှသော ချောချောလှလှကိုမှ ကြိုက်တတ်သော အဆင်းကြိုက် တဏှာ။

(၂) အပြောကောင်း၊ အဟောကောင်း၊ အဆိုကောင်း၊ နားဝင်ပီယံ၊ ချိုသာသောအသံများကိုမှ ကြိုက်တတ်သော အသံကြိုက် တဏှာ။

(၃) ထုံတလှိုင်လှိုင်၊ကြိုင်တပျံ့ပျံ့၊ မွှေးသောအနံ့များကိုမှ ကြိုက်တတ်သော အနံ့တဏှာ။

(၄) မျိုးမျိုးမျက်မျက် အရသာကိုမှ မက်မောတတ်၊ ခံတွင်းတွေ့တတ်သော အရသာကြိုက် တဏှာ။

(၅) ညက်ညောအိစက်၊နူးနူးညံ့ညံ့ အတွေ့မျိုး၊အထိမျိုးကိုမှ စွဲမက်တတ်သော အတွေ့အထိကြိုက် တဏှာ။

(၆) ထွေထွေရာရာ စိတ်ကူးပြီး ကြည်နူးမှုကိုမှ ကြိုက်တတ်သော စိတ်ကူးကြိုက် တဏှာ။

ဤတဏှာ ၆ ပါးသည် ရုပ်ကိုမှီ၍ ဖြစ်၏။ ရုပ်ပေါ်မှာ နေ၏။ ရုပ်မှာ စွဲ၏။ရုပ်မှာ စိုက်၏။ သူစွဲ၊ငါစွဲ တစွဲထဲ စွဲနေကြသော စွဲလမ်းချက်တဏှာ ဥပါဒါန်မျိုးကား အဆင်းရုပ်၊ အသံရုပ်၊ အနံ့ရုပ်၊ အရသာရုပ်၊ ထိတွေ့ရုပ်၊ စိတ်ကူးလေသော အခါ ဤရုပ်များ၌ စူးစူးစိုက်စိုက် တဏှာငြိသည်။ ဤရုပ်များနှင့်ကြုံလေသော် တဏှာသည် မြုံနေသောအနာကြီး ထလာသကဲ့သို့ ခေါင်းထောင်၍ ထထလာပြီး ဟိုရုပ်ကို ကပ်၊

သည့်ရုပ်ကိုကပ်နှင့် ကပ်မိကပ်ရာကို ခွာမရအောင် တင်းကြပ်စွာ ကပ်ထားလေတော့သည်။

ထို့ကြောင့် သောတာပန်အဖြစ်သို့ရောက်ရှိသွားစေဦးတော့ တဏှာနှင့်တန်းလန်း ရှိနေသေးသောကြောင့် အခွင့်ကြုံလျှင် တဏှာသည် အညွန့်တလူလူနှင့် ခေါင်းပြူတစ်ပြူတစ် ဖြစ်လာ၏။ထိုတဏှာ ခေါင်းပါးသွားစေရန်အတွက်၊ အမြစ်ပြတ်သွားစေရန်အတွက် ရုပ်ကို ဖိ၍ ရှုရမည်။ ရာဂစိတ်များ ထကြွသောင်းကျန်းလာလျှင် မိမိကိုယ်ကို စက်ဆုပ်ဘွယ် ထင်လာအောင် အသုဘကမ္မဋ္ဌာန်းကို နာနာစီးဖြန်းပေးရာသတည်း။

## သက္ကာယ မသေသမျှ တဏှာကို သတ်၍မရ

အတ္တစွဲ၊သက္ကာယစွဲ အစွဲရှိသူတိုင်း၌ အမြစ်ကြီးနှစ်ခု ရှိ၏။ ထိုအမြစ်ကြီး ၂ ခုကား "အဝိဇ္ဇာ၊တဏှာမူလေန ဒွေမူလာနိ" ဟူပေ၏။အဝိဇ္ဇာတည်းဟူသော အမြစ်ကြီးတခု၊ တဏှာဟူသော အမြစ်ကြီးတခု။

သူသူငါငါ အတ္တစွဲရှိသူတိုင်း၌ အဝိဇ္ဇာမြစ်၊ တဏှာမြစ်ဟူသော ဤအမြစ်ကြီး ၂ ခုကား သံသရာရှည်စေသော၊ ဝဋ်သံသရာကို မရှည်လျှင် ရှည်အောင် မီးမွေးပေးနေသော အမြစ်ကြီး ၂ မြစ် ဖြစ်လေ၏။

တဏှာ အမြစ်ပြတ်အောင် သတ်လိုသော် သက္ကာယဒိဋ္ဌိကို အလျှင်သေအောင် သတ်ရ၏။သက္ကာယ သေပြီးသည့်တိုင်အောင် တဏှာကား မသေနိုင်သေး။အသက်ပြင်းလှ၏။ တဏှာသက်ပြင်း

ဖြစ်၏။ ဤရွှေ့ဤမျှ အသက်ပြင်းလှသော တဏှာ၏ သရုပ်ပေါ်အောင် ကျေးဇူးရှင် လယ်တီဆရာတော်ဘုရားက ဤသို့ ထုတ်ဖော်၍ ပြတော်မူ၏။ [၁]

လောက၌ ပကတိသော မြေစိုင်ခဲ၊ ကျောက်ခဲ၊ သလဲ စသည်တို့၌ ငြိတွယ်သောတဏှာကြောင့် သံသရာဝဋ်မှ မကျွတ်နိုင်၊ မလွတ်နိုင်ဟူ၍ မရှိ။

ရွှေ၊ ငွေ၊ ပုလဲ၊ ပတ္တမြား စသော ရတနာမျိုးတို့၌ ငြိတွယ်သောတဏှာကြောင့် သံသရာဝဋ်မှ မကျွတ်နိုင်၊ မလွတ်နိုင် ရှိနေကြ၏။ အသုံးမကျသော သစ်ပင်၊ သစ်တုံး စသည်တို့၌ ငြိတွယ်တတ်သောတဏှာကြောင့် သံသရာ ဒုက္ခမှ မကျွတ်နိုင်၊ မလွတ်နိုင် ဟူ၍ မရှိ။ ယောကျ်ား၊ မိန်းမ အချင်းချင်း ငြိတွယ်သော တဏှာကြောင့်သာ သံသရာဝဋ်ဒုက္ခမှ မကျွတ်နိုင်၊ မလွတ်နိုင် ရှိနေကြ၏။

အပါယ်ဘုံ၊ အပါယ်ဘဝ စသည်တို့၌ ငြိတွယ်သော တဏှာကြောင့် သံသရာဒုက္ခမှ မထွက်နိုင်၊ မလွတ်နိုင်သည် ဟူ၍ မရှိ။ လူ့ဘုံ၊ လူ့ဘဝ၊ နတ်ဘုံ၊ နတ်ဘဝ၊ ဗြဟ္မာဘုံ၊ ဗြဟ္မာဘဝ စသည်တို့၌ ငြိတွယ်သော တဏှာကြောင့်သာ သံသရာဒုက္ခမှ မကျွတ်နိုင်၊ မလွတ်နိုင် ရှိနေကြ၏။

အပါယ်ဘုံ၊ အပါယ်ဘဝစသည်တို့၌ ငြိတွယ်သော တဏှာကြောင့် သံသရာဒုက္ခမှ ကျွတ်နိုင်၊ လွတ်နိုင်သည် ဟူ၍ မရှိ။ လူကို လူ့ဘဝ၊ နတ်ကို နတ်ဘဝ၊ ဗြဟ္မာကို

---

၁။ လယ်တီ၊ ဘာဝနာဒီပနီ၊ ၁၈၅ (ဆဋ္ဌမှု)

ပြဟ္မာစသည်တို့၌ ငြိတွယ်သော တဏှာကြောင့်သာ သံသရာဒုက္ခမှ မကျွတ်နိုင်၊ မလွတ်နိုင် ရှိနေကြ၏။

အပါယ်ဆင်းရဲတို့၌ ငြိတွယ်သော တဏှာကြောင့် သံသရာဒုက္ခမှ မကျွတ်နိုင်၊ မလွတ်နိုင်ဟူ၍ မရှိ။ လူချမ်းသာ၊ နတ်ချမ်းသာ၊ ပြဟ္မာချမ်းသာတို့၌ ငြိတွယ်သော တဏှာကြောင့်သာ သံသရာဒုက္ခမှ မကျွတ်နိုင်၊ မလွတ်နိုင် ရှိနေကြ၏။

လောက၌ အသုံးမကျသော မြေစိုင်ခဲ၊ ရွှံ့ခဲတို့၌ ငြိတွယ်သော တဏှာကြောင့် သံသရာဒုက္ခမှ၊ အပါယ်ဒုက္ခမှ မကျွတ်နိုင်၊ မလွတ်နိုင်ဟူ၍ မရှိ။ မိမိတို့၏ စက္ခု၌ ငြိတွယ်သော တဏှာ၊ သောတ၌ ငြိတွယ်သောတဏှာ၊ ဃာန၌၊ ဇိဝှါ၌၊ ကာယ၌၊ မနော၌ ငြိတွယ်နေသော တဏှာကြောင့်သာ သံသရာဒုက္ခမှ မကျွတ်နိုင်၊ မလွတ်နိုင် ရှိနေကြရလေသတည်း ဟူ၍လည်းကောင်း-

စတုသစ္စဒီပနီကျမ်း[၁]၌လည်း-

(၁) အဆင်းသဏ္ဌာန် အစရှိသော ကာမဝတ္ထုတို့၌ မွေ့လျော်သော တဏှာသည် ကာမတဏှာ မည်၏။

(၂) မိမိ၏ အဇ္ဈတ္တသန္တာန်၌ ဖြစ်သောစျာန်၊ သမာပတ်တို့၌ မွေ့လျော်သော တဏှာသည် ဘဝတဏှာ မည်၏။

---

၁၊ လယ်တီ၊စတုသစ္စဒီပနီကျမ်း၊ဒီပနီပေါင်းချုပ်—(၂၃၀ ဆဋ္ဌမှု)

(၃) ဥစ္စာဒိဋ္ဌိနှင့် ယှဉ်၍ အတ္တ၏ မြတ်ခြင်းဟူသော မှောက်မှားသော အယူ၌ သာယာသော တဏှာသည် ဝိဘဝတဏှာ မည်၏။

သာယာလှသော တဏှာသည် ဝိဘဝတဏှာ မည်၏။ ဤသို့ တဏှာသုံးပါးနှင့် ၎င်းတို့၏ သတ္တိစွမ်းပကားကို ခွဲခွဲခြားခြား မြွက်ကြားတော်မူပြီးနောက် ကာမတဏှာ၏ အဖြစ်သနစ်ကို-

ဤကာမတဏှာသည် ကာမဘုံသားတို့ကို သား၊ မယားအာရုံ စည်းစိမ် ဥစ္စာ ရှာကြံသိမ်းပိုက်မှု ဟူသော အနမတဂ္ဂ ကြီးကျယ်လှစွာသော ဒုက္ခပင်လယ်ကြီး၌ အမြဲနှစ်၍ သတ်၏။

တောင်ပေါ်ကျ ရေသည် လမ်းစဉ်တလျှောက် ရှိနေသော သစ်ကိုင်းခြောက်၊ သစ်ရွက်ခြောက်၊ မြက်ခြောက်တို့ကို တဟုန်းတည်းမျှောယူ၍ သမုဒ္ဒရာသို့ ချလေသကဲ့သို့ ထို ဆာလောင်မွတ်သိပ်သော တဏှာကြီးသည် သူတော်ကောင်း တရားနှင့် ကင်းကွာသော တဏှာကာမဘုံသူနတ်လူများမြောင် အခြောက်ကောင်တွေကို အပါယ်လေးပါးသို့ အတင်းမျှောယူ ပစ်ချလေသည်။

ဟူ၍လည်းကောင်း၊ ထိုမှတပါး ဆရာတော်သည် ဘဝတဏှာ အတွက်ကိုလည်း အမှတ်တရပင် မြွက်ကြားထားခဲ့ပေ၏။

မြောက်ကျွန်းသူတို့၏ ဇောတိပါသာဏ ကျောက်ပေါ်၌ ချက်အပ်သော ထမင်းသည် အလွန်ကောင်းမြတ်သော အမျိုးမျိုးသော အရသာနှင့် ပြည့်စုံ၏။ ငါတို့

ကျွန်း၌ ဖြစ်သော ထောပတ်၊ ဆီဦး၊ ဝက်သား၊ ကြက်သား စသည်တို့နှင့် ဖက်တွဲဘွယ်ကိစ္စ မရှိ။ ဖက်တွဲ ခဲ့လျှင် လိုရင်းအရသာ ပျက်၍ကုန်၏။ ဖက်တွဲမိမည်ကိုပင် ကြောက်ရ၏။

ထို့အတူ ကာမစ္ဆန္ဒ၊ ဗျာပါဒ အစရှိသော နီဝရဏ အပူအပေါင်းတို့မှ ကင်းရှင်းသောစျာန်၊ သမာပတ်စိတ်ကို ရကြကုန်၏။ ထိုစိတ်ကား ပကတိအားဖြင့် အလွန်ကောင်းမြတ်သော၊ အရသာရှိသော ပီတိသုခရသနှင့် ပြည့်စုံ၏။ ထိုပုဂ္ဂိုလ်တို့သည် ထိုစျာန်စိတ်ကို ဝင်စားကာ ချမ်းသာခြင်းစိတ်ကို ခံစား၊ စံစားကြကုန်၏။ ပြင်ပ အာရုံတို့သည် ကြီးစွာသော အန္တရာယ်ဖြစ်ကုန်၏။

ထိုစျာန်စိတ်၊ စျာန်ဇောတို့ကိုရင်း၊ ထိုအကျိုး ဖြစ်သော ဗြဟ္မာဘဝကိုရင်း သာယာသော တဏှာသည် ဘဝတဏှာ မည်၏။

ဟူ၍ရင်း၊ ဘဝတဏှာ၏ သမိုင်းကို ပိုင်းပိုင်းခြားခြား ထင်ရှားအောင် ပြတော်မူ၏။

တဏှာသတ်မှုကား သကဒါဂါမ်၊အနာဂါမ် ပုဂ္ဂိုလ်တို့နှင့်သာ ဆိုင်၏။ သို့ပါလျက် တဏှာသည် သက္ကာယနှင့်ကွင်းဆက် ဆက်စပ်နေ၍ ဤ၌ တဏှာသတ်မှုကြီးအထိ ပြဆိုလိုက်ရခြင်း ဖြစ်၏။

ထိုအကြောင်းကို ဒသင်္ဂုတ္တရပါဠိတော်၌ ဗုဒ္ဓ မြတ်ဘုရား ဟောတော်မူသည်မှာ–

တယောမေ ဘိက္ခဝေ ဓမ္မေ အပ္ပဟာယ အဘဗ္ဗော ရာဂံ ပဟာတုံ၊ ဒေါသံ ပဟာတုံ၊ မောဟံ ပဟာတုံ။ ကတမေတယော၊ သက္ကာယဒိဋ္ဌိံ အပ္ပဟာယ၊ သီလဗ္ဗတ ပရာမာသံ အပ္ပဟာယ၊ ဣမေခေါ ဘိက္ခဝေ အပ္ပဟာယ၊ အဘဗ္ဗော ရာဂံ ပဟာတုံ ဒေါသံ၊ပဟာတုံ၊ မောဟံ ပဟာတုံ။

ဘိက္ခဝေ- မဂ်ပေါက်၊ဖိုလ်ဝင် ဖြစ်ချင်ရှယ်မှန်း အိုချစ်သား ရဟန်းတို့၊ တယော-သုံးမျိုးသုံးစားကုန်သော၊ ဣမေဓမ္မေ-ဤဆို လတံ့သော တရားတို့ကို၊ အပ္ပဟာယ- ရှေးဦးစွာ မပယ်ခွာလေ ဘဲ၊ ရာဂံ- ရာဂတဏှာကို၊ ပဟာတုံ- ပယ်ခြင်းငှာ၊ ဒေါသံ- အမျက် ဒေါသတဏှာကို၊ ပဟာတုံ-ပယ်ခြင်းငှာ၊ မောဟံ— မောဟတဏှာကို၊ ပဟာတုံ-ပယ်ခြင်းငှာ၊ အဘဗ္ဗော-မထိုက်ပြီ၊ ကတမေတယော- အဘယ်သုံးပါးတို့နည်း ဟူမူကား၊ သက္ကာယ- ဒိဋ္ဌိံ-သက္ကာယဒိဋ္ဌိကို၊ဝိစိကိစ္ဆံ-ဝိစိကိစ္ဆာကို၊ သီလဗ္ဗတပရာမာသံ- သီလဗ္ဗတပရာမာသကို၊ အပ္ပဟာယ— ရှေးဦးစွာ မပယ်ခွာလေ ဘဲ၊ ရာဂံ- တဏှာရာဂကို၊ ဒေါသံ—တဏှာဒေါသကို၊မောဟံ— မောဟတဏှာကို၊ ပဟာတုံ- ပယ်ခြင်းငှာ၊ အဘဗ္ဗော- မထိုက်ပြီ၊ ဣမေတယော- ဤသုံးပါးတို့ ဖြစ်ကုန်၏။

သက္ကာယဒိဋ္ဌိကို ကွာအောင် ခွာပြီးမှ ဝါ၊ သက္ကာယဒိဋ္ဌိကို ဝေးအောင် သတ်ပြီးမှ ရာဂတဏှာကို သတ်နိုင်၏။ ဒေါသ တဏှာ၊ မောဟတဏှာကို သတ်နိုင်၏။ သက္ကာယဒိဋ္ဌိကောင် ကြီးကို ပြိုအောင် မဖြိုနိုင်သေးသမျှ၊ သက္ကာယအကောင်ကြီးကို သေအောင် မသတ်နိုင်သေးသမျှ သက္ကာယ အဆောက်အဦ

ဗိမာန်ကြီးကို ပျက်အောင် မဖျက်နိုင်သမျှ ရာဂတဏှာ၊ ဒေါသ တဏှာ၊ မောဟတဏှာကို သတ်၍မရ။ ငါဟဲ့ ယောကျ်ား ဟု ကြုံးဝါးကာ သတ်တုံငြားသော်လည်း ဆင်းရဲခြင်းသာလျှင် အဖတ်တင်၏။ ရာဂတဏှာ၊ ဒေါသတဏှာ၊ မောဟတဏှာ ကား မည်သည့်အခါမျှ သေလေမည် မဟုတ်ချေ။

ထို့ကြောင့် တရားကို ကျင့်ဘို့ထက် သဘော ပေါက်အောင် သိဘို့က ခက်၏။ ထိုင်နေရင်းဖြစ်စေ၊ အိပ်နေရင်းဖြစ်စေ၊ သွားနေရင်းဖြစ်စေ၊ စားနေရင်းဖြစ်စေ တရားသားကျကျ "ဤကိုယ်၊ ဤကာယ၊ ဤခန္ဓာကောင်ကြီးဟာ မက်မောစရာ၊ တွယ်တာစရာ မရှိပါကလား" ဟူ၍ စူးစူးစိုက်စိုက် အသဲနှလုံး ခိုက်အောင် သဘောပေါက်ခဲ့သော် အဘယ်သူသည် သောတာ မပန်လျှင် ခံနိုင်ပါမည်နည်း။

## အကောင်ထဲမှာ ငါကိုရှာ သောတာပန်နှင့်တွေ့

ဤကျမ်းသည် သောတာပန်ကျမ်း ဖြစ်၏။ ထို့ကြောင့် သောတာပန် ဖြစ်ရာ ဖြစ်ကြောင်း အလားအလာများကို ရှုဒေါင့်အမျိုးမျိုးမှ ကြည့်၍ ဖော်ထုတ်ပြသနေခြင်း ဖြစ်သည်။ ယခုလည်း သောတာပန်စခန်းသို့ လက်တကမ်းမှ လျှောက်ကြည့် ကြပါကုန်ဦးစို့။

အကောင်ဟူသည် သတ္တဝါ ဖြစ်သည်။ သတ္တဝါကို အကောင်ဟုသမုတ်ရာက လူကောင်၊နတ်ကောင်၊ဗြဟ္မာကောင်၊ တိရစ္ဆာန်ကောင်တွေ ဖြစ်လာကုန်၏။ ပုထုဇဉ်တို့သည် ထို
၈ အကောင်၊ဤအကောင်ကို ငါ-ငါဟု သမုတ်နေကုန်၏။ ဤသို့

သမုတ်နေကြသည့်အတိုင်း အကောင်ထဲမှာ ငါ ရှိ၊ မရှိကို ကြည့်ကြကုန်စို့၊ ရှာကြကုန်စို့။

"ဤခန္ဓာ၊ ဤအကောင်ကြီးကား အဘယ်သို့သော အကောင်ကြီး ဖြစ်လေသနည်း"

ဤခန္ဓာ၊ ဤအကောင်ကြီးကား ဓာတ်လေးပါး၏ အစု အဝေးသာ ဖြစ်၏။ ပထဝီ-မြေဓာတ်၊ အာပေါ-ရေဓာတ်၊ ဝါယော-လေဓာတ်၊ တေဇော-မီးဓာတ်၊ ဤ ဓာတ်လေးလုံး စက်ခေါင်း တပ်ထားသော ယန္တရားရုပ်ကြီး ဖြစ်၏။

ပျောက်သောသူကို ရှာလျှင် တွေ့၏။ မဟာဘုတ်ဓာတ်ကြီး ၄ ပါး၏ အစုအဝေးဖြစ်သော ထိုအကောင် ယန္တရားစက်ရုပ်ကြီးမှာ ငါ ပျောက်နေသည်ဆိုပါတော့-အဲဒီငါကို ရှာကြည့်ကြရအောင်။ ရှာရာ၌ အပိုင်း ၄ ပိုင်းအနက် ကဏ္ဍ ၄ ခုခွဲကာ တသန့်စီ တသန့်စီ ရှာကြရအောင်။

**(၁) မြေဓာတ်ထဲမှာ ငါရှာခန်း။** ။ဓာတ် ၄ ပါးအနက် ပထဝီဓာတ်ကို မြေဓာတ်ခေါ်၏။ ယင်းမြေဓာတ်၏ သတ္တိကား မာ၏၊ ခက်မာသောသဘော ရှိ၏။ ယင်းမြေဓာတ်သည် အမျိုးအားဖြင့် ၂၀ ရှိသတည်း။

(၁) ဆံပင်ဓာတ်

(၂) မွေးညှင်းဓာတ်

(၃) ခြေသည်းဓာတ်၊လက်သည်းဓာတ်

(၄) သွားဓာတ်

(၅) အရေဓာတ်

(၆) အသားဓာတ်
(၇) အကြောဓာတ်
(၈) အရိုးဓာတ်
(၉) ရိုးတွင်း ချင်ဆီဓာတ်
(၁၀) အညို့ဓာတ်
(၁၁) နှလုံးဓာတ်
(၁၂) အသဲဓာတ်
(၁၃) အမြှေးဓာတ်
(၁၄) အဖျဉ်းဓာတ်
(၁၅) အဆုတ်ဓာတ်
(၁၆) အူမဓာတ်
(၁၇) အူသိမ်ဓာတ်
(၁၈) အစာသစ်ဓာတ်
(၁၉) အစာဟောင်းဓာတ်
(၂၀) ဦးနှောက်ဓာတ်

ဤဓာတ် ၂၀ သည် ပထဝီခေါ်သော မြေဓာတ်များဖြစ်၏။

ယင်းတွင် ဆံပင်၊ မွေးညှင်း၊ ခြေသည်လက်သည်း၊ သွား၊ အကြောနှင့် အရိုးတို့မှာ အမာဓာတ်ဖြစ်၍ အရေအသားစသော ကြွင်းသမျှ ဓာတ်များကား နူးညံ့ဓာတ်များ ဖြစ်ကြ၏။ ထို့ကြောင့် ယင်းတို့ကို ခက်မာဓာတ်၊နူးညံ့ဓာတ်ဟူ၍ ၂ မျိုး ခွဲခြား၍ မှတ်ရာ၏။

ဤဓာတ် ၂၀ ထဲမှာ ငါဆိုသော ငါကို ရှာကြည့်ပါ။ ခေါင်းမွေးထဲကစ၍ ရှာပါ။ဆံပင်မွေးဟာ ငါလား။လက်သည်း

တွေ့ဟာ ငါလား။ ငါဖြစ်ခဲ့သော် ခေါင်းမွေးတချောင်း ကျွတ်သွားလျှင် ငါပါ ပါမသွားပေဘူးလား။ လက်သည်းတွေ ဖြတ်ပစ်လျှင် ငါ ပါမသွားပေဘူးလား။ ဆံပင်ထဲမှာ ငါ ရှိသလား။ငါ တွေ့သလား။ မတွေ့ရ။ ဆံပင်သည် ဆံပင်သာ ဖြစ်သည်။ ငါ မဟုတ်။ ဆံပင်ထဲမှာ ငါ မရှိ။ ပျောက်သောသူ ရှာလျှင်တွေ့ ဆိုသကဲ့သို့ အကယ်တန်တိ ဆံပင်ထဲမှာသာ ငါ ရှိခဲ့သော် တွေ့ရမည်။ မတွေ့သည်မှာ မရှိ၍ ဖြစ်သည်။ စိတ်ကျေနပ်သည်အထိ အထပ်ထပ်အခါခါ ဆံပင်ထဲမှာ ငါကို ရှာပါလေဦး။

ပထဝီ-မြေဓာတ် ၂၀ ထဲမှာ ငါဆိုသောငါကို သန်း ရှာသလို ရှာငြားသော်လည်း ဘယ်နေရာမှာမှ မတွေ့။အသားထဲမှာလဲ မတွေ့။ အရိုးထဲမှာ၊ အကြောထဲမှာလဲ မတွေ့။ အူထဲ၊ အသဲထဲ၊ ဦးနှောက်ထဲမှာလဲ မတွေ့။ မတွေ့ရသည်မှာ ရှင်း၏။ မရှိသောကြောင့် မတွေ့ခြင်း ဖြစ်၏။

ငါ မရှိဘဲလျက်၊ငါ မဟုတ်ပါဘဲလျက် ဆံပင်၊ မွေးညှင်းတွေကိုပင်လျှင် ငါ၊ အသားတွေ၊ အကြော အရိုးတွေကိုပင် ငါ၊ အူသိမ်၊အူမ၊မစင်ဘင်ပုပ် ချေးတွေကိုပင် ငါဟု ထင်မှတ်စွဲလမ်းနေခြင်းမှာ အခြေအမြစ်မရှိကြောင်း ထင်ရှား၏။

ဣမသ္မိံ သရီရေ ကေသာနာမ
ပါဠိယေက္ကော ကေဋ္ဌာသော၊ အစေတနော
အဗျာကတော၊ သုညော၊ နိဿတ္တော၊
ထဒ္ဓေါ၊ ပထဝီဓာတု။

ဣမသ္မိံ သရီရေ-ဤ ခန္ဓာကိုယ်ကောင်၌၊ ကေသာနာမ-ဆံပင်တို့သည်၊ ပါဋိယေက္ကော - သီးခြား ဖြစ်သော၊ ကောဋ္ဌာသော-အစုတစုသာတည်း။ အစေတနော — ဆံပင်မှာ စိတ်မရှိ၊အဗျာကတော-ဆံပင်ကို ပုဂ္ဂိုလ်၊ သတ္တဝါဟု မဆိုအပ်၊ သုညော-ပုဂ္ဂိုလ် သတ္တဝါမှ ဆိတ်၏။ နိဿတ္တော-သတ္တဝါ အသက်မဟုတ်၊ထဒ္ဓေါ-ခက်မာ၏။ ပထဝီဓာတု-မြေဓာတ်အစု သာ ဖြစ်သည်။

(၂) **ရေဓာတ်ထဲမှာ ငါကိုရှာခန်း။** ။တဖန်ရေဓာတ်ထဲမှာ ငါကို ရှာကြည့်ကြပါစို့။ အာပေါဓာတ်ကို ရေဓာတ်ဟု ခေါ်၏။ယင်း၏သတ္တိကား ဖွဲ့စေတတ်၏။ ဖွဲ့စေခြင်းလက္ခဏာ ရှိ၏။ ယင်းရေဓာတ်သည် အမျိုးအစားအားဖြင့် ၁၂-မျိုး ရှိသတည်း။

(၁) သည်းခြေဓာတ်
(၂) သလိပ်ဓာတ်
(၃) ပြည်ဓာတ်
(၄) သွေးဓာတ်
(၅) ချွေးဓာတ်
(၆) အဆီခဲဓာတ်
(၇) မျက်ရည်ဓာတ်
(၈) ဆီကြည်ဓာတ်
(၉) တံတွေးဓာတ်

(၁၀) နှုပ်ခေါင်

(၁၁) အစေးခေါင်

(၁၂) ကျင်ငယ်ခေါင်

ဤကား အာပေါ-ရေဓာတ် ၁၂ ဖြစ်၏။ ရေသည် ယိုစီးတတ်၏။ ခန်းခြောက်တတ်၏။ တိုးပွါးအောင် ပြုတတ်၏။ ရေကို သောက်အပ်၏။ သောက်အပ်သော ပစ္စည်းမျိုး ဖြစ်၏။ ဤ ၁၂ မျိုးသော ရေဓာတ်ထဲမှာ ငါဆိုသော ငါကို ရှာကြည့်ပါ။ ထိုငါသည် မည်သည့်ချောင်တွင် ပုန်းနေသနည်း။ သလိပ်၊ သည်းခြေထဲ ဝင်၍ ပုန်းနေလေသလော။ သွေးထဲ၊ ချွေးထဲ၊ ပြည်ထဲ ဝင်၍ ပုန်းနေလေသလော။

ရှာသည်၊ ရှာသည်။ ရေဓာတ် ၁၂ မျိုးထဲမှာ ငါကို နှံ့အောင် ရှာသည်။ ဘယ်မှာမှ မတွေ့။ မတွေ့သည်မှာ ရှင်း၏။ မရှိသောကြောင့် မတွေ့ခြင်း ဖြစ်၏။ သို့ပါလျက် သွေးပုပ်၊ ပြည်ပုပ်၊ သလိပ်ပုပ်၊ နှပ်ပုပ်တွေကို ငါငါဟူ၍ တငါငါ စွဲလမ်းနေကြ၏။ ချစ်နေကြ၏။ တွယ်တာနေကြ၏။ အပြင် ထွက်လာသော ပြည်ပုပ်၊ သွေးပုပ်၊ တံတွေးပုပ်၊ နှပ်ပုပ်တွေကိုတော့ ရွံတတ်ကြသည်။ ရွံရမှန်း သိကြသည်။ သူကောင်၊ ငါကောင်ထဲက သွေးပုပ်၊ ပြည်ပုပ်၊ တံတွေးပုပ်၊ နှပ်ပုပ်တွေကိုကား မျိုထားတော့မလောက် ယုယုယယ ပိုက်ထွေးထားကြကုန်၏။ သွေးပုပ်၊ ပြည်ပုပ်၊ နှပ်ပုပ်တွေကိုပင် "ငါ"ဟူ၍ အချစ်ကြီး ချစ်နေကြကုန်၏။ စင်စစ်အားဖြင့်ကား-

ပိတ္တံနာမ-ပါဠိယေဏ္ကော ကောဋ္ဌာသော။

သည်းခြေ၊ သလိပ်မည်သည် သီခြား အစုတစုသာ ဖြစ်၏။ စိတ်မရှိ၊ ပုဂ္ဂိုလ်သတ္တဝါဟု မဆိုအပ်၊ ရေဓာတ်အစုသာ ဖြစ်၏။

(၃) **မီးဓာတ်ထဲမှာ ငါကို ရှာခန်း။** ။ကဲ— မြေဓာတ်၊ ရေဓာတ်ထဲမှာ ငါကို မတွေ့လျှင် ရှိစေတော့။ မီးဓာတ်ထဲမှာ ရှာကြဦးစို့။ တေဇောဓာတ်ကို မီးဓာတ်ဟု ခေါ်၏။ ယင်း၏ သတ္တိကား ကြေကျက်စေတတ်၏။ ကြေစေ၊ ကျက်နပ်စေတတ် သောသဘော လက္ခဏာရှိ၏။ ယင်းမီးဓာတ်ကား အမျိုးအစား အားဖြင့် ၄ မျိုး ရှိသတည်း။

(၁) ရက်ဆက် သို့မဟုတ် ရက်ချန် ဖျားနာတတ်သော သန္တပ္ပန တေဇော့ဓာတ်တမျိုး။

(၂) အရွယ်ကို ရင့်စေ၊ အိုစေတတ်သော ဇီရဏ တေဇော ဓာတ် တမျိုး။

(၃) စားသောက်အပ်သော အစာအာဟာရတို့ကို ကျက်စေ ကြေစေတတ်သော ပါစက တေဇောတမျိုး။

(၄) ပေါက်နာ၊ ကျောက်နာ စသည်တို့ကို ဖြစ်စေတတ် သော ဒါဟ တေဇောဓာတ် တမျိုး။

ဤကား ပူခြင်း၊ အေးခြင်း သဘောလက္ခဏာရှိသော တေဇောဓာတ် ၄ မျိုးဖြစ်၏။ ယင်း တေဇော မီးဓာတ် ၄ ပါး ထဲမှာ ငါဆိုသောငါကို ရှာကြည့်ပါ။ ထိုငါသည် အပူလိုက် ခေါင်းကြီးထဲမှာ ပုန်းအောင်းနေသလော။ အအေး ဂူရိပ်ထဲ တွင် အိပ်ပျော်နေသလော။ အပူထဲမှာလဲ တေဇောကို ရှာ၍

မတွေ့၊ အအေးထဲမှာလဲ ရှာ၍မတွေ့။ ထမင်းထဲ၊ ဟင်းထဲ၊ ပြည်တန်ဆာနှင့် အနာကြီးတွေထဲမှာလဲ ငါကို ရှာ၍မတွေ့။မတွေ့သည်မှာ အဘယ်ကြောင့်နည်း။

အဖြေမှာ ငါဟူ၍ မရှိသောကြောင့် ဖြစ်သတည်း။

သန္တပ္ပန တေဇော နာမ ပါဠိယေဝက္ကာ ကောဋ္ဌာသော။

သန္တပ္ပန တေဇောမည်သည် ကိုယ်၌ သီးခြား အစုတစု၊ ယင်းမှာ စိတ်မရှိ၊ပုဂ္ဂိုလ်၊သတ္တဝါဟူ၍ မဆိုအပ်၊တေဇောဓာတ်မျှသာ ဖြစ်၏။

(၄) လေဓာတ်ထဲမှာ ငါကို ရှာခန်း။ ။ကဲ— လေဓာတ်ထဲမှာ ရှာကြည့်ကြဦးစို့။ ဝါယောဓာတ်ကို လေဓာတ်ဟုခေါ်၏။ ယင်း၏သတ္တိမှာ ထောက်ကန်လှုပ်ရှားတတ်၏။ ထောက်ကန်လှုပ်ရှားခြင်းသဘော လက္ခဏာရှိ၏။ ယင်းလေဓာတ်မှာ အမျိုးအစားအားဖြင့် ၆ မျိုးရှိသတည်း။

(၁) အထက်သို့ ဆန်သောလေ၊
(၂) အောက်သို့ စုန်သောလေ၊
(၃) ဝမ်းတွင်း၌ တည်သောလေ၊
(၄) ကောဋ္ဌာသအစု၌ တည်သောလေ၊
(၅) အင်္ဂါကြီးငယ်သို့ လျှောက်သောလေ၊
(၆) ထွက်သက် ဝင်သက်လေ၊

ဤ ၆ မျိုးတည်း။ယင်းလေဓာတ် ၆ မျိုးထဲမှာ ငါကိုရှာပါ။ "ဘယ်နေရာမှာ ငါရှိသလဲ။ ငါ ပုန်းနေသလဲ" တွေ့အောင်ရှာကြည့်။ ဘယ်မှာမှ ငါကို မတွေ့ရ။ မတွေ့သည်မှာ မရှိသောကြောင့် ဖြစ်သတည်း။

ဆိုခဲ့ပြီးသော မြေဓာတ်-ပထဝီ ၂၀၊အာပေါ-ရေဓာတ် ၁၂၊ တေဇော-မီးဓာတ် ၄ ပါး၊ဝါယော-လေဓာတ် ၆ တို့၌ သိတတ်သောသဘော မရှိ။ "ခက်မာ၊ ဖွဲ့စေး၊ ပူ၊ အေး၊ ထောက်ကန်" ဟူသော သဘာဝ လက္ခဏာ ၄ ချက်သာ ရှိ၏။ပုဂ္ဂိုလ်၊သတ္တဝါသဘော မရှိ။

ထိုမှတပါး ယင်းဓာတ် ၄ ပါးတို့ကို အမှီပြု၍ ဖြစ်လာသော မျက်စိ၊ နား၊နှာ၊လျှာ၊ ကာယ၊ ဘာဝဟဒယ ရုပ်တို့သည်လည်း အဆင်း၊အသံ၊အနံ့၊အရသာ၊ အတွေ့အထိ အာရုံတို့သည်လည်း သိတတ်သောသဘော မရှိ၊ ရုပ်မည်၏။

ထို့ပြင် အဆင်းကို မြင်လျှင် သိတတ်သော စက္ခုဝိညာဏ် မြင်သိစိတ်၊အသံကို သိတတ်သော သောတဝိညာဏ် ကြားသိစိတ်၊ အနံ့ကို သိတတ်သော ဃာနဝိညာဏ် နံသိစိတ်၊ အရသာကို သိတတ်သော ဇိဝှာဝိညာဏ် လျက်သိစိတ်၊အတွေ့အထိကို သိတတ်သော ကာယဝိညာဏ် တွေ့သိစိတ်၊ ဓမ္မာရုံကို သိတတ်သော မနောဝိညာဏ် ကြံသိစိတ်တို့သည် အာရုံကို သိတတ်သောကြောင့် နာမ်မည်၏။

ထို့ကြောင့် ငါ ငါ ဟူ၍ တငါငါ စွဲလမ်းနေသော ဤရုပ်ကောင်ကြီးကို ငါ ဟုတ်၊မဟုတ် စေ့စေ့တွေးလျှင် တရေးရေး ပေါ်လာလတ့်။ တရေးရေးမှ လင်းလင်းထင်းထင်းကြီး ပေါ်ထင်လာလတ့်။

(ရုပ်) (က) ရုပ်ံ နေတံ မမ၊တော်ရုပ်ံ-ဆံပင်၊မွေးညှင်း၊မျက်စိ၊ နား၊နှာ စသော ဤရုပ်ကောင်သည်၊မမ-ငါ၏၊ နသန္တက်-ငါ့ဥစ္စာမဟုတ်။

(ခ) နေသောဟမသ္မိ၊ ဇသော- ဆံပင်၊ မွေးညှင်း၊ မျက်စိ၊ နား၊ နှာ စသော ဤ ရုပ်ကောင်သည် နဟမသ္မိ-ငါမဟုတ်။

(ဂ) န မေသောအတ္တာ ဇသော-ဤ ရုပ်သည်၊ မေ-ငါ၏၊နအတ္တာ-အစိုးတရ ဖန်တီးနိုင်သော အတ္တ မဟုတ်၊ ငါ့အလိုသို့ မပါ။

ဤသို့ အမှန်ကို အမှန်အတိုင်း မြင်လျှင် ဤရုပ်၌ ခင်တွယ်လိုစိတ် ရှိနိုင်ပါဦးမည်လား။ ဝေဒနာ၌၎င်း၊ သညာ၌၎င်း၊ သင်္ခါရ၌၎င်း၊ ဝိဉာဏ်၌၎င်း ခင်လို၊ တွယ်လိုစိတ် ရှိနိုင်ပါဦးမည်လား။

ဤသို့ ခန္ဓာငါးပါး၌ အပြစ်မြင်လာသောအခါ-

ဧဝံပဿံ ဘိက္ခဝေ သုတဝါ အရိယသာဝကော ရူပသ္မိံ ပိနိဗ္ဗိန္ဒတိ။ [၁]

ဘိက္ခဝေ-သူစွဲ၊ငါစွဲ၊ အတ္တစွဲ စွဲနေကြကုန်သော အိုချစ်သားတို့၊ဧဝံ-ဤသို့၊ ပဿံ ပဿန္တော-ခန္ဓာငါးပါး၌ အနိစ္စ၊ ဒုက္ခအားဖြင့် မြင်သော၊ သုတဝါ-သုတရှိသော၊

၁၊ ခန္ဓဝဂ္ဂသံယုတ်ပါဠိတော် ၅၆၊ ဝိနည်းမဟာဝါ ပါဠိတော် ၂၀။

အရိယသာဝကော-မြတ်သောသာဝကသည်၊ ရူပသ္မိံ ပိ-ရုပ်၌လည်း၊နိဗ္ဗိန္ဒတိ-ငြီးငွေ့လာ၏။ဝေဒနာယပိ-ဝေဒနာ၌လည်း၊ နိဗ္ဗိန္ဒတိ-ငြီးငွေ့လာ၏။ သညာယပိ- သညာ၌လည်း၊ နိဗ္ဗိန္ဒတိ-ငြီးငွေ့လာ၏။ သင်္ခါရေသုပိ-သင်္ခါရတို့၌လည်း၊နိဗ္ဗိန္ဒတိ-ငြီးငွေ့လာ၏။ဧဝံ-ဤသို့၊နိဗ္ဗိန္ဒံနိဗ္ဗိန္ဒန္တော-ငြီးငွေ့သော၊ အရိယ သာဝကော- အရိယသာဝကတို့သည်၊ ဝိရဇ္ဇတိ- ခန္ဓာသင်္ခါရတို့၌ တပ်ခြင်း ကင်း၏။ ဝိရာဂံ- ဝိရာဂန္တော- တပ်ခြင်း ကင်းလေသည် ရှိသော်၊ ဝိမုစ္စတိ-ခန္ဓာအာရုံ၌ ခင်တွယ်သောတဏှာမှ၊ဝိမုတ္တသ္မိံ-လွတ်ပြီ၊သည်၌ ဝိမုတ္တမိတိ-လွတ်ပြီဟူ၍၊ ဉာဏံ-သိသော ပစ္စဝေက္ခဏာဉာဏ်သည်၊ ဟောတိ-ဖြစ်၏။

ဤ၌ ဝိရဇ္ဇတိ ပုဒ်အရ ခန္ဓာသင်္ခါရတို့၌ တွယ်တာလိုစိတ်၊ ခင်မင်စိတ် မရှိတော့ခြင်းသည် သက္ကာယဒိဋ္ဌိ ပျောက်သွားခြင်း ပင်တည်း သက္ကာယ ပျောက်လေသော် သောတာပန်ဘဝ ရောက်လေပြီတည်း။

၃၂ - ကောဋ္ဌာသကို ဖွဲ့စည်းထားသော လူကောင်၊ နတ်ကောင်၊ ဗြဟ္မာကောင်တွေထဲမှာ ငါကို ရှာလေသော အခါ ဘယ်သူဘဲ ရှာရှာ ၊ ဘယ်လိုဘဲ ရှာရှာ ငါကို တွေ့မည် မဟုတ်။ ငါကို မတွေ့သည့်အဆုံးတွင် စိတ်နှလုံး ဒိုးဒိုးချရသေ မည်ကား "ငါ မဟုတ်၊ ငါ့ဥစ္စာ မဟုတ်၊ ငါ့အလိုသို့ မပါ ပါတကား" ဟူ၍ ဖြစ်၏။ ထိုအခါ သက္ကာယကွာ၍ တွေ့လာ၊ မြင်လာ၊ ထင်လာသည်ကား သောတာပန် ဟူပေ၏။

## သောတာပန်ဖြစ်ကြောင်း အင်္ဂါ ၄- ပါး

သောတာပန် ဖြစ်ထိုက်သော အရည်အချင်းကို အထက်၌ ဆိုခဲ့ပြီး ဖြစ်၏။ သက္ကာယဒိဋ္ဌိ ကွာလျှင် သောတာပန် ဖြစ်ပြီ ဟူ၍လည်း ဆိုခဲ့ပြီး ဖြစ်၏။ သို့ပါလျက်လည်း သောတာပန် ဖြစ်ကြောင်း အင်္ဂါ ၄ ရပ်ကို အမှတ်တရ ဤတွင် ထပ်၍ ပြဆိုပါဦးအံ့။

ဘုရားကိုရင်း၊ တရားတော်ကိုရင်း၊ သံဃာတော်ကိုရင်း၊ လှိုက်လှိုက်လှဲလှဲ၊ အူထဲအသဲထဲက ကြည်ညိုခြင်းအားဖြင့် သောတာပန် တည်ကုန်သော လူ၊ နတ်၊ ဗြဟ္မာတို့သည် များစွာ ရှိကြကုန်၏။ ဆိုလိုသည်မှာ ရတနာသုံးပါးကို ယုံကြည်စွာ ဆည်းကပ် မြတ်နိုး ကိုးကွယ်လျှင်လည်း သောတာပန် ဖြစ်နိုင် ပါသတည်း။

(၁) အရဟံ-သမ္မာသမ္ဗုဒ္ဓ-အစရှိသော ဘုရားဂုဏ်တော်၌ မတုန်မလှုပ် သက်ဝင်၍ ကြည်ညိုခြင်းတပါး။

(၂) သွာက္ခာတ-အစရှိသော တရားဂုဏ်တော်၌ မတုန် မလှုပ် သက်ဝင်၍ ကြည်ညိုခြင်းတပါး။

(၃) လောကုတ္တရာ သမာဓိ၏ ပဒဋ္ဌာန်ဖြစ်သော သီလ ဝိသုဒ္ဓိဂုဏ်နှင့် ပြည့်စုံခြင်းတပါး။

(၄) သုပ္ပဋိပန္န - အစရှိသော သံဃာဂုဏ်တော်၌ မတုန် မလှုပ် သက်ဝင်၍ ကြည်ညိုခြင်းတပါး။

ဤကား သောတာပန်အဖြစ်သို့ ကောန်မုချ ယခုဘဝမှာပင် ရောက်နိုင်သော အင်္ဂါ ၄ ရပ် ဖြစ်သည်ဟု ဆိုပေသည်။

ဗုဒ္ဓေ အဝေစ္စပ္ပသာဒေန သမန္နာဂတော- ဟူ၍ လာရှိသော ပါဠိတော်၌ အဝေစ္စပသာဒ ပုဒ်၏ အဓိပ္ပာယ်မှာ မတုန်မလှုပ် သက်ဝင်ယုံကြည်ခြင်းဟု ဆိုလိုသည်။ ဘုရားဂုဏ်၌ ဥပစာရ သမာဓိကို ရသောသူ၏ သဒ္ဓါပေတည်း။

**ဥပစာရသမာဓိ**- ဆိုသည်ကား ဣတိပိသော ဘဂဝါ အရဟံ စသည်ဖြင့် ဘုရားဂုဏ်တော်ကို ကြည်ညိုနေဆဲ အခါ၌ "ဈာန်သမာပတ်ကို ဝင်စားသကဲ့သို့" ဘုရားဂုဏ်တော်၌ စိတ်တည်ငြိမ်၍နေသော သမာဓိတည်း။ ထိုသမာဓိကို မြင်လျှင် သဒ္ဓါ၏အစိုးရမှု အထူးကို သိအပ်၏။ ထိုပုဂ္ဂိုလ်သည် ဘုရား ဂုဏ်တော်ကို ကြည်ညိုမှု၌ မိမိစိတ်ကို အစိုးရလေ၏။ တရားဂုဏ် သံဃာဂုဏ်တို့၌လည်း ဤနည်းအတိုင်းပင်တည်း။

**လောကုတ္တရာ သမာဓိ၏ ပဒဋ္ဌာန်ဖြစ်သော သီလဝိသုဒ္ဓိ ဆိုသည်ကား**- ယခုဘဝမှာပင် လောကုတ္တရာသမာဓိသို့ တက်နိုင် ရန် အခြေခံအနေနှင့် စောင့်ထိန်းအပ်သော အာဇီဝဋ္ဌမက- နိစ္စသီလကို ဆိုသည်။ ထိုသီလသည် အကျိုးအပေါက် အပြောက် အကျားတို့မှ ကင်းရှင်းသည် ရှိသော်ငင်း၊ တဏှာ၊ မာန၊ ဒိဋ္ဌိ စသော ကိလေသာတို့ကြောင့် ညှိုးနွမ်းခြင်းမှ ကင်းရှင်းသည် ရှိသော်ငင်း သီလအရာ၌ သဒ္ဓါ၏အစိုးရမှု အထူးကိုသိအပ်၏။

နိစ္စသီလ မလုံခြုံမှုကို ကျိုးပေါက်ပြောက်ကျားဟု ဆိုသည်။ လုံခြုံပြန်လျှင်လည်း ထိုသီလကို တံခွန်ပြုလျက် လောကနှင့် လုံးထွေးရစ်ပတ် ထွေးယှက်၍နေမှုကို ညှိုးနွမ်းခြင်းဟု ဆိုသည်။ နွား ကောင်း မကောင်းကို ချောင်းအတက်မှ သိရသည်

ဆိုသကဲ့သို့ ရတနာသုံးပါးကို ကြည်ညိုလှပါသည်ဆိုသော ဗုဒ္ဓဘာသာဝင် သူတော်စင်အပေါင်းတို့သည် သဒ္ဓါအရာ၌ စိတ်ရှူး၊ စိတ်နှမ်း ပျောက်၊ မပျောက် စိတ်ကိုအစိုးရသူ ဟုတ်၊ မဟုတ်ကို ဤလေးဌာနသို့ ရောက်မှ သိရသည် ဟူပေ၏။

ရတနာသုံးပါး၏ ဂုဏ်ကို လိုက်လိုက်လှဲလှဲ သက်ဝင်ယုံကြည်ခြင်းအားဖြင့် သောတာပန် ဖြစ်သွားသူတို့ကား မရေတွက်နိုင်အောင်ပင် များပြားကြောင်း ကျမ်းဂန်တို့၌ ထင်ရှားစွာ ပြဆိုပေကုန်၏။

## လယ်တီဆရာတော်ဘုရား၏ သောတာပန္နကထာများ

သောတာပန် အကြောင်းကို ဗုဒ္ဓ မြတ်ဘုရားသည်လည်းကောင်း၊ အဋ္ဌကထာ ဆရာတို့သည်လည်းကောင်း နေရာအားလျော်စွာ ဟောပြောချက် ဖွင့်ဆိုချက်တို့သည် များစွာရှိကုန်သော်လည်း သိမ်မွေ့၊ နက်နဲလှ၍ ဉာဏ်နုသူတို့အနေဖြင့် အဓိပ္ပာယ် ထိရောက်အောင် သဘောပေါက်အောင် မယူနိုင်ကြကုန်။

ကျေးဇူးရှင် လယ်တီဆရာတော်ဘုရားကြီးသည် ဒေသစာရီ ကြွချီတော်မူ၍ နေရာအနှံ့အပြား မြို့ရွာအနှံ့အပြားတို့၌ တရားဟောတော်မူရာတွင်၎င်း၊ ဒီပနီကျမ်းပေါင်းများစွာတို့ကို ပြုစုတော်မူရာတွင်၎င်း၊ သောတာပန်နှင့် စပ်လျဉ်း၍ ပတ်သက်ရာပတ်သက်ကြောင်းကို အခါအားလျော်စွာ ဟောကြားမှု၊ ရေးစီရင်မှုများကို ပြုသွားတော်မူ၏။ ဆရာတော်၏ ဟောပြောချက်၊ ရေးသားချက်များသည် ကြားနာရသူတို့အား သဘောပေါက်

လွယ်စေ၏။ အသိ ရှင်းရှင်းနှင့် သောတာပန်အလင်းသို့ ရောက်အောင် ပို့ဆောင်တော်မူ၏။

ဤနေရာတွင် လယ်တီဆရာတော်၏ သောတာပန္နကထာကို ကြားနာကြရလျှင် ပို၍ အကျိုးရှိမည်ဟု ယုံကြည်သဖြင့် ဆရာတော် ပြုစုခဲ့သော ဒီပနီကျမ်းဟောင်းများစွာတို့၏ အနက်မှ သောတာပန်နှင့် ပတ်သက်သည့် အချက်အလက်များကို ရွေးချယ်ပြီး အဆီစစ်၍ အနှစ်ကို ဖော်ပြလိုက်ပါသည်။

## (က) သောတာပန်မည်ပုံ

ဗောဓိပက္ခိယဒီပနီ ၃၂၇၊ (ဆဋ္ဌမူ၊ ဒီပနီပေါင်းချုပ်) ၌ အများနားလည်အောင် သောတာပန်တရား ဟောကြားသွားတော်မူသည်မှာ–

အဘယ့်ကြောင့် သောတာပန်ခေါ်သည် ဟူမူကား ဟိမဝန္တာမှ စီးလာကြကုန်သော မြစ်ကြီးငါးသွယ်၊ မြစ်ငယ်ငါးရာ ရေအလျဉ်တို့သည် နောက်သို့ ပြန်နစ်ခြင်း မရှိကုန်မူ၍ မဟာသမုဒ္ဒရာသို့ အရောက် စီးသွားကြကုန်သောကြောင့် သောတမည်ကုန်၏။

ထို့အတူ ထိုအရိယာတို့သည်လည်း ပုထုဇဉ်အဖြစ်သို့ တဖန်ပြန်ရောက်ခြင်း မရှိကြကုန်မူ၍ အနုပါဒိသေသ နိဗ္ဗာန်သို့သာ တဖြောင့်တည်း ဆန်တက်၍ သွားကြကုန်၏။ ပုထုဇဉ်တို့သည် ဘဝဂ်ဘုံမှသော်လည်း အဝီစိသို့တိုင်အောင် အောက် အောက်ဘုံသို့ တဖန် ပြန်ရောက်ကြသကဲ့သို့ ထိုအရိယာတို့သည် မိမိတို့ဖြစ်ရာဘုံမှ အောက် အောက်ဘုံသို့ တဖန် ပြန်ရောက်ခြင်း မရှိကြ

ကုန်ပြီ။ အထက် အထက်ဘုံသို့ ဆန်တက်ဘို့ရာ တပေါက် တလမ်းသာ ရှိကြကုန်၏။

ပုထုဇဉ်တို့သည် ရူပ၊ အရူပ ဗြဟ္မာ တိဟိတ်ကြီး ဖြစ်ကြ ကုန်ပြီးမှ ခွေး၊ ဝက်၊ ကြက်၊ ငှက် စသော ဒုဂ္ဂတိအဟိတ် တိုင်အောင် အောက် အောက်သို့ တဖန် ပြန်ရောက်ကြသကဲ့သို့ ထိုအရိယာတို့သည် ပုထုဇဉ်အဖြစ်သို့ တဖန် ပြန်ရောက်ခြင်း မရှိကြကုန်ပြီ။ အထက် အထက် အရိယာပုဂ္ဂိုလ် အဖြစ်သို့ ဆန်တက်ဘို့ အပေါက်တပေါက်သာ ရှိကြကုန်၏။

ဤသို့ ဘုံအားဖြင့်ရင်း၊ ဘဝအားဖြင့်ရင်း ယုတ်နိမ့်ရာ အဘို့သို့ တဖန် ပြန်ရောက်ခြင်း မရှိကြကုန်မူ၍ တဘုံထက်တဘုံ၊ တဘဝထက် တဘဝ မြင့်ရာအဘို့သို့ မြတ်ရာအဘို့သို့ ဆန်တက်မှု တပေါက်တလမ်းသာ ရှိကုန်သည် ဖြစ်၍ အနုပါဒိသေသ နိဗ္ဗာန်သို့ ကူးကြကုန်လတံ့။ ဤသို့ အနုပါဒိသေသ နိဗ္ဗာန်တိုင် အောင် တဖြောင့်တည်း၊ တတန်းတည်း ဆန်တက်သွားမှုကို "ဓမ္မသောတ" ခေါ်သည်။

(၁) သမ္မာဒိဋ္ဌိ သောတ။
(၂) သမ္မာသင်္ကပ္ပ သောတ။
(၃) သမ္မာဝါစာ သောတ။
(၄) သမ္မာကမ္မန္တ သောတ။
(၅) သမ္မာအာဇီဝ သောတ။
(၆) သမ္မာဝါယာမ သောတ။
(၇) သမ္မာသတိ သောတ။
(၈) သမ္မာသမာဓိ သောတ။

(၁) **သမ္မာဒိဋ္ဌိသောတ။** ။ထိုတွင် သမ္မာဒိဋ္ဌိသောတဆိုသည်ကား သက္ကာယဒိဋ္ဌိအနုသယနိုင်ငံကြီး ပျက်စီးကုန်ဆုံးသောအခါ၌ ထို သက္ကာယဒိဋ္ဌိနိုင်ငံကြီးအရာမှာ သစ္စာ ၄ ပါးကို အလင်းမြင်နိုင်သော "သမ္မာဒိဋ္ဌိနိုင်ငံကြီး"ဖြစ်၍ တည်လေ၏။တည၌လုံး မှောင်အမိုက်တို့၏ တည်ရာ၌ နေထွက်၍လာသောအခါ နေရောင် အလင်းဖြစ်၍ တည်သကဲ့သို့တည်း။

ထို သမ္မာဒိဋ္ဌိ အလင်းနိုင်ငံကြီးသည် အနုပါဒိသေသနိဗ္ဗာန်စံရာ ဘဝတိုင်အောင် ဘဝများစွာ ကမ္ဘာအဆက်ဆက်တည်လေတော့သည်။ တဘဝထက် တဘဝ ထွန်းလင်းစည်ကား၍သာ သွားတော့သည်။

လောက၌ အမိဝမ်းမှ ဖွားစဉ်အခါ အန္တရာယ်ကပ်ငြိ၍ မျက်စိနှစ်လုံး တိမ်သလ္လာထူထပ်စွာဖုံး၍ အလင်းကိုမျှ မမြင်ဘူးရသောသူမှာ ဝိဇ္ဇာမယဆေးကောင်း၊ မျက်စဉ်းကောင်းနှင့်တွေ့၍ တိမ်သလ္လာ အကုန်ကွာပျောက်သည်နှင့်တပြိုင်နက် စက္ခုအမြင်နှင့် ပြည့်စုံသော သူကောင်းပကတိ ဖြစ်၏။ အသက်ထက်ဆုံး မြေ၊ မိုး၊ ကောင်းကင်၊ နေ၊ လ၊ နက္ခတ်၊ အရပ်ဆယ်မျက်နှာ အလင်းပွင့်၏။ ဘယ်အခါမဆို ကြည့်လိုမြင်လိုသောအခါ မြင်နိုင်၏။

ဤ ဥပမာကဲ့သို့ ထိုသောတာပန် အရိယာတို့သည် ဖြစ်လေရာရာ ဘဝအဆက်ဆက်တို့၌ လက္ခဏာရေး ၃ ပါး၊ သစ္စာ၄ပါး
၉ တရားတို့သည် အလင်းပွင့်ကုန်၏။ ကြည့်လို၊ မြင်လို၊ ဆင်ခြင်လို

သောအခါ ကောင်းကင်၊ နေ၊ လ၊ နက္ခတ်တို့ကို လင်းလင်းထင်ထင် မြင်နိုင်ကြကုန်၏ ဟုလိုသည်။ဤကား သမ္မာဒိဋ္ဌိသောတတည်ဆောက်ပုံတည်း။

ဆရာတော်သည် မဂ္ဂင်ရှစ်ပါးကို ဓမ္မသောတမည်ပုံ အစဉ်အတိုင်း တခုချင်း လင်းအောင် ရှင်းပြတော်မူပြီးလျှင် အဆုံး၌ သောတာပန်ဝိဂြိုဟ်နှင့် နိဂုံးချုပ်တော်မူ၏။

သောတံ အာဒိတော ပဇ္ဇိံ သုပါပုဏိံ သုတိ သောတာပန္နာ။

ယေ-အကြင်သူတို့သည်၊ သောတံ-အရိယာသောတသို့၊ (အရိယာ ရေစီးကြောင်းကြီးထဲသို့) အာဒိတော-အစစွာ၊ ပဇ္ဇိသုပါပုဏိသု - ရောက်ကြကုန်ပြီ၊ ဣတိ-ထို့ကြောင့်၊ တေ-ထိုသူတို့သည်၊ သောတပန္နာ-သောတာပန် မည်ကုန်၏။

ထို့နောက် ဆရာတော်ဘုရားသည် ယင်း ဗောဓိပက္ခိယဒီပနီ ကျမ်း ၃၃၀ ၌ သောတာပန်တို့ဘဝကို အောက်ပါအတိုင်း ဆက်၍ ပြတော်မူပြန်၏။

## (ခ) သောတာပန်တို့၏ သဘာဝ

ထိုသူတို့သည် အရိယာသောတနယ်တွင်းသို့ ရောက်ကုန်သည်နှင့်တပြိုင်နက် ပုထုဇဉ်ဘုံကို လွန်မြောက်ကုန်၏။ လောကီဘုံသူ၊ လောကီဘုံသား မဟုတ်ကြကုန်ပြီ။ လောကုတ္တရာဘုံသူ၊ လောကုတ္တရာဘုံသား ဖြစ်ကြကုန်လေ၏။ ဝဋ္ဋဒုက္ခဘုံသူ၊ ဝဋ္ဋဒုက္ခဘုံသားများ မဟုတ်ကြကုန်ပြီ။ နိဗ္ဗာန်ဘုံသူ၊ နိဗ္ဗာန်ဘုံသား

ဖြစ်ကြကုန်လေ၏။ ဘဝအဆက်ဆက်၊ကမ္ဘာအဆက်ဆက် ပထမနိဗ္ဗာန်နယ်တွင်းမှ မထွက်ကြရကုန်ပြီ။ သက္ကာယဒိဋ္ဌိ အနုသယနိုင်ငံကြီးသို့ တဖန် ပြန်ရောက်မှု၊ ပုထုဇဉ်အဖြစ်သို့ တဖန်ပြန်ရောက်မှု မရှိကြကုန်ပြီဟု ဆိုလိုသည်။

သဉပါဒိသေသ ပထမနိဗ္ဗာန်ကြီး၌ အမြဲ တည်ကြကုန်၍ အလိုရှိရာ ကောင်းမြတ်ရာ လူချမ်းသာ၊ နတ်ချမ်းသာ၊ ဗြဟ္မာချမ်းသာတို့ကို ဘဝများစွာ၊ကမ္ဘာအဆက်ဆက် ခံစား၊စံစား၍ သွားကြရကုန်၏ဟူ၍ ရေးသားတော်မူပြီးနောက် "အကျယ်ကို သိလိုမူ ငါတို့စီရင်သော စတုသစ္စဒီပနီကျမ်း၊ ပရမတ္ထသံခိပ်ကျမ်းတို့မှာ ကြည့်လေ"ဟူ၍ ညွှန်းသွားတော်မူ၏။

ဝိပဿနာဒီပနီကျမ်း ၆၁(ဆဋ္ဌမူ၊ ဒီပနီပေါင်းချုပ် နိဂုံး)၌ ကား တရားအားထုတ်နေကြသော ယောဂီပုဂ္ဂိုလ်တို့အား အားပေးစကား မြွက်ကြားသွားတော်မူ၏။ မလျှော့သော ဇွဲလုံ့လဖြင့် အားထုတ်သင့်ကြောင်း၊ သောတာပန်ပုဂ္ဂိုလ်မှာ မိမိကိုယ်ကို သောတာပန် ဖြစ်၊မဖြစ်ကို သိရန် ခဲယဉ်းကြောင်း၊ သောတာပန်ဖြစ်လျှင် ဖြစ်နေမည်ဖြစ်ကြောင်း မြွက်ကြား၍ အောက်ပါအတိုင်း အားပေးသွားတော်မူ၏။

## (ဂ) သောတာပန် ဖြစ်မှန်းသိရန် ခဲယဉ်းပုံ

သောတာပန် ဖြစ်၍နေသော ပုဂ္ဂိုလ်သည် မိမိကိုယ်ကို ငါ သောတာပန်ဖြစ်ပြီဟူ၍ အမှန်အားဖြင့် သိနိုင်ခဲ၏။အဘယ်ကြောင့်နည်းဟူမူ ကိလေသာတို့၏ အနုသယ အခိုက်အတန့် နက်နဲလှသောကြောင့်တည်း။

ကိလေသာတို့၏ အနုသယ အခိုက်အတန့် နက်နဲပုံကို မသိကြကုန်သော ယောဂီပုဂ္ဂိုလ်တို့သည် ဒိဋ္ဌိဝိစိကိစ္ဆာတို့၏ ဝိက္ခမ္ဘနကိစ္စနှင့် ကင်းကွာ၍နေရုံမျှကိုပင် "ငါ သောတာပန်ဖြစ်ပြီ" ဟု ထင်တတ်ကြ၏။ ဒိဋ္ဌိ ဝိစိကိစ္ဆာတို့၏ သမုစ္ဆေဒကိစ္စနှင့် အနုသယ ဘုံကြီးကိုပါ ကင်းပြတ်၍ သွားမှသာလျှင် သောတာပန် အစစ်အမှန် ဖြစ်ပေသည်။

ဝိပဿနာ ယောဂီပုဂ္ဂိုလ်တို့မှာမူကား "အထင်အမြင်နေရာကျသော အနိစ္စာနုပဿနာဉာဏ်ကို ရ၍နေလျှင်ပင် ကောင်းမြတ်လှပြီ" ဟု ဝမ်းမြောက်၍သာ ထိုအလုပ်ကို တသက်လုံး စွဲမြဲကြကုန်ရမည်။

ရဟန္တာဖြစ်ပြီးသော ပုဂ္ဂိုလ်တို့သော်မှလည်း စိတ္တသုခ အကျိုးငှာ ထိုအလုပ်ကို မလွှတ်ကြပေကုန်။ ယောဂီပုဂ္ဂိုလ်တို့မှာလည်း ထိုအလုပ်ကို အသက်ထက်ဆုံး ဆွေးနွေးကြသည်ရှိသော် ဉာဏ်ပညာအဆင့်ဆင့် ရင့်သန်၍ သွားကြသဖြင့် ယခုဘဝတွင်ပင် မသေမီအကြား၌သော်၎င်း၊ သေခါနီးအခါ၌သော်၎င်း ပုထုဇဉ်ဘူမိ၊ ပုထုဇနဂတိတို့ကို လွန်မြောက်၍ အရိယာဘူမိ၊ အရိယာဂတိသို့ ပေါက်ရောက်ကြကုန်လတံ့။ ယခုဘဝ၌ပင် မပေါက်ရောက်ရှိကြသော်လည်း နောက်ဘဝ၌ နတ်ပြည်သို့ ရောက်ကြ၍ ပေါက်ရောက်ကြကုန်လတံ့ဟူ၍ ဤသို့ အားပေး နှစ်သိမ့်စေတော်မူ၏။

## (ဿ) သောတာပန်ဖြစ်လေရာ သာသနာ အမြဲပါပုံ

ထိုမှတပါး လယ်တီ ဆရာတော်ဘုရားသည် သောတာပန် နှင့်ပတ်သက်၍ အနတ္တဒီပနီ-၇၄ တွင်လည်း-

နတ်တို့မှာလည်း သောတာပန်အနေနှင့် ကျွတ်သူ များကြသည်။ ထို့ကြောင့် ယခုအခါ၌ စတုမဟာရာဇ်နတ်ပြည်မှာ သောတာပန်အပြည့်၊ တာဝတိံသာစသော အထက်နတ်ပြည်တို့မှာလည်း အရိယာသောတာပန် အပြည့်၊အထက်အထက် ဗြဟ္မာပြည်တို့မှာမူကား သောတာပန်အပြည့်၊ သကဒါဂါမ်အပြည့်၊ အနာဂါမ်အပြည့်၊ရဟန္တာအပြည့် ရှိနေကြကုန်၏။

နတ်ပြည် ၆ ထပ်လုံးသည် ယခုအခါ အရိယာဘုံကြီးတွေဖြစ်၍နေ၏။ယခုအခါ စတုမဟာရာဇ်ဘုံရှိ အရိယာတို့သည် အနှစ် ၉ သန်းမျှ စတုမဟာရာဇ်နတ်စည်းစိမ်ကို ခံစား စံစားပြီးလျှင် အထက်အထက် နတ်ပြည်၊ဗြဟ္မာပြည်တို့သို့ ဘုံစဉ်စံ၍သွားကြကုန်လတံ့။ အောက်သို့လည်းခွင့် မရှိကြကုန်ပြီ။ နတ်စည်းစိမ်၊ဗြဟ္မာစည်းစိမ်တို့ကို ဘဝများစွာ၊ ကမ္ဘာများစွာ ခံစား၊စံစားပြီး၍ အကနိဋ္ဌဘုံသို့ ရောက်သောအခါ ပရိနိဗ္ဗာန်ပြုကြကုန်လတံ့။

ဘုရား လက်ထက်တော်၌ ထိုထိုဒေသနာကို ကြားနာ၍ သောတာပန် အရိယာအဖြစ်သို့ ရောက်သောနေ့မှစ၍ ကမ္ဘာများစွာ နတ်ချမ်းသာ၊ ဗြဟ္မာချမ်းသာတို့ကို အစဉ်ခံစား၊စံစားပြီးနောက် အကနိဋ္ဌဘုံသို့ရောက်၍ ပရိနိဗ္ဗာန်စံသည့်တိုင်အောင် ထိုနတ်တို့၏ စိတ်သန္တာန်မှာ ငါတို့ မြတ်စွာဘုရား သာသနာတော်မြတ်ကြီးသည် အစဉ်အမြဲ ပါ၍နေလေတော့သည်။ထိုနတ်တို့မှာ သာသနာပသည်ဟူ၍ မရှိပြီ။ ဘုရား၊ တရား၊ သံဃာ ရတနာသုံးပါးသည် စိတ်နှလုံးမှာ ဘဝတိုင်းမှာ အမြဲပါလေ

တော့သည်ဟူ၍ သောတာပန်ဖြစ်လေရာမှာ သာသနာ့ပ ါရှိသွား ကြောင်း ပြဆိုတော်မူပြီးနောက် ယင်း အနုတ္တရိပနီကျမ်း ၇၅ တွင် ဆက်၍ သောတာပန်သွားလေရာ နိဗ္ဗာန်အမြဲပါပုံကို ဤသို့ မိန့်တော်မူ၏

## (င) သောတာပန်သွားလေရာ နိဗ္ဗာန်အမြဲပါပုံ

နိဗ္ဗာန်ချမ်းသာကြီးသည်လည်း စိတ်နှလုံး အမြဲပါလေတော့ သည်။ သက္ကာယဒိဋ္ဌိ အစရှိသော ကိလေသာအမိုက်အမဲကြီးတို့၏ ကင်းငြိမ်းခြင်း၊ ဒုစရိုက် အမိုက်အမဲကြီးတို့၏ ကင်းငြိမ်းခြင်း၊ အပါယ်လေးပါး၊ ကပ်သုံးပါး၊ ရပ်ပြစ်ရှစ်ပါး၊ ရန်သူမျိုးပါးပါး၊ ဝိပတ္တိတရားလေးပါး တို့၏ ကင်းငြိမ်းခြင်းကို နိဗ္ဗာန် ချမ်းသာ ကြီးဆိုသတည်း။ ထိုနိဗ္ဗာန်ချမ်းသာကြီးသည် ထိုသူတို့စိတ်သန္တာန် မှာ ဖြစ်လေရာရာ ဘဝတိုင်း၊ ဘဝတိုင်း အမြဲပါရှိလေတော့ သည်။

ဖြစ်လေရာရာ ဘဝမှာ လောကီချမ်းသာကို တလှည့်၊ နိဗ္ဗာန် ချမ်းသာကိုတလှည့်စီ ခံစား၊ စံစား၍ သွားကြရကုန်၏။ အဘယ် သို့လျှင် ချမ်းသာနှစ်ပါးကို တလှည့်စီ ခံစား၊ စံစားသွားကြရ သနည်း ဟူမူကား-

ယခုဘဝက အနုတ္တလက္ခဏာ ကောင်းစွာ ထင်ပြီးသော သူတို့သည် နောက် နောက်ဘဝတို့၌ လူပြည် လူ့ရွာမှာ ဖြစ်ကြ ကုန်သော်လည်း စည်းစိမ်ချမ်းသာကြီးကျယ်စွာသော သမ္မာဒိဋ္ဌိ လူမျိုးတို့၌သာ ဖြစ်ကြရကုန်လတံ့။ ထိုအခါ လူ၌ဖြစ်သော ကြီးကျယ်လှစွာသော လောကီစည်းစိမ်ချမ်းသာကို ခံစား၊စံစား

ကြရကုန်၏။ မိမိ မိမိတို့၏ စိတ်သန္တာန်၌ အတ္တဒိဋ္ဌိ၏ ကင်းငြိမ်းခြင်းသည် သဉပါဒိသေသ နိဗ္ဗာန်ချမ်းသာကြီးပေတည်း။

အပါယ်၌ ကျရောက်၍ နေကြကုန်သော ခွေး၊ ဝက်၊ ကြက်၊ ငှက် အစရှိသော အပါယ်တုံသား တို့ကိုရင်း၊ သက္ကာယဒိဋ္ဌိ တန်းလန်းနှင့် အပါယ်နခမ်းမှာ လူလူ လူလူ နေကြကုန်သော သတ္တဝါ အပေါင်းတို့ကိုရင်း တွေ့မြင်ကြရကုန်လတံ့။ တွေ့မြင်တိုင်း တွေ့မြင်တိုင်း "ငါတို့မှာ ဤကဲ့သို့သောအဖြစ်မှ လွတ်ငြိမ်းကြပြီ" ဟု အလွန် နှစ်သက်ဝမ်းမြောက်ခြင်း မစဲ မစဲဖြစ်ကြရကုန်လတံ့။ သဉပါဒိသေသ နိဗ္ဗာန်ချမ်းသာကြီးသို့ ခံစား၊စံစားကြရကုန်လတံ့။

အမျိုးမျိုးသော မိစ္ဆာဒိဋ္ဌိ လူမျိုးတို့ကို တွေ့မြင်လေသောအခါ၌ရင်း၊ အမျိုးမျိုးသော ဒုစရိုက်လူမျိုးတို့ကို တွေ့ကြုံသောအခါ၌ရင်း၊ ကပ် ၃ ပါးသင့်၍ နေသောလူမျိုးတို့ကို တွေ့ကြုံသောအခါတို့၌ရင်း၊ ရန်သူမျိုးငါးပါး နှိပ်စက်၍နေသောသူတို့ကို တွေ့ကြုံသောအခါ၌ရင်း၊ ဝိပတ္တိတရား ၄ ပါး နှိပ်စက်နေသော သူတို့ကို တွေ့ကြုံသောအခါ၌ရင်း၊ ထိုနည်းတူ မိမိ မိမိတို့၏ စိတ်သန္တာန်မှာ အမြဲပါ၍နေသော သဉပါဒိသေသ နိဗ္ဗာန်ချမ်းသာကြီးကို အမှတ်ရ၍ အလွန်နှစ်သက် ဝမ်းမြောက်မှုဟူသော ခံစား၊ စံစားခြင်းကို ခံစား၊ စံစားကြရကုန်လတံ့။

ဤနည်းကို အာရုံပြု၍ နတ်ပြည် ၆ ထပ်မှာ နတ်၊ သိကြားဖြစ်ကြကုန်သော ဘဝတို့၌လည်း လောကီ၊ လောကုတ္တရာ ချမ်းသာကြီး ၂ ပါးကို အလှည့်အလည်အားဖြင့် ခံစား၊စံစား၍

သွားကြကုန်လတ္တံ့။ ပထမစျာန် ၃ ဘုံ၊ ဒုတိယစျာန် ၃ ဘုံ အစ ရှိသော ဗြဟ္မာတို့မှာ ဗြဟ္မာ ဖြစ်ကြသော ဘဝတို့၌လည်း လောကီ၊လောကုတ္တရာ ချမ်းသာကြီး ၂ ပါးကို အလှည့်အလည် အားဖြင့် ခံစား၊စံစား၍ **သွားကြရကုန်လတ္တံ့။ ဘဝများစွာ၊** ကမ္ဘာများစွာ ကြာမြင့်သဖြင့် လူ့ချမ်းသာ၊ နတ်ချမ်းသာ၊ ဗြဟ္မာချမ်းသာတို့ကို ခံစား၊စံစား၍ ငြီးငွေ့ကြသောအခါ၌ လောကီချမ်းသာကို စွန့်လွှတ်၍ အနုပါဒိသေသ နိဗ္ဗာန်တည်း ဟူသော လောကုတ္တရာ ချမ်းသာသို့ ရောက်ကြကုန်လတ္တံ့။

## (စ) ရဟန်အဖြစ်ထက် လူ့သောတာပန်အဖြစ်နှင့် ကျွတ်သူ များပုံ

ထိုမှတပါး ယင်းအနုတ္တဒီပနီ ၇၇-၌ ရဟန်းအဖြစ်နှင့် ကျွတ်တမ်းဝင် ပုဂ္ဂိုလ်များထက် လူသောတာပန်အဖြစ်နှင့် ကျွတ်တမ်းဝင်ကြသူက များပုံကို ဤသို့ ဆက်၍ မြွက်တော်မူ၏။

"ထိုမှတပါး ငါတို့ဘုရား လက်ထက်တော်၌ ရဟန်းအဖြစ်နှင့် ကျွတ်ကြသူတို့ကား အနည်းငယ်မျှသာတည်း။ လူ့အဖြစ်မှာ သောတာပန်အဖြစ်နှင့် ကျွတ်ကြသူတို့ကား သာဝတ္ထိပြည်မှာပင် ကုဋေများစွာရှိလေ၏။ ရာဇဂြိုဟ်ပြည်မှာပင် ကုဋေများစွာရှိလေ၏။ တို့အတူ ကပိလဝတ်ပြည်၊ ဝေသာလီပြည် အစရှိသည် တို့၌လည်း ကုဋေများစွာ သန်းပေါင်းများစွာ ရှိကြ၏။ မဇ္ဈိမတိုက် တပြင်လုံးသည် အရိယာဖြင့် ပြည့်သကဲ့သို့ ရှိကြ၏။ ထိုသူတို့ ယခုအခါ၌ စတုမဟာရာဇ်ပြည်မှာ အပြည့်ရှိကြ၏။ တာဝတိံသာ နတ်ပြည်မှာ အပြည့်ရှိကြ၏။ ယာမာ စသည်တို့မှာ လည်း များစွာရှိနေကြကုန်၏။

"နတ်အဖြစ်နှင့် ကျွတ်ကြကုန်သော နတ်အရိယာတို့နှင့် ဇာတ်ပေါင်းမိကြလေ၏။ ထိုအရိယာတို့နှင့် အတူတကွ ဇာတ်ပေါင်းကြ၍ နတ်ချမ်းသာ အဆင့်ဆင့်၊ ဗြဟ္မာချမ်းသာ အဆင့်ဆင့် ခံစား၊ ခံစား၍ အကနိဋ္ဌတိုင်အောင် သွားကြကုန်လတ္တံ့။ ထိုသူတို့၏ စိတ်သန္တာန်မှာလည်း ပရိနိဗ္ဗာန် စံကြသော ဘဝတိုင်အောင် ငါတို့မြတ်စွာဘုရား သာသနာတော်ကြီး အစဉ်မြဲစွာ ပါလေတော့သည်။ ထိုသူတို့မှာ သာသနာကွယ်သည် ဟူ၍ မရှိတော့ပြီ။ သာသနာပသော ဘဝဟူ၍ မရှိကြပြီ။ ဤသို့ ဖြစ်ခြင်းသည် အနတ္တလက္ခဏာကို ကောင်းစွာထင်မြင်ရခြင်း၏ အကျိုးအာနိသံသ ပေတည်း။

"ထိုမှတပါး မြတ်စွာဘုရား ပရိနိဗ္ဗာန် စံတော်မူသည့်နောက် အနှစ် ၃၀၀ ခန့် အတွင်း မဇ္ဈိမတိုက်အပြင်မှ အကျွတ်ရကြသော သောတာပန်ပေါင်း အကုဋေမက သီဟိုဠ်သို့ သာသနာရောက်သည့်နောက် သီဟိုဠ်ကျွန်းမှ ကျွတ်ကြသော သောတာပန်ပေါင်း အကုဋေမက တို့သည်လည်း ယခုအခါ စတုမဟာရာဇ်နတ်ဘုံမှာ အပြည့်ရှိနေကြကုန်၏။ တာဝတိံသာနတ်ဘုံမှာ အပြည့်ရှိနေကြကုန်၏။ ထိုသူတို့သည် နတ်ဇာတိနှင့် ကျွတ်ကြသော အရိယာ၊ ဘုရားလက်ထက်တော်မှာ မဇ္ဈိမတိုက်အပြင်မှ ကျွတ်ကြသော အရိယာတို့နှင့် ဇာတ်ပေါင်းကြ၍ ပြဆိုခဲ့ပြီးသောအတိုင်း အကနိဋ္ဌဘုံကျအောင် ခံစား၊ ခံစား၍ သွားကြကုန်လတ္တံ့။ ထိုသူတို့၏ စိတ်သန္တာန်မှာလည်း ပရိနိဗ္ဗာန် စံရာဘဝတိုင်အောင် ငါတို့မြတ်စွာဘုရား သာသနာတော် အမြဲတည်လေတော့သည်။ ဤသို့ ဖြစ်ခြင်းသည် အနတ္တလက္ခဏာ ထင်မြင်ခြင်း၏ အကျိုးအာနိသံသပေတည်း။

"ယခုလည်း နတ်ပြည် ၆ထပ်တို့၌ သုဓမ္မာစရပ် အသီးသီးရှိကြကုန်၏။ တလ တလလျှင် ရှစ်ကြိမ် ရှစ်ကြိမ် တရားနာ အစည်းအဝေး ပြုမြဲထုံးစံတည်း။ ရံခါ သိကြားမင်းကြီးတို့ တရားဟောကြကုန်၏။ ရံခါ တရားကျမ်းဂန် တတ်ကျွမ်းသော ဓမ္မကထိက နတ်သားတို့ တရားဟောကုန်၏။ ရံခါ ဗြဟ္မာပြည်မှ ဗြဟ္မာမင်းတို့ လာ၍ တရားဟောကုန်၏။ ရှေးအဘို့၌ အကျွတ် မရကြကုန်သေးသော နတ်တို့သည် ထိုတရားနာရာ သုဓမ္မာ အစည်းအဝေးမှာ အကျွတ်ရကြကုန်၏။ ထိုမှ အလွတ်ဖြစ်ကုန်သော နေရာဌာန တို့၌လည်း အတူနေ အဖော်အပေါင်း ဖြစ်ကြကုန်သော အရိယာနတ်တို့၏ ဟောပြောမှုကို နာခံ၍ အကျွတ်ရကြကုန်၏။

"ယခုအခါ နတ်ပြည်၊ ဗြဟ္မာ့ပြည်တို့မှာ ကျွတ်ပွဲလွတ်ပွဲ မစဲမဆိတ်ရှိနေတုန်း အခါပေတည်း။ ယခုမှ ကျွတ်လွတ်ကြကုန်သော နတ်၊ ဗြဟ္မာတို့လည်း ရှေးကျွတ်ကြကုန်သော အရိယာတို့နှင့် ဇာတ်ပေါင်းမိကြကုန်၏။ စိတ်နှလုံး၌ မြတ်စွာဘုရား သာသနာတော်ကြီး အမြဲတည်ခွင့်ကို ရကြလေကုန်၏။ စတုမဟာရာဇ်နတ်ပြည်မှာ အနှစ်ကိုးသန်းတိုင်တိုင် မဂ်တံခါး၊ ဖိုလ်တံခါး၊ နိဗ္ဗာန်တံခါး ဟင်းလင်းပွင့်လျက်ရှိ၏။ တာဝတိံသာနတ်ပြည်မှာ အနှစ်သုံးကုဋေ- ၆သန်းတိုင်တိုင် မဂ်တံခါး၊ ဖိုလ်တံခါး၊ နိဗ္ဗာန်တံခါး ဟင်းလင်းပွင့်လျက်ရှိ၏။ အထက် အထက် နတ်ပြည်၊ ဗြဟ္မာ့ပြည်တို့၌လည်း ဤနည်းတူသိလေ။

"သာသနာ ငါးထောင်ဆိုသည်မှာ လူ့ပြည်ကို ရည်၍ ဆိုသတည်း။ လူ့ပြည်၌ အနှစ် ၅၀၀၀ မျှသာ အရိယာဖြစ်နိုင်သောခေတ် ရှိသည်။ အနှစ် ၅၀၀၀ မှ နောက်၌ အရိယာ

ဖြစ်နိုင်သော ခေတ် မရှိပြီ ဆိုလိုသည်။ ယခုအခါ၌ကား သာသနာတော် ၂၀၀၀ ကျော်လွန်၍ သွားပြီ။ ၂၀၀၀မျှသာ ကျန်ရှိတော့သည်” ဟူ၍ တိတိကျကျ၊ ပြတ်ပြတ်သားသား မြွက်ကြားသွားတော်မူ၏။

## (ဆ) သောတာပန်ပုဂ္ဂိုလ်တို့ ခံ စံကြရသော နိဗ္ဗာန်၏အနက်လေးချက်။

လယ်တီ ဆရာတော်ဘုရား ပြုစုသွားသော ဒီပနီကျမ်းပေါင်း များစွာရှိ၏။ ယင်းတို့အနက် “စတုသစ္စဒီပနီကျမ်း”သည် နာမည်ကျော် ကျမ်းတကျမ်း ဖြစ်၏။ ဆရာတော်သည် သောတာပန်နှင့် ပတ်သက်၍ ယင်းကျမ်း၌လည်း အမှတ်တရ မြွက်ကြားသွားတော်မူ၏။ မြွက်ကြားသွားတော်မူရာ၌ ယောဂီ ပုဂ္ဂိုလ်တို့သန္တာန်၌ သံသယကင်းသွားအောင် “ကထေတု ကမျတာပုစ္ဆာ” မေး၊ဖြေ ပြု၍ မြွက်ကြားသွားတော်မူလေသည်။

မှန်၏။တစုံတယောက်သောသူက–“သောတာပန်ပုဂ္ဂိုလ်သည် ၁၅၀၀ သော ကိလေသာကို အကုန် မပယ်ရသေး။ အိုရခြင်း၊ နာရခြင်း၊ သေရခြင်း ဒုက္ခမှ မကင်းသေး။ ထို့ကြောင့် နိဗ္ဗာန်သို့ ရောက်သည့် နိဗ္ဗာန်သွားရာလမ်းမကြီးပေါ်သို့ ရောက်နေပြီဟု မဆိုထိုက်” ဟု စောဒကတက်ခဲ့သော် မည်သို့ ဖြေကြားရမည်ဟု လယ်တီဆရာတော်ဘုရားက ဤသို့ ညွှန်ကြားတော်မူ၏။

(က) **နိဿရဏဋ္ဌ။** ။ဒိဋ္ဌိ ဝိစိကိစ္ဆာအမှုးရှိသော အလွန်မည်း ညစ်လှစွာသော ကိလေသာဝဋ်မှ အပြီးကျွတ်လွတ်မှု၊ ဒုစရိုက် ဆယ်ပါး၊ ဒုရာဇီဝတရား ဟူသော အကုသကမ္မဝဋ်မှ အပြီး

ကျွတ်လွတ်မှု၊ အပါယ်ဘဝဟူသော ဝိပါကဝဋ်မှ အပြီးကျွတ်လွတ်မှုသည် သောတာပန်ပုဂ္ဂိုလ်တို့ ခံစံကြရသော နိဿရဏဌ မည်၏။

ပုထုဇဉ်ပုဂ္ဂိုလ်တို့သည် လူမင်း၊ နတ်မင်း၊ သိကြားမင်း၊ ဗြဟ္မာမင်းဖြစ်၍ပင် နေကြကုန်သော်လည်း ဒိဋ္ဌိ၊ ဝိစိကိစ္ဆာ၊ ဒုစရိုက်၊ ဒုရာဇီဝ၊ အပါယ်ဘဝတို့မှ အပြီးကျွတ်လွတ်မှု၊ အပြီးလွတ်ငြိမ်းမှု ဟူသော နိဿရဏဌကို မရကြကုန်။ ဒိဋ္ဌိ၊ ဝိစိကိစ္ဆာတွေ့တန်းလန်း ဒုစရိုက်၊ ဒုရာဇီဝတွေ့တန်းလန်း အပါယ်သို့ကျရောက်မှုတွေ့တန်းလန်းနှင့်သာ နေကြရကုန်သည်။

(ခ) ပဝိဝေကဌ။ ။သောတာပန်ပုဂ္ဂိုလ်သည် ဘဝများစွာကမ္ဘာများစွာ ကြာမြင့်သော်လည်း မိမိတို့၏ စိတ်သန္တာန်၌ မိစ္ဆာဒိဋ္ဌိတရားတို့၏ နှောက်ယှက်မှု ဒုစရိုက်၊ ဒုရာဇီဝတရားတို့၏ နှောက်ယှက်မှု၊ အပါယ်ဒုက္ခတို့၏ နှောက်ယှက်မှုမှ အချင်းခပ်သိမ်း ကင်းငြိမ်းကြကုန်၏။

ဤသို့ သံသရာ၌ အလွန်တရာယုတ်မာ ဆိုးဝါးလှသော ပါပဓမ္မ၊ အပါယဒုက္ခတို့၏ အနှောက်အယှက်၊ အဖျက်အဆီးမှ ဆိတ်ကင်းမှုသည် သောတာပန်ပုဂ္ဂိုလ်တို့ ခံစားကြရသော ပဝိဝေကဌ မည်၏။

ပုထုဇဉ်ပုဂ္ဂိုလ်တို့သည် လူမင်း၊ နတ်မင်း၊ သိကြားမင်း၊ ဗြဟ္မာမင်း ဖြစ်၍ပင် နေကြကုန်သော်လည်း သမ္မာဒိဋ္ဌိနှင့် ကြည်တည့်ချည်တခါ၊ နောက်တည့်ချည်တလှည့်၊ သုစရိုက်မှုနှင့် ကြည်တည့်ချည်တခါ၊ ဒုစရိုက်မှုနှင့် နောက် တည့်ချည်တလှည့်

သုဂတိချမ်းသာနှင့် ကြည်တည့်ချည်တခါ၊ အပါယဒုက္ခသို့ ရောက်၍ အနောက်ကြီးနောက် တည့်ချည်တလှည့် ဤသို့သော နှောက်ယှက်မှုတို့မှ မလွတ်ကင်းကြလေကုန်။

(ဂ) **အသခ်တင္ဒ။** ။သောတာပန်ပုဂ္ဂိုလ်တို့ ဆိုက်ရောက်ရရှိတည်နေရာဖြစ်သော ဒိဋ္ဌိ ဝိစိကိစ္ဆာ၊ ဒုစရိုက်၊ ဒုရာဇီဝ၊ အပါယဒုက္ခတို့၏ အပြီးလွတ်ငြိမ်းမှု ဟူသော သဥပါဒိသေသ နိဗ္ဗာန်သည် ဘဝကမ္ဘာ၊ အသင်္ချေကြာသော်လည်း ပျက်ကွက်ခြင်းရှိတော့သည် မဟုတ်၊ အနမတဂ္ဂသံသရာနှင့်တကွ နိစ္စ ထာဝရဖြစ်၍ တည်လေ၏။

ထိုသို့ ပျက်ကွက်ခြင်းမရှိ၊ နိစ္စ ထာဝရတည်ရှိသော တရားဖြစ်ပေသောကြောင့် အသစ်တဖန် ထူထောင်ပြုပြင်မှုဟူ၍ မရှိပြီ။ ထိုသို့ နိဗ္ဗာန်ဆွေးမြည့်၊ ပျက်စီးပြန်၍ မိမိသန္တာန်၌ ထိုနိဗ္ဗာန်ကို တဖန် ဖြစ်ပေါ်လာရန် ဒါနပြုမှု ဒုက္ခတွင်းသို့ ဆင်းရပြန်သည်ဟု မရှိပြီ။ ရသော့၊ ရဟန်း ပြုလုပ်ခြင်း ဒုက္ခတွင်းသို့ ဆင်းရပြန်သည်ဟု မရှိပြီ ဆိုလိုသည်။

ဤသို့ အဖန်ဖန် ပြုပြင်ရခြင်းဟူသော သင်္ခါရဒုက္ခတို့မှ လွတ်ငြိမ်းမှုသည် သောတာပန် ပုဂ္ဂိုလ်တို့ ခံ စံကြရသော အသခ်တင္ဒ မည်၏။ သောတာပန်ပုဂ္ဂိုလ်တို့အား ကြွင်းကုန်သော ကိလေသာတို့၏ ချုပ်ငြိမ်းဘို့ အတွက်နှင့်သာ ဒါန၊ သီလ၊ ဥပေါသထ၊ ဘာဝနာမှုကို ပြုဘွယ်ကိစ္စ ရှိလေတော့သည်။ ချုပ်ငြိမ်းလေပြီးသော သက္ကာယဒိဋ္ဌိ၊ ဝိစိကိစ္ဆာ၊ ဒုစရိုက်ဆယ်ပါးတို့၏ ငြိမ်းဘို့အတွက်နှင့် ပြုဘွယ်ကိစ္စ မရှိပြီ။

(ဿ) အမတဌ။ ။ထိုသက္ကာယဒိဋ္ဌိ၊ ဝိစိကိစ္ဆာ၊ ဒုစရိုက်၊ ဒုရာဇီဝ အပါယ်ဒုက္ခတို့၏ အပြီးလွတ်ငြိမ်းမှု ဟူသော သဥပါဒိသေသ နိဗ္ဗာန်သည် အနမတဂ္ဂ သံသရာမှာ ဘယ်အခါမှ ဆွေးမြည့်ပျက်ဆုံးသည်ဟူ၍ မရှိပြီ။ ထိုဝိသာခါ၊ အနာထပိဏ် အစရှိသော ဘုံစဉ်စံ သောတာပန် ပုဂ္ဂိုလ်တို့အား တဘဝလျှင် တခါ၊ ခန္ဓာငါးပါး ပျက်ဆုံးမှုကား ရှိကြ၏။ မိမိတို့ ရရှိပြီးသော နိဗ္ဗာန်ကား ခန္ဓာပျက်ဆုံးသော်လည်း ပျက်ဆုံးခြင်း မရှိပြီ။ ခန္ဓာ-တဘဝတခု ပျက်ဆုံး၍ ခန္ဓာ- တဘဝတခုသို့ ရောက်ကြပြန်လျှင် ထိုနိဗ္ဗာန်တွင်း၌သာ ရောက်ကြပြန်၏။ ပုထုဇဉ်ခန္ဓာသို့ ပြန်၍ ရောက်ကြကုန်သည်ဟု မရှိပြီ။ ခန္ဓာတို့ကား မတခေတ်မျိုးဖြစ်၍ တဘဝတခါ ပျက်ဆုံးကြကုန်သည်။

ထိုနိဗ္ဗာန်သည်ကား အမတခေတ်မျိုး ဖြစ်၍ တဘဝတခါ ပျက်ဆုံးကြကုန်သည်။ ထိုနိဗ္ဗာန်သည်ကား အမတ ခေတ်မျိုး၊ ခန္ဓာပျက်သော်လည်း တခါတရံမျှ ပျက်ဆုံးသည်ဟူ၍လည်း မရှိပြီ။ အနုပါဒိသေသ နိဗ္ဗာန်နှင့်တဆတ်တည်း ဆက်မိလေတော့သည်။ ထိုသောတာပန် ပုဂ္ဂိုလ်တို့အား ထိုငြိမ်းမှုကုန်ဆုံး၍ သွားမည်ကို ကြောင့်ကြဘွယ် မရှိပြီ။

ဤသို့ သောတာပတ္တိမဂ်သို့ ရောက်သည့်နေ့မှစ၍ အနုပါဒိသေသ နိဗ္ဗာန်သို့ ဆိုက်ရောက်သည်တိုင်အောင် ဘဝများစွာ၊ ကမ္ဘာများစွာ ကြာချင်တိုင်း ကြာငြားသော်လည်း တရံတခါမျှ ပျက်ကွက်ခြင်း မရှိမူ၍ ထိုဘုံစဉ်စံ သောတာပန်ပုဂ္ဂိုလ် အနန္တတို့၏ ကိုးကွယ်ရာ၊ လည်းလျောင်းရာ၊ ပုန်းအောင်းရာ အနေနှင့်

အမြဲစောင့်ရှောက်ကာ ပါရှိ၍နေသောအမှုသည် ထိုသောတာပန် ပုဂ္ဂိုလ်တို့ ခံစံကြရသော အမတဋ္ဌပေတည်း။ ဤကား သောတာပန် ပုဂ္ဂိုလ်တို့ ခံစံကြရသော သဥပါဒိသေသ နိဗ္ဗာန်ဖြစ်၏။အနက် ၄ ချက်ကို ပြဆိုသော စကားရပ်တည်း။

## (၈) နတ်ပြည်ခြောက်ထပ်မှာ သောတာပန်အပြည့်

သောမန သုပေက္ခာ ဒီပနီကျမ်း၌မူ "သောတာပန်ဖြစ်အောင် အားထုတ်ကြ၊ ကြိုးစားကြဟု တိုက်ရိုက်တိုက်တွန်းခြင်း ပြုတော်မမူလေဘဲ သောတာပန် ဖြစ်ချင်စိတ် ပေါက်လာအောင်၊ အားကျလာအောင် ဆရာတော်ဘုရားက ဤသို့ လှုံ့ဆော်သွားသည်ကို တွေ့ရသည်။

"ယခုအခါ၌ မိဂဒါဝုန်တောတွင် ဓမ္မစကြာတရားကို ဟောတော်မူသော အခါမှစ၍ သာသနာတော်အနှစ် တထောင်အတွင်း၌ စတုမဟာရာဇ်၊ တာဝတိံသာစသော နတ်ပြည်တို့မှ၎င်း၊ သာဝတ္ထိ၊ ရာဇဂြိုလ် အစရှိသော မဇ္ဈိမဒေသ တမြေပြင်လုံးတို့မှ၎င်း၊ မဟာရဋ္ဌ၊ သုဝဏ္ဏဘူမိ အစရှိသော ထိုထို ပစ္စန္တဒေသ တပြင်လုံးတို့မှ၎င်း၊ ဇမ္ဗူဒိပ်၊ သီဟိုဠ် မြေပြို လူမျှ ကျွတ်လွတ်ကုန်သော အသင်္ချေယျ အနန္တ ပထမနိဗ္ဗာန်ဘုံစဥ်စံ အရိယာတို့သည်ကား ယခုအခါ စတုမဟာရာဇ်အဝင် မြေပြင်ရှိ ဘုမ္မစိုးနတ်တို့မှစ၍ စတုမဟာရာဇ် နတ်ပြည်မှာပင် အသင်္ချေယျ အနန္တ ရှိကြကုန်၏။ တာဝတိံသာစသော အထက်နတ်ပြည်တို့မှာလည်း ထို့အတူ အသင်္ချေယျ အနန္တ ရှိကြကုန်၏။

ယခုအခါ၌ နတ်ပြည် ၆ ထပ်လုံးသည် အရိယာတို့နှင့် ပြည့်လျက်နေ၏။ အရိယာဘုံတွေ ဖြစ်၍နေ၏။ ဗိမ္ဗိသာရမင်း၊

အနာထပိဏ်သူဌေး အစရှိသော မြတ်စွာဘုရား၏ သာဝကကြီးတွေ၊ သိကြားမင်းကြီးတွေ၊ စတုမဟာရာဇ်နတ်မင်းကြီး၊ နေနတ်မင်း၊ လနတ်မင်း အစရှိသော သားတော်ကြီးတွေ အသင်္ချေအနန္တ ရှိကုန်၏။ ဝိသာခါ၊ သုပ္ပိယာစသော မြတ်စွာဘုရား သမီးတော်ကြီးတွေ၊ လာဇာနတ်သမီး၊ သူရိယဝစ္ဆသာ နတ်သမီး အစရှိသော မြတ်စွာဘုရား၏ သမီးတော်ကြီးတွေ ယခုအခါ နတ်ပြည်၆ထပ်မှာ အသင်္ချေအနန္တ ရှိကြကုန်၏။

ယခုအခါ၌ လူဖြစ်သောသူသည် အထက်ကောင်းကင်သို့ လက်အုပ်ချီလိုက်သည်ရှိသော် အရိယာနတ်တို့ ဗိမာန်ကို လွတ်အောင်ပင် မချီနိုင်ရာ။ ယေဘုယျအားဖြင့် အထက်ကောင်းကင်တရိုး၌ ဘုန်းတန်ခိုးကြီးကြကုန်သော နတ်မင်းကြီး၊ နတ်မိဖုရားကြီး၊ နတ်သမီး၊ နတ်သားတို့သည် မြတ်စွာဘုရား၏ သားတော်ကြီး၊ သမီးတော်ကြီးတို့ချည်းသာ ဖြစ်ကြကုန်၏။ နတ်ပြည် (၆) ထပ်မှာ မြတ်စွာဘုရား၏ သားတော်မြတ်အပေါင်းတို့သည် ဤလူ့ပြည်၌ ဥပါသကာယောကျ်ားတို့ကို မြှော်လင့်လျက် ရှိကြကုန်၏။ သမီးတော်မြတ်အပေါင်းတို့သည်လည်း ဤလူ့ပြည်၌ ဥပါသိကာမတို့ကို မြှော်လင့်လျက် ရှိကြကုန်၏။ တလလျှင် ၄ ကြိမ် ဇမ္ဗူဒိပါသို့ စာရင်းယူရန် လာကြောင်းကို စတုကအင်္ဂုတ္တိုရ်ပါဠိတော်၌ ဟောတော်မူ၏။

ပဋိဝေဓသာသနာတော်မြတ်ကြီးသည် ယခုအခါ နတ်ပြည်မှာ လှိုင်လှိုင်ထွန်းတုန်း ထွန်းဆဲပေတည်း။ စတုမဟာရာဇ် နတ်ပြည်မှာ သာသနာတော်အသက်၊ နတ်တို့ရက်နှင့် အရက် ငါးဆယ်ခန့်သာ ရှိသေးသည်။ နောင် လူတို့ အရေအတွက်

အနှစ်ကိုးသန်းတိုင်အောင် မဂ်တံခါး၊ ဖိုလ်တံခါး၊ နိဗ္ဗာန်တံခါး ဟင်းလင်းပွင့်လမ်း ရှိ၏။

တာဝတိံသာနတ်ပြည်မှာ သာသနာတော်အသက် နတ်တို့ရက်နှင့် ၂၅-ရက်ခန့်သာ ရှိသေးသည်။ နောင် လူတို့အရေအတွက် အနှစ်ပေါင်း သုံးကုဋေခြောက်သန်း တိုင်အောင် မဂ်တံခါး၊ ဖိုလ်တံခါး၊ နိဗ္ဗာန်တံခါး ဟင်းလင်းပွင့်လမ်း ရှိ၏။ ဤနည်းတူ ၄ ဆ၊ ၄ ဆတက်၍ အထက်အထက် နတ်ပြည်တို့မှာလည်း သာသနာတော်အသက် တိုးတက်ရှည်လျားသွားမှုကို သိလေ။

## (၈၂) စူဠသောတာပန်

ကျေးဇူးရှင် လယ်တီဆရာတော်ဘုရားကြီးသည် ဤသို့အားရလောက်အောင်၊ သွားရေမျိုးယိုလာအောင် နတ်ပြည် (၆) ထပ်မှ အရပ်ရပ်သော သောတာပန် နတ်သမီး၊ နတ်သားများအကြောင်းကို ဟောပြောတော်မူပြီးမှ "**စူဠသောတာပန်**" ဖြစ်အောင် ကြိုးစားကြရန် တိုက်တွန်းတော်မူသည်ကား-

ယခုအခါ၌ လူ့ပြည်မှာ ဘာဝနာမနသိကာရ၌ စူဠသောတာပန် အနေလောက် ပေါက်ရောက်အောင် အားထုတ်ကြပြီး သေလွန်သည်နောက် နတ်ပြည် (၆)ထပ်တွင် ဖြစ်လေရာနတ်ပြည်မှာ မဟာသောတာပန်အဖြစ်သို့ ရောက်ကြ၍ ဘုရားသားတော်ရင်းကြီး၊ သမီးတော်ရင်းကြီးတို့နှင့် ဘုံစဉ်စံ

အရိယာ အဖြစ်ဖြင့် ဇာတ်ပေါင်း **နိုင်ကြကုန်၏။** **သောကျွေး** ဖြစ်သူ ရှင်လူအပေါင်းတို့သည် ဗိမ္ဗိသာရမင်း၊အနာထပိဏ်သူဌေး အစရှိကုန်သော သူတို့နှင့် ဇာတ်ပေါင်း နိုင်ကြကုန်၏။ ဒါယိကာမဖြစ်သူတို့သည် ဝိသာခါ၊ သုပ္ပိယာ အစရှိသော သူတို့နှင့် ဇာတ်ပေါင်း နိုင်ကြကုန်**၏။** **ဝဋ်ဆိုးကြီး** ၃ ပါး၊ ဘေးဆိုးကြီး ၂ ပါးတို့မှ ကျွတ်လွတ်၍ နတ်ပြည်မှာ ရှိနှင့်ကြသော အရိယာအနန္တတို့နှင့် တလုံးတစိတ်တည်း ပေါင်းမိကြ၍ သံသရာ၌ ဘေးမဲ့ချမ်းသာ ဘုံစဉ်စံအရိယာ အဖြစ်သို့ ရောက်နိုင်ကြကုန်၏။

ယခုအခါ ဤလူ့ပြည်မှာ ဘာဝနာမနသိကာရ၌ စူဠသောတာပန်အနေလောက် ပေါက်ရောက်အောင် အားထုတ်မှုဆိုရာ၌ **စူဠသောတာပန်ဆိုသည်ကား-** သောတာပန်ငယ်၊ သောတာပန်နုကို ဆိုသည်။ ဤသာသနာတော်၌ပင်လျှင် ယခုဘဝ၌ သော်၎င်း၊ နတ်ပြည်သို့ ရောက်လေ၍ နောက်ဘဝ၌ သော်၎င်း၊ ပရမတ္ထအရိယာ မဟာသောတာပန် ဘုံစဉ်စံအဖြစ်သို့ မချွတ်မလွဲ၊ အမြဲကေန်၊ အမှန်ရောက်တော့မည့်သူ ဟုလိုသည်။ အဘယ်မျှလောက် အားထုတ်ကြကုန်မှ စူဠသောတာပန်အဖြစ်သို့ ရောက်နိုင်ကြကုန်သနည်း ဟူမူကား- ဝိသုဒ္ဓိမဂ်အဋ္ဌကထာ၊ ကင်္ခါဝိတရဏ ဝိသုဒ္ဓိနိဒ္ဒေသ၌-

ဣမိနာ ပန ဉာဏေန သမန္နာဂတော
ဝိပဿကော ဗုဒ္ဓသာသနေ လဒ္ဓဿာသော
လဒ္ဓပတိဋ္ဌော နိယတဂတိကော စူဠသောတာ
ပန္နော နာမ ဟောတိ။ ။ဟူ၍ လာ၏။

**အဓိပ္ပာယ်မှာ။** ။ကျကြာခ်ါဝိတရဏဉာဏ်နှင့် ပြည့်စုံသော ဝိပဿနာပညာရှိ ပုဂ္ဂိုလ်သည် ဘုရားသာသနာတော်၌ ရအပ်သော သက်သာရာ ရှိသည်ဖြစ်၍၊ ရအပ်သောထောက်တည်ရာ ရှိသည်ဖြစ်၍ မြဲသော ဂတိရှိသော စူဠသောတာပန်ဖြစ်၏ ဟူလိုသည်။ (ပါဠိလျှောက်အဓိပ္ပာယ်)

## (ည) သောတာပန်တို့ရောက်ရာ ပထမ နိဗ္ဗာန်ဘုံ

သောတာပန်အကြောင်းကို ရှုဒေါင့်အမျိုးမျိုးမှ ထင်းကနဲ၊ လင်းကနဲ မမြင်မချင်း၊မသိမချင်း လှည့်ကာပတ်ကာ ဟောပြောတော်မူနေသည်ကို ထောက်ခြင်းအားဖြင့် ဆရာတော်ဘုရား၏ သန္တာန်တော်၌ တပည့်တို့အား သောတာပန် ဖြစ်စေလိုသော ဆန္ဒ အဘယ်မျှပြင်းပြလှကြောင်း ထင်ရှားပေသည်။ယခုလည်း သောတာပန်ကို သဥပါဒိသေသ နိဗ္ဗာန်ရှုဒေါင့်မှ ရှုကြလေဦး ဟု အရှုခိုင်းပြန်၏။ သူ ပြုစုသွားတော်မူသည့် "သောမနဿုပေက္ခာဒီပနီ"ကို လက်ဆင့်ကမ်း၍ ညွှန်ပြတော်မူ၏။

သဥပါဒိသေသ ပထမနိဗ္ဗာန် ဆိုသည်ကား အဘယ်နည်း ဟူသော အမေး၌—

သဥပါဒိသေသ နိဗ္ဗာန်သည် သောတာပတ္တိမဂ် ခဏ၌ ရောက်ရသော နိဗ္ဗာန်၊

သကဒါဂါမိမဂ် ခဏ၌ ရောက်ရသော နိဗ္ဗာန်၊

အနာဂါမိမဂ် ခဏ၌ ရောက်ရသော နိဗ္ဗာန်၊

အရဟတ္တမဂ် ခဏ၌ ရောက်ရသော နိဗ္ဗာန်- ဟူ၍ ရောက်ကြ သူတို့၏ အခိုက်အတန့် အားဖြင့် ၄ ပါးရှိ၏။

ထို ၄ ပါးသည် သဥပါဒိသေသချည်း ဖြစ်၍ ကျမ်းဂန်တို့၌ သဥပါဒိသေသ နိဗ္ဗာန်တခုသာ ဆိုကြကုန်၏။ ထို ၄ ပါးတွင် သောတာပန်တို့ ရောက်ကြ၊ ရကြ၊ ခံစံကြရသော နိဗ္ဗာန်သည် ပထမနိဗ္ဗာန် မည်၏။

အင်္ဂုတ္တိုရ် ပါဠိတော်၌မူကား— ဘဂ်ဥာဏ်မှစ၍ ဗလဝ ဝိပဿနာအခိုက်သို့ ရောက်၍နေသော ဝိပဿနာ ကလျာဏ- ပုထုဇဉ် ပုဂ္ဂိုလ်ကိုလည်း သဥပါဒိသေသပုဂ္ဂိုလ်ဟု ဟောတော်- မူ၏။

တိဏ္ဏံ သံယောဇနာနံ ပရိက္ခာယာ
သောတာပန္နောဟောတိ၊ အဝိနိပါတဓမ္မော
နိယတော၊ သမ္ဗောဓိပရာယဏော။

တိဏ္ဏံ သံယောဇနာနံ- သက္ကာယဒိဋ္ဌိ၊ ဝိစိကိစ္ဆာ၊ သီလဗ္ဗတ- ပရာမာသ ဟူသော သုံးပါးသော သံယောဇဉ်တို့၏၊ပရိက္ခယာ- ကုန်ငြိမ်းခြင်းကြောင့်၊ သောတာပန္နော- မြင့်မြတ်ရာသို့သာ တဖြောင့်တည်း ဆန်တက်သော သီလ၊ သမာဓိ၊ ပညာ ဟူသော ဓမ္မသောတ၊ မြင့်မြတ်သော ဘုံစဉ်စံ ပဋိသန္ဓေအစဉ် ဟူသော ဘဝသောတသို့ အစစ္စာဆိုက်ရောက်သော သောတာပန်သည်၊ ဟောတိ-ဖြစ်၏။ အဝိနိပါတဓမ္မော-အဝိနိပါတ ဘေးဆိုးကြီးမှ

အပြီး ကင်းလွတ်ပြီ၊ နိယတော- ဘဝအဆက်ဆက် ကမ္ဘာ အဆက်ဆက် မပျက်ကွက်ဘဲ အစဉ်မှဲ့သော သီလ၊သမာဓိ၊ ပညာ နှင့် ပြည့်စုံ၏။ သမ္ဗောဓိပရာယဏော- အထက်မဂ်၊ အထက်ဖိုလ် လျှင် လိုခါရကြောင်း မတိမ်းစောင်းနိုင်သော လည်းလျောင်း ရာရှိ၏။ (အနက်)

(၁) **ဝဋ်သုံးပါး။** ။သံသရာဘေး အပေါင်းတို့တွင် အဆိုးဝါးဆုံး၊ အညစ်ပတ်ဆုံး၊ အကြမ်းထမ်းဆုံး၊အယုတ်မာဆုံး ဘေးကြီးစုကား- သက္ကာယဒိဋ္ဌိ၊ ဝိစိကိစ္ဆာ၊သီလဗ္ဗတပရာမာသ- ဟူသော ကိလေသာဝဋ်ဆိုးကြီးတပါး၊ ဒုစရိုက် ၁၀ ပါးဟူသော ကမ္မဝဋ်ဆိုးကြီးတပါး၊အပါယ်ကျမှုဟူသော ဝိပါကဝဋ်ဆိုးကြီး တပါး၊ ဤဝဋ်ဆိုးကြီး ၃ ပါးသည် သံသရာ၌ အဆိုးဝါးဆုံး၊ အညစ်ပတ်ဆုံး၊ အကြမ်းတမ်းဆုံး၊ အယုတ်မာဆုံး ဖြစ်၏။ ကြွင်းသော ကိလေသာဝဋ်၊ ကမ္မဝဋ်၊ ဝိပါကဝဋ် တို့ကား မထောင်းတာရှိ၏။

ကြွင်းသောဝဋ် ဆိုသည်**ကား** ကာမသုဂတိ (၇)ဘုံ၌ ကျင်လည်ရန် **ကာမတဏှာ**။ ကာမတဏှာ၊ ကာမကုသိုလ်၊ ကာမသုဂတိဘဝ ဟူ၍ ကာမဝဋ် ၃ ပါး၊ ရူပ-၁၆ ဘုံ၌ ကျင်လည်ရန် ရူပတဏှာ၊ ရူပကုသိုလ်၊ ရူပဘဝ ဟူ၍ ရူပဝဋ် ၃ ပါး၊ အရူပဘုံ၌ ကျင်လည်ရန် အရူပတဏှာ၊ အရူပကုသိုလ်၊ အရူပဘဝဟူ၍ အရူပဝဋ် ၃ ပါး၊ ဤဝဋ်စုကို ကြွင်းသောဝဋ် ဆိုသည်။

သောတာပတ္တိမဂ်ခဏ၌ ဝဋ်ကြီး ၃ ပါး နောင် အကြွင်း မရှိ၊ ကုန်ငြိမ်း၏။ ကာမသုဂတိ (၇)ဘုံ၌လည်း အဟိတ်ဘဝ၊

ဒိဋ္ဌိဟိတ်ဘဝ ကုန်ငြိမ်း၏။စည်းစိမ်ချမ်းသာ အလိမ္မာဘုန်းတန်ခိုး ယုတ်ညံ့သော လူမျိုး၊ နတ်မျိုးအဖြစ်မှ ကုန်ငြိမ်း၏ ဟူလိုသည်။ ပြဟ္မာညံ့မှာလည်း ပြဟ္မာယုတ်၊ ပြဟ္မာဘုံ ဖြစ်မှု ကုန်ငြိမ်း၏။ သောတာပတ္တိမဂ်ခဏ၌ ဤ အလုံးစုံသော ကုန်ငြိမ်းမှုသည် သဉပါဒိသေသ ပထမနိဗ္ဗာန်ကြီးပေတည်း။

အဘယ့်ကြောင့် သဉပါဒိသေသ နိဗ္ဗာန် ခေါ်သနည်း ဟူမူကား ရှေ့သို့ ဘုံစဉ်စံစား၍ သွားရန် တဏှာကြွင်းနှင့်တကွ လူ့ဘဝ၊ နတ်ဘဝ၊ ပြဟ္မာဘဝတွေ များစွာကြွင်းကျန်လျက် ရှိသေးသောကြောင့် သဉပါဒိသေသ ခေါ်သတည်း။ ဝဋ္ဋဆိုးကြီး ၃ ပါး ငြိမ်းမှုကြောင့် သဉပါဒိသေသ ခေါ်သည် ဟူလို။

(၂) **သောတာပန်နှင့် နိဗ္ဗာန်။** ။ဘုံစဉ်စံ သောတာပန်တို့သည် ထို နိဗ္ဗာန်ဘုံဌာနသို့ အဘယ်သို့ ရောက်ကြကုန်သနည်း ဟူသော အမေး၌ ဘုံဌာနဆိုသည်ကား အဝတ္တာဘုံပေတည်း။ အခွင့်ထူး၊အရာထူး၊ ဌာနန္တရထူးပေတည်း။ ပုထုဇဉ်အဖြစ်ကား တဌာနတည်း ပုထုဇဉ်ဘူမိ ခေါ်၏။ လောကိယဘူမိလည်း ခေါ်၏။ ထိုဝဋ္ဋဆိုးကြီး ၃ ပါး ကုန်ငြိမ်းသော အရိယာ၏ အဖြစ်ကား အရာထူးတပါး ဌာနန္တရထူး တပါးတည်း။ အရိယာဘူမိ ခေါ်၏။လောကုတ္တရာဘူမိလည်း ခေါ်၏။

ဤသို့လျှင် သောတာပတ္တိမဂ်သို့ ရောက်သောအခါမှစ၍ နောက် အနာဂတ်သံသရာ တခွင်လုံး ထိုဝဋ္ဋဆိုးကြီး ၃ ပါး ကင်းရှင်းမှုနယ်ကြီးသည် အခွင့်ထူး၊ အရာထူး၊ ဌာနန္တရခေတ်

အထူး၊ နယ်အထူးဖြစ်၍ နိဗ္ဗာန်ဘုံဌာန ဆိုသတည်း။ သောတာပတ္တိမဂ်သို့ မရောက်မီ အနမတဂ္ဂ အတိတ်သံသရာကာလ၌ ဝဋ္ဋဆိုးကြီး ၃ ပါး ရှိနေသော ပုထုဇဉ်အဖြစ်နှင့်သာ လာခဲ့ရ၏။ သောတာပတ္တိမဂ်သို့ ရောက်သည်နှင့် တပြိုင်နက် ထိုအဖြစ်မှ ကျွတ်လွတ်၍ ထို ဝဋ္ဋဆိုးကြီး ၃ ပါး ကင်းငြိမ်းခြင်းဟူသော အခွင့်ထူး၊အရာထူး၊ဌာနန္တရာထူးသို့ ရောက်သည်ကို သဥပါဒိသေသ နိဗ္ဗာန်သို့ ရောက်သည်ဟု ဆိုသတည်း။

ထိုဝဋ္ဋဆိုးကြီး ၃ ပါး၏ ကင်းငြိမ်းမှုသည်လည်း အမြဲနိစ္စထာဝရ တည်လေတော့သည်ဖြစ်၍ အနုပါဒိသေသ နိဗ္ဗာန်နှင့် တပြင်တည်း၊ တခုတည်း၊ တဆက်တည်းသာတည်း။ နှစ်ခုဆိုရန် အပိုင်းအခြား မရှိ။ ထို ဘုံစဉ်စံ သောတာပန်တို့သည်လည်း သောတာပတ္တိမဂ်သို့ ဆိုက်သည်နှင့် တပြိုင်နက် လောကီဘုံသူ၊ လောကီဘုံသားအဖြစ်မှကျွတ်လွတ်၍ နိဗ္ဗာန်ဘုံသူ၊နိဗ္ဗာန်ဘုံသားအဖြစ်သို့ ရောက်ကြလေကုန်၏။ အရိယာဘုံသူ၊အရိယာဘုံသားအဖြစ်သို့ ရောက်ကြလေကုန်၏။

ထိုဘဝမှစ၍ အဆုံးဘဝ၌ အနုပါဒိသေသ နိဗ္ဗာန်သို့ ဆိုက်ရောက်သည့်တိုင်အောင် ဘဝ အဆက်ဆက် ကမ္ဘာအဆက်ဆက် ထို ပထမနိဗ္ဗာန်ဟူသော ဌာနန္တရ၌ တည်ကြကုန်၏။ ဥပါဒိကြွင်းဟု ဆိုအပ်သော လူ့ဘဝ၊ လူ့ချမ်းသာ၊ နတ်ဘဝ၊နတ်ချမ်းသာ၊ဗြဟ္မာဘဝ၊ဗြဟ္မာချမ်းသာတို့ကို အစဉ်ခံစား၊ စံစား၍ သွားကြရကုန်၏။ ထို့ကြောင့် တိဏ္ဏံ သံယောဇနာနံ ပရိက္ခယာ သောတာပန္နော ဟောတိ ဟူ၍ ဟောတော်မူ၏။

(၃) ဝိနိပါတဘေးကြီး။ ။အဝိနိပါတဓမ္မော-ဝိနိပါတဘေးကြီးမှ အပြီး ကင်းလွတ်ပြီဟူသော စကား၌ ဝိနိပါတဘေးဆိုးကြီးသည်ကား ပုထုဇဉ်သတ္တဝါတို့သည် မိမိတို့၏ ရင်တွင်း နှလုံးတွင်း၌ မြင့်မိုရ်တောင်ကြီးကဲ့သို့ အလွန်ဝန်လေးလှစွာသော ဝဋ်ဆိုးကြီး ၃ ပါးရှိနေသည့်အတွက် သေကြသောအခါ၌ ဘယ်ဘုံမှာ ငါဖြစ်မည်ဟု မိမိတို့ဖြစ်လိုရာ ဘုံ၌ ဖြစ်နိုင်ကြကုန်သည်မဟုတ်၊ ကံပစ်ချရာဟု ကံတခု၊ ကြမ္မာတခု ပေါက်လွတ်ထားကြရကုန်၏။ (ပမာအားဖြင့်) ထန်းပင်ပေါ်၌ ရှိနေကုန်သော ထန်းသီးခိုင်တွေကို ခုတ်ချိုင်သောအါ အခိုင်အညှာပြတ်သည်နှင့် တပြိုင်နက် ထန်းသီးခိုင်တို့သည်"ဘယ်နေရာကို ငါကျမည်"ဟု ရွေးချယ်၍ ကျနိုင်ကြသည် မဟုတ်။ ပေါက်လွတ်တလကြမ်း၊ ဗရမ်းဗတာ ကျကြကုန်လေသကဲ့သို့၊ ထိုအတူ လူ့ပြည်မှ သေလျှင်လည်း ပေါက်လွတ်ကျရကုန်၏။ နတ်ပြည် ၆ ထပ်တို့မှ သေလျှင်လည်း ပေါက်လွတ်ကျရလေကုန်၏။ ဗြဟ္မာ့ပြည်မှ သေလျှင်လည်း ပေါက်လွတ်ကျကြရကုန်၏။ ကံပစ်ချရာ ရောက်ကြရကုန်၏။

ဤသို့ သေသည်၏နောက်၌ ပေါက်လွတ်လျှောက်လျှား ပစ်၍ထားကြရသော အမှု၊ ကမ္မသကာ ကျချင်ရာ ပေါက်လွတ်ကျရောက်ကြရသော ဓမ္မတာမှုကြီးကို ဝိနိပါတဘေးကြီး ဆိုသတည်း။

ဤသံသရာ၌ ပညာရှိကြီးတို့သည် အလွန်စက်ဆုပ်ကြရသော သံသရာဘေးကြီးပေတည်း။ ပညာ နည်းသူတို့သည်သာလျှင် "အများဓမ္မတာပေ"ဟု ကျေအေးကြကုန်၏။ သောတာပတ္တိ

မဂ်ဖိုလ်သို့ ရောက်ကြ၍ ဝဋ်ဆိုးကြီး ၃ ပါး ကျွတ်လွတ်ကြသော အခါမှ ထို ဝိနိပါတဘေးကြီး အပြီး ကင်းလွတ်ကြလေကုန်၏။ သေကြရသည့်နောက်၌ ရောက်လိုရာဘဝသို့ ရောက်နိုင်ကြကုန်၏။ အလိုဆန္ဒ အထူးမရှိဘဲ လွတ်၍ထားပြန်လျှင် ယခုဘဝထက် ကောင်းမြတ်သောဘဝသို့ တက်လမ်း၊ ဆန်လမ်း အလင်းသာ ရှိကုန်၏။ ရောက်လိုရာဘဝသို့ ရောက်နိုင်ကြကုန်၏– ဟုဆိုရာ၌ ဈာန်ရ၊ ဈာန်မရ စသည်တို့နှင့် လျော်စွာသိလေ။ ထို့ကြောင့် အဝိနိပါတဓမ္မ ဟူ၍ ဟောတော်မူပေသတည်း။

(၄) နိယတဝ။ ။နိယတော–ဘဝအဆက်ဆက်၊ ကမ္ဘာ အဆက်ဆက် မပျက်ကွက်ဘဲ အစဉ်မြဲသော သီလ၊သမာဓိ၊ပညာ နှင့် ပြည့်စုံ၏ ဟူရာ၌ ပုထုဇဉ်တို့၌ ရှိကြကုန်သော သီလ၊သမာဓိ၊ ပညာ မည်သည် "အဟုန်နှင့် တကွ ပြေးလေသောမြင်း၏ ကျောက်ကုန်း၌ ပေါက်လွတ်ထားအပ်သော အုန်းသီးနှင့် တူ၏" ဘဝပြောင်းမှုနှင့် တချက်လှုပ်လျှင် အကုန်ကျ၏။ ဘဝတွင်းမှာ ပင် ခုတင်ခု ကျ၏။ သောတာပန်တို့၌ တည်ရှိသော နိစ္စသီလ မျိုး၊ ကုသိုလ်ဓမ္မတို့၌ တည်ကြည်နိုင်သော သမာဓိမျိုး၊ သစ္စာ ၄ ပါးကိုမြင်သော ဉာဏ်ပညာမျိုးသည် သံကြိုး၊ သံလွန် တို့ဖြင့် ကောင်းစွာ ဖွဲ့အပ်သော မြင်းတန်ဆာနှင့် တူ၏။ ဘဝကမ္ဘာ သံသရာ၌ အစဉ်မြဲ၏။

သီလ၊ သမာဓိ တို့သည်သာ အစဉ်မြဲသည် မဟုတ်ကုန်။ ထို ဘုံစဉ်စံ သောတာပန်တို့အား ကိုးကွယ်ရာဘုရားလည်း အစဉ်မြဲ၏။ တရားလည်း အစဉ်မြဲ၏။ သံဃာလည်း အစဉ်မြဲ၏။ သာသနာလည်း အစဉ်မြဲ၏။ ဘဝများစွာ ကမ္ဘာအဆက်ဆက်

ကျင်လည်၍ သွားကြကုန်သော်လည်း သဗ္ဗညု ဘုရားသခင်တို့၏ ဂုဏ်တော်၊ ကျေးဇူးတော်တို့သည် ထိုသူတို့မှာ တဘဝထက် တဘဝ ထင်လင်းထင်ရှား၍ သွားကုန်၏။ တရားဂုဏ်၊ သံဃာဂုဏ်၊ သာသနာဂုဏ်တို့သည်လည်း ထို့အတူ ထင်ရှား၍ သွားကုန်၏။ ထိုသူတို့မှာ သာသနာပသော ဘဝ၊ သာသနာပသော ကမ္ဘာ ဟူ၍ မရှိကြတော့ပြီ။

ပုထုဇဉ်တို့မည်သည် ရံခါရံခါ ရှေ့ဘဝဟူ၍ မသိ၊ နောက်ဘဝဟူ၍ မသိ၊ မောဟထူးဖြစ်၍ ကိုးကွယ်ရာမရှိဘဲ ဖြစ်ချင်တတ်တိုင်း ရိုင်းစိုင်းမိုက်မဲ၍ နေကြသော ဘဝတွေလည်း များစွာရှိကုန်၏။ ရံခါရံခါ ကိုးကွယ်ရာမဟုတ်သော အယုတ်တမာကြီးတွေကို "ဘုရား"ပြုလုပ်၍ တဘဝတမျိုး ကိုးကွယ်ရာပေါင်း ထောင်သောင်းမက ပြောင်းလဲ၍ နေကြသော ဘဝတွေလည်း များစွာရှိကုန်၏။

ဤသံသရာ၌ ပညာရှိကြီးတို့သည် ဘုရားမဟုတ်၊ ဘာမဟုတ်သော အယုတ်တမာကြီးတွေကို ဘုရားပြုလုပ်၍ တဘဝတမျိုး ကိုးကွယ်ရာ မှောက်မှားမှုကြီးကိုလည်း အလွန်နာကြဉ်းကြကုန်၏။ အဘယ်ကြောင့်နည်းဆိုသော် ကိုးကွယ်ရာ မှောက်မှားလျှင် ထိုဘဝမှာ ရစရာမရှိ၊ အကုန်လုံး မှောက်မှားလေတော့သည်။ ဂေါသီလ၊ ဂေါဝတ အစရှိသဖြင့် တရားမဟုတ်၊ ဘာမဟုတ်သော အယုတ်တမာ အကျင့်တွေကို အထွတ်အမြတ်တရားပြုလုပ်၍ တဘဝတမျိုး ကိုးကွယ်ရာပေါင်း ထောင်သောင်းမက ပြောင်းလဲ၍ နေကြသော ဘဝတွေလည်း များစွာရှိကုန်၏။

ဤကဲ့သို့ မဟုတ်သော လောကုတ္တရာဘုံသူ၊ လောကုတ္တရာဘုံသား ဖြစ်ကုန်သော ထိုဘုံစဉ်စံ သောတာပန်တို့မှာ ဘဝများစွာ ကမ္ဘာအဆက်ဆက်တို့၌ ဘုရား၊ တရား၊ သံဃာကိုးကွယ်ရာ မပြောင်းရွှေ့ကြကုန်ပြီ ဟူလိုသည်။ ထို့ကြောင့် နိယတော ဟူ၍ ဟောတော်မူပေ၏။

(၅) **သမ္ဗောဓိပရာယဏော။** ။ သမ္ဗောဓိပရာယဏော-အထက်မဂ်၊ အထက်ဖိုလ်လျှင် ထိုခါရကြောင်း မတိမ်းစောင်းနိုင်သော လည်းလျောင်းရာ ရှိ၏ ဟူရာ၌ မိမိတို့အတွက် အထက်မဂ်၊ အထက်ဖိုလ်၊ အထက်နိဗ္ဗာန်ဟူသော အကြောင်းကြောင့် နောက်ဘုရား၊ နောက်သာသနာ မြှော်ဘွယ်ရာ မရှိကြပြီ ဟူလို။ အဘယ့်ကြောင့်နည်းဆိုသော် ထိုသူတို့မှာ သောတ-အမည်ရှိသော ဗောဓိပက္ခိယတရား ၃၇ ပါးတို့သည် အနုပါဒိသေသ နိဗ္ဗာန်သို့ကျအောင် တဘဝထက် တဘဝ၊ တကမ္ဘာထက် တကမ္ဘာ တိုးပွားစည်ကား၍သာ သွားကြလေကုန်၏။

ငါတို့ မြတ်စွာဘုရား သာသနာတော်ကြီး သုံးရပ်တို့သည် ထိုသူတို့သန္တာန်မှာ တဘဝထက်တဘဝ ထွန်းလင်းစည်ကား၍ သွားကြရကုန်၏။ ထို့ကြောင့် ဤဘုရားသာသနာတော် ကွယ်သည့်နောက် အနမတဂ္ဂသံသရာမှာ ဘုရားပွင့်မှု မရှိပြီ။ သို့သော်လည်း ထိုသူတို့ ပူဘွယ် မရှိကြကုန်ပြီ။ ထို့ကြောင့် သမ္ဗောဓိပရာယဏော ဟူ၍ ဟောတော်မူသည်။

ဤမျှသော စကားရပ်တို့ဖြင့် ငါတို့ မြတ်စွာဘုရား သာသနာ၌ အကျွတ်တရားရကြသူ အပေါင်းတို့တွင် အညံ့ဆုံး၊ အများဆုံးဖြစ်သော ဘုံစဉ်စံ သောတာပန်ပုဂ္ဂိုလ်တို့၏ သောတာပတ္တိမဂ်သို့ ဆိုက်သည်နှင့်တပြိုင်နက် သဥပါဒိသေသ ပထမ နိဗ္ဗာန်သို့

ရောက်ကြောင်း၊ နိဗ္ဗာန်ကိုရကြောင်း အမျိုးမျိုးအားဖြင့် လောကီဘုံသူ၊ လောကီဘုံသားအဖြစ်မှ ကျွတ်လွတ်၍ လောကုတ္တရာဘုံသူ၊ လောကုတ္တရာဘုံသား အရိယာဘုံသူ၊ အရိယာဘုံသား၊ နိဗ္ဗာန်ဘုံသူ၊ နိဗ္ဗာန်ဘုံသားအဖြစ်သို့ အမှန်ရောက်ကြောင်း အကနိဋ္ဌဘုံသို့ကျအောင် ဘဝများစွာ ကမ္ဘာအဆက်ဆက် သဉပါဒိသေသ နိဗ္ဗာန်၌ တည်၍ ဝဋ်ဆိုးကြီး ၃ပါး ငြိမ်းခြင်း တည်းဟူသော သန္တိသုခ နိဗ္ဗာနသုခနှင့်တကွ လူချမ်းသာ၊ နတ်ချမ်းသာ၊ ဗြဟ္မာချမ်းသာ တည်းဟူသော လောကုတ္တရာ ချမ်းသာ နှစ်ပါးကို အစဉ်ခံစား၊ ခံစား၍ သွားကြရကြောင်းကို အကျဉ်းအားဖြင့် ထင်ရှားစွာ ပြဆိုလိုက်သည်။ အကနိဋ္ဌဘုံသို့ကျအောင်ဟူသော စကား၌ အထက်မဂ်၊ အထက်ဖိုလ်သို့ ရောက်ကြသည့်အခါ ဒုတိယ၊ တတိယ၊ စတုတ္ထ၊ သဉပါဒိသေသ နိဗ္ဗာန် ၃ပါး ပါခြင်းကို ဆိုလိုက်သည်။

> ဤစကားရပ်ကိုလည်း လောက၌ **နိဗ္ဗာန်စာအုပ်မလည်မပတ်တွေ** များလှ၍ ပညာရှိတို့ ရိပ်မိရုံမျှ ပြလိုက်သည်။ အကျယ်ကိုမူကား ငါတို့ ပြုစီရင်သော အနတ္တဒီပနီ စာအုပ်ငယ်၊ စတုသစ္စဒီပနီ စာအုပ်ငယ်၊ သင်္ဂြိုဟ် ၉ပိုင်းလုံးကို အကျဉ်းချုံး၍ သံပေါက်လင်္ကာဖြင့် စီရင်သော ပရမတ္ထသံခိပ် စာအုပ်ငယ်များ၌ ကြည့်၍ယူလေ။

လယ်တီ ဆရာတော်ဘုရားသည် သောတာပန် စကားရပ်များ၏ အဆုံးတွင် အထက်ပါ **မှတ်ချက်**ဖြင့် နိဂုံးချုပ်တော်မူ၏။

ဤအမှာစကားရပ်ဖြင့် ဆရာတော်၏ စေတနာ၊ မေတ္တာ၊ ဆန္ဒတော် ပေါ်လွင်၏။ တပည့်တို့အား တရားမှန်၊ အကျင့်မှန်ဖြင့် သောတာပန်ဘုံသို့ ရောက်အောင် ပို့ဆောင်တော်မူကြောင်းကို ထင်ရှားပေသည်။ ဆရာတော်သည် သောတာပန်တရားကို အခြား စာအုပ်များတွင်လည်း ဆိုတော်မူ၏။ ဆရာတော်၏ သောတာပန္နကထာကို ဤစာအုပ်တွင်ကား ဤမျှသာ။

## သောတာပန် ဖြစ်ရခြင်း အကျိုး

"အရှင်ဘုရား၊ ဆတာသည်ပင်လျှင် မိမိတတ်ထားသော ပညာဖြင့် တအိုး၊ တအိမ်ထောင်ကို ထိန်းနိုင်ပါ၏။ အတတ်ပညာရပ်၏ အကျိုးကို လက်ငင်း ခံစားရပါ၏။ အရှင်ဘုရား၏ သာသနာ၌ ဝင်ရောက်၍ ရဟန်းပြုခြင်း၏ လက်ငင်း ခံစားရသောအကျိုး ရှိပါသလော။ ရှိလျှင် ထိုအကျိုးကား အဘယ်ပါနည်း"

ဤပြဿနာကား- တိမ်ယောင်နှင့် နက်လှ၏။ သာသနာ့မဏ္ဍိုင်ကြီးကို ကိုင်လှုပ်လိုက်သောပြဿနာ ဖြစ်၏။ထိုပြဿနာကို မေးလျှောက်လေသူ ပြဿနာရှင်ကား နေလို လလိုလင်းသော ဘုရင်မင်းကြီးတဆူ ဖြစ်၏။ အမည်မှာ အဇာတသတ် ဖြစ်၍ မေးလျှောက်ခြင်းခံရသူကား ဗုဒ္ဓမြတ်ဘုရား ဖြစ်သတည်း။ ထိုပြဿနာမှာ သုတ္တန္တပိဋကတ်၊ သုတ်သီလက္ခန်ပါဠိတော် သာမညဖလသုတ်၌ လာ၏။ အဇာတသတ်မင်းသည် ဘုရားသခင်ထံတော်သို့ ကိုယ်တိုင်လာရောက် ချဉ်းကပ်ရန် မဝံ့သဖြင့်

ဇီဝက၏အကူအညီကို ယူ၍ ဗုဒ္ဓထံ ချဉ်းကပ်မိလေသောအခါ အထက်ပါ ရဟန်း ဖြစ်ရခြင်း၏ လက်ငင်း ခံစားရသော ပြဿနာကို ဗုဒ္ဓမြတ်ဘုရားအား မေးလျှောက်လေသည်။ ထိုအခါ အဇာတသတ်မင်းအား–

"မင်းမြတ်၊ သင်၏မေးခွန်းကို မဖြေမီ သင့်အား ငါမေးဦး အံ့။ ထီးတော်မိုး၊ ဘိနပ်ထိုးမှစ၍ သင် စေခိုင်းနေသော ကျွန်တယောက် သင့်မှာ ရှိလေရာ၏။ ထိုကျွန်သည် ယနေ့ သင်္ကန်းကိုဝတ်၍ နက်ဖန်တွင် သင့်ထံသို့ လာလေသောအခါ သင်သည် ထိုရဟန်းအား ခိုင်းနေကျအတိုင်း 'ငါ့အား ထီးတော်မိုး၊ ဘိနပ်ထိုးလော့'ဟု သင် ခိုင်းမည်လော"

"ဤသို့ မခိုင်းအပ်ပါဘုရား။ မခိုင်းသည့်အပြင် ထိုရဟန်း အား ရှိခိုးဦးတင်လျက် 'ကြွတော်မူပါဘုရား'ဟူ၍ နေရာထိုင် ခင်းဖြင့် ပင့်ဖိတ်ရပါဦးမည်ဘုရား"

ဤသို့ အဇာတသတ်မင်းက ဖြေလေသောအခါ "မင်းမြတ်၊ **ဤသည်ပင်လျှင် ရဟန်းပြုရခြင်း၏ လက်ငင်း ခံစားရသော အကျိုးပင်တည်း။** တသက်လုံး ကျွန်ပြု၍ မိမိ ခိုင်းလာသူ တယောက်ကို မိမိက ပြန်၍ ရှိခိုးရခြင်းမှာ ရဟန်းပြုခြင်း၏ လက်ငင်း အကျိုးမဟုတ်ပါလော" ဟူ၍ ဗုဒ္ဓက မိန့်တော် မူလျှင်–

အဇာတသတ်မင်းသည် "မှန်ပါသည်ဘုရား"ဟူ၍ ဝန်ခံ၏။

ထို့အတူ ဤဥလည်း အဇာတသတ်မင်း မေးသကဲ့သို့ပင် မေးလိုက်၏။ **သေတာပန်ဖြစ်လျှင် အဘယ်အကျိုး ရှိသနည်း။**

သောတာပန်ဖြစ်ရခြင်း၏ လက်ငင်းအကျိုးကား အဘယ်နည်း ဟူ၍ မေးအပ်၊ မေးသင့်၊ မေးထိုက်၏။

ထိုမေးခွန်းကို ဝိသုဒ္ဓိမဂ်ကျမ်း[၁]၌ "အပိစခေါ အနမတဂ္ဂ သံသာရ သမုဒ္ဒံသောသေတိ" အစရှိသည်ဖြင့် အဋ္ဌကထာဆရာ အရှင်မဟာဗုဒ္ဓဃောသက ဖြေ၍ ပြတော်မူ၏။ အရှင်မဟာ ဗုဒ္ဓဃောသ၏ အဖြေအာဘော် အဓိပ္ပာယ်သော်ကား-

အဆုံး၊ အစ မထင် ကျယ်ချင်တိုင်း ကျယ်လှသော ဤ သံသရာပြင်ကြီးသည် လေးစင်းသော သမုဒ္ဒရာကြီးနှင့် အလား တူ၏။ သံသရာတွင်း၌ ဘဝအသခေျ တပေပေနှင့် ခံနေရသော ကိုယ်၏ဆင်းရဲခြင်း၊ စိတ်၏ဆင်းရဲခြင်းတည်းဟူသော ဆင်းရဲ မျိုးစုံ အဖုံဖုံတို့ကား သမုဒ္ဒရာရေများနှင့် အလားတူကုန်၏။ သောတာပန်ပုဂ္ဂိုလ်ကား နေဆယ်စင်းအားထက် အဆမတန် အပူရှိန် ကြီးမားပြင်းထန်လှစွာသော နေမင်းကြီးနှင့် အလား တူ၏။

ဆယ်လုံးကုန်သော နေမင်းကြီးတို့သည် မိမိတို့၏ အပူရှိန် စွမ်းပကားဖြင့် လေးစင်းသော သမုဒ္ဒရာတွင်းရှိ ရေများကို ခြောက်ခန်းစေကုန်ဘိသကဲ့သို့ အတူ သောတာပန် ပုဂ္ဂိုလ်သည် မိမိသိမြင်ထားသော အမှန်တရား၏စွမ်းပကားဖြင့် သံသရာဝဋ္ဋ ဆင်းရဲအပေါင်းကို ခြောက်သယောင်း သွားစေ၏။ သဗ္ဗ- အပါယဒ္ဒါရာနိ-ရှိသမျှ အပါယ်တံခါးပေါက် အားလုံးတို့ကို၊

---

၁၊ ဝိသုဒ္ဓိမဂ္ဂ အဋ္ဌကထာ၊ ဒု—၃၁၄၊

ပိဒတိ-အဝင်အထွက် မရှိစေရအောင် ဆို့ပိတ်ပစ်လိုက်၏။ အပါယ်တံခါးများ ပိတ်သွားပြီဖြစ်၍ စိတ်ချလက်ချ ပူပင်ကြောင့်ကြရခြင်း မရှိ။ပကတိ ချမ်းသာစွာနေရခြင်း အကျိုးကို လက်တွေ့ ခံစားလာရ၏။

သတ္တန္နံအရိယဇနာနံ သမ္ဘုခီဘာဝံ ကရောတိ-သဒ္ဓါ၊ သတိ၊ ဟိရိ၊ဩတ္တပ္ပ၊ဗာဟုသစ္စ၊ဝီရိယ၊ ပညာ တည်းဟူသော သူတော်ကောင်းဥစ္စာ ခုနစ်ဖြာကို မျက်မှောက်ပြုရခြင်းအကျိုးရှိလာ၏။ အဋ္ဌဂိတံ မိစ္ဆာမဂ္ဂ ပဇဟတိ-မိစ္ဆာဒိဋ္ဌိမဂ္ဂင်၊ မိစ္ဆာသင်္ကပ္ပမဂ္ဂင်၊ မိစ္ဆာကမ္မန္တ မဂ္ဂင်၊ မိစ္ဆာအာဇီဝ မဂ္ဂင်၊ မိစ္ဆာဝါယာမ မဂ္ဂင်၊ မိစ္ဆာသတိမဂ္ဂင်၊ မိစ္ဆာသမာဓိမဂ္ဂင် တည်းဟူသော လမ်းမှား လမ်းဆိုးကြီးရှစ်မျိုးကို ယတိပြတ် ဖြတ်တောက်၍ စွန့်ပစ်လိုက်တော့၏။ သဗ္ဗဝေရဘယာနိဝူပသမေတိ၊ ဘေးခပ်သိမ်း၊ ရန်ခပ်သိမ်း၊အန္တရာယ်ခပ်သိမ်းတို့ကို ငြိမ်အောင် ငြိမ်းပစ်လိုက်တော့၏။သမ္မာသမ္ဗုဒ္ဓဿ ဩရသပုတ္တဘာဝံ-ဥပနေတိ- တခါထဲ သကျပုတ္တ၊သာကီယနွယ်မြစ် သားတော်စစ်အဖြစ်ရောက်အောင် တွန်းပို့လိုက်သဖြင့် ဘုရားသားတော်ကြီး ဖြစ်လာ၏။

သောတာပန် ဖြစ်ရခြင်းအတွက် လက်ငင်း ခံစားရသော ဤအကျိုး၊ထိုအကျိုးများမှတပါး ဂဏန်းသား၍ဖော်ပြခြင်းငှာ မစွမ်းနိုင်အောင်သော အခြားအကျိုး များစွာတို့ကိုလည်း လက်ငင်း ခံစားရလေသတည်း။

သဗ္ဗအပါယ ဒွါရာနိ ပိဒဟတိ - ဆိုသဖြင့် သောတာပန် ပုဂ္ဂိုလ်သည် သောတာပန် ဖြစ်ပြီးသည့်အချိန်မှစ၍ ပါဏာတိပါတ စသော အပါယ်လားကြောင်း မကောင်းမှု၊ ဒုစရိုက်မှု

များကို မပြုဝံ့တော့ပြီဖြစ်သည့် အချိန်မှစ၍ အယူများ၊ အမှတ်များ၊အတွေးများ၊ အကြံများ၊ အပြောများ၊ အဆိုများ၊ အပြုများ၊အလုပ်များ၊အသက်မွေးများ၊အားထုတ်များ၊သတိများ၊ သမာဓိများ အများဟူသမျှ ခဝါချပစ်၍ သြရသပုတ္တ- ဗုဒ္ဓမြတ်ဘုရား၏ သားတော်စစ်ကြီး ဖြစ်သ၏။

လောကဝဋ္ဋခေါ်သော ပြစ်မှုဟူသမျှတို့ကား ကံသုံးပါးတို့ဖြင့် လုပ်များကိုင်များ၊ ပြောများဆိုများမှုများကြောင့်သာ ဖြစ်ရခြင်း ဖြစ်လေရာ သောတာပန်ပုဂ္ဂိုလ်များမှာ ထိုသို့သော ပြုမှု ပြောဆိုခြင်းမျိုး မရှိတော့သဖြင့် အပြစ်ခပ်သိမ်း ငြိမ်းကာ ချမ်းသာစွာနေရခြင်း ဟူသောအကျိုးကို လက်တွေ့ ခံစားရ လေ၏။ဤကား သောတာပန် ဖြစ်ရကျိုး အမြွက်စကားတည်း။

## သောတာပန်အမျိုးအစားနှင့် ယင်းတို့၏ဘဝအပိုင်းအခြား

သက္ကာယဒိဋ္ဌိ ကွာလျှင် သောတာပန်၊ ရတနာသုံးပါးကို လိုက်လှဲစွာ သက်ဝင်ယုံကြည်၍ သောတာပန်၊ပညတ်နှင့် ပရမတ် ယင်းနှစ်ရပ် ပြတ်ပြတ်သားသား ခွဲခွဲခြားခြား သိမြင်၍ အတ္တပျောက်ပြီး အနတ္တပေါ်လျှင် သောတာပန် ဖြစ်ပြီဟု ဆိုခဲ့ပြီး ဖြစ်၏။

လူအမျိုးမျိုး၊နတ်အမျိုးမျိုး၊ဘုရားရှိခိုးအမျိုးမျိုးဆိုသကဲ့သို့ ထိုသောတာပန်သည်လည်း သုံးမျိုးသုံးစား ပြား၏။

(က) ဧကဗီဇ သောတာပန်။

(ခ) ကောလံ ကောလ သောတာပန်။

၁ (ဂ) သတ္တက္ခတ္တု ပရမ သောတာပန်။

**(က) ကေဗိဇ သောတာပန်။** ။ယင်း သောတာပန် ၃ မျိုးအနက် ယခုဘဝ၌ သောတာပန်ဖြစ်ပြီး ယခုဘဝမှာပင် နိဗ္ဗာန်ဝင်သော သောတာပန်ကို ကေဗိဇ သောတာပန်ဟု ဆိုသည်။

အချို့ကမူ သောတာပန်အဖြစ်နှင့် လူ့စည်းစိမ်ချမ်းသာကို တဘဝသပ်သပ် ကျပ်ပြည့်တင်းပြည့် ခံစားစံစားခဲ့ပြီး နောက်ဘဝကျမှ နိဗ္ဗာန်ဝင်သော သောတာပန်ကို ကေဗိဇ သောတာပန်ဟု အယူရှိကြ၏။နိဗ္ဗာန်ဝင်သော နောက်ဘဝကို အရေအတွက်ထဲ မသွင်းဘဲ သောတာပန်ကို တဘဝ သန့်သန့် ယူ၏။

**(ခ) ကောလံ ကောလ သောတာပန်။** ။ ၂ ဘဝနှင့် ဖြစ်စေ၊ သို့မဟုတ် ၃၊ ၄၊ ၅၊ ၆ ဘဝနှင့်ဖြစ်စေ၊ နိဗ္ဗာန် ဝင်သော သောတာပန်ကို ကောလံကောလ သောတာပန် ခေါ်၏။ဤ၌လည်း အချို့က ယခင်နည်းအတိုင်း ယူကြ၏။ ဇနီးမယား၊ သမီးသားနှင့် စီးပွားရစ်နှောင် လူတို့ဘောင်တွင် သောတာပန်အဖြစ်နှင့် လူ့စည်းစိမ်ကို ၂ ဘဝသန့်သန့်၊ ၃ ဘဝ သန့်သန့်၊ ၄ ဘဝသန့်သန့်၊ ၅ ဘဝသန့်သန့်၊ ၆ ဘဝသန့်သန့် ခံစား စံစားပြီးမှ နိဗ္ဗာန်ဝင်သော သောတာပန်ဟု ဆိုသည်။

ပမာအားဖြင့် ထိုသောတာပန်သည် မိမိ သွားလိုရာသို့ အချိန်မရွေး သွားနိုင်သည့် ရထားလက်မှတ်ကို ရရှိထားပြီး သူနှင့် တူ၏။ထိုသူသည် ယနေ့ ငါ မသွားလို၊ အလုပ်ကိစ္စတွေ တိုးလို့တန်းလန်းနှင့် ရှိနေသေးသည်။နက်ဖန်ခါကျမှ သို့မဟုတ်

ဘယ်သောအခါကျမှ ငါသွားမည်ဟူ၍ငင်း၊ ယခုလတော့ ငါ အေးအေးဆေးဆေး နေအုံးမည်၊ အခါ လွန်မှဘဲ ငါ သွားဟော့မည်ဟူ၍ငင်း၊ မိမိ သွားလိုသော နေ့ရက် အချိန်တွင် သွားနိုင်ခြင်းလက်မှတ် ရရှိထားပြီး ဖြစ်သောကြောင့် ဖြစ်၏။

ထို့အတူပင် သောတာပန်ပုဂ္ဂိုလ်သည် သောတာပန် ဖြစ်သည့်အချိန်မှစ၍ နိဗ္ဗာန်လက်မှတ် ရရှိထားပြီး ဖြစ်သောကြောင့် သောတာပန်ဘဝ အပိုင်းအခြား ခုနစ်ဘဝအတွင်း၌ နိဗ္ဗာန်ဝင်လိုသောဘဝမှာပင် အချိန်မရွေး ဝင်နိုင်သည်။

(ဂ) **သတ္တက္ခတ္တုပရမ သောတာပန်**။ ။ သောတာပန် ဖြစ်သည့်ဘဝမှစ၍ ခုနစ်ဘဝမြောက်၌ နိဗ္ဗာန်ဝင်သော သောတာပန်သည် သတ္တက္ခတ္တုပရမ သောတာပန် မည်၏။ အချို့က သောတာပန်အဖြစ်နှင့် (၇)ဘဝ သန့်သန့်နေပြီးမှ နိဗ္ဗာန်ဝင်သည်ဟု အယူရှိကြ၏။

သို့သော် ဤ၌ စဉ်းစားစရာ ဖြစ်လာ၏။ သောတာပန်ဘဝ အပိုင်းအခြားမှာ (၇)ဘဝသာ ဖြစ်လေသည်။ ကောဋိ သောတာပန်မှာ တဘဝသန့်သန့် သောတာပန်အဖြစ်နှင့်နေပြီးမှ ၂ ဘဝမြောက်တွင် နိဗ္ဗာန်ဝင်သည်။ ဆိုလိုရင်းမှာ သောတာပန် ဘဝကြွင်းများ ရှိနေသေးသဖြင့် သင့်တင့်စေဦးတော့။ ကောလံကောလသောတာပန်မှာလည်း ထိုနည်းရင်းပင် ဖြစ်၏။ သောတာပန်ပိုင်နက်တွင်း၌ ရှိနေသေးသဖြင့် တဘဝသန့်သန့်၊ ၂ ဘဝသန့်သန့် စသည်ယူနိုင်သည်။

သတ္တက္ခတ္တုပရမ သောတာပန်၏ သက်တမ်းကာလ ဘဝ အပိုင်းအခြားမှာ-

သတ္တက္ခတ္တုံ ပရမံ ယဿတိ သတ္တက္ခတ္တု ပရမော။ ယဿ- အပြင်သောတာပန်အား၊ ဝါ—သောတာပန်၏၊ သတ္တက္ခတ္တုံ ခုနစ်ကြိမ်၊ ပရမံ-ပဋိသန္ဓေနေရန် အလွန်ဆုံး ပမာဏသည်၊ အတ္ထိ-ရှိ၏၊ ဣတိ-ထို့ကြောင့်၊ သော-ထိုသောတာပန်သည်၊ သတ္တက္ခတ္တုပရမော- သတ္တက္ခတ္တု ပရမာ မည်၏ဟူ၍ ဤသို့ "၇-ဘဝမျှသာ" ဟု အတိအလင်း ဆိုထားပေသည်။ သောတာပန်အဖြစ်နှင့် "၇-ဘဝသန့်သန့်"နေပြီးမှ နိဗ္ဗာန်ဝင်သည်ဟု ယူခဲ့သော် ရှစ်ဘဝမြောက်တွင်မှ နိဗ္ဗာန်ဝင်ရာ ရောက်သည်။ ဤသို့ ယူရန်မသင့်။

အဋ္ဌမ မာဒိယန္တိဟူသော ပရိတ်ကြီးပါဠိတော်ကို ထောက်လျှင် (၇) ဘဝသေချာ၏။ အဋ္ဌမံ-ရှစ်ခုမြောက် ဖြစ်သော ဘဝကို နအာဒိယန္တိ-သောတာပန်တို့မယူကုန်။

ထိုမှတပါး-"ရာဇဂိဘင်း ပါဠိတော်"၌လည်း အဋ္ဌာနမေတံ ဘိက္ခဝေ၊ အနဝကာသော ယံ ဒိဋ္ဌိသမ္ပန္နော အဋ္ဌမံနိဗ္ဗတေယျ ဟူ၍ ဗုဒ္ဓကိုယ်တော်တိုင် ဟောတော်မူ၏။ အဓိပ္ပာယ်မှာ သက္ကာယဒိဋ္ဌိကွာ၍ သမ္မာဒိဋ္ဌိအယူနှင့် ပြည့်စုံသော သောတာပန် သည် ရှစ်ဘဝမြောက်ဖြစ်ရန် အကြောင်းမရှိပြီဟု ဆိုလိုသည်။

၇-ဘဝနှင့် သောတာပန်ဇာတ်တထုံးကို နိဂုံးချုပ်၍ နိဗ္ဗာန် ဝင်မှ ကျမ်းဂန်အဆိုအမိန့်များနှင့် ညီမည် ဖြစ်သတည်း။

သောတာပန် သုံးမျိုးအနက် မည်သည့် သောတာပန် ဖြစ်စေ၊ နိဗ္ဗာန် ဝင်လိုသောဘဝ၌ နိဗ္ဗာန်ရောက်ကြောင်း ဝိပဿနာတရားကို ပွားများအားထုတ်ရာ၏။ အားထုတ်သော အခါ-

ပုဂ္ဂိုလ်၏ ပါရမီ အနု၊ အရင့်ကို လိုက်၍ နိဗ္ဗာန်ကို နှေးနှေး ရောက်ခြင်း၊ မြန်မြန်ရောက်ခြင်း ခြားနားသွား၏။ နိဗ္ဗာန် သို့ကား ရောက်သည်ချည်းတည်း။ မရောက်သူဟူ၍ မရှိပြီ။

သောတာပန် ဖြစ်ခဲ့လျှင် သားတွဲလဲ၊ သမီးတွဲလဲ၊ ဇနီး တွဲလဲ၊ ရွှေတွဲလဲ၊ ငွေတွဲလဲ၊ တိုက်တာနေအိမ်၊ အဆောက်အဦ ဝင်းခြံတွဲလဲနှင့် သံယောဇဉ် အမြင်တန်းလန်း ရှိသေးသော်လည်း ကံငါးပါးလုံ၏၊ သူ့အသက်သတ်ခြင်း၊ သူ့ဥစ္စာကို ခိုးခြင်း စသည်ကို ရှောင်ကြဉ်၏။ မိစ္ဆာဇီဝဖြင့် အသက်မွေးခြင်းမရှိ။ ကုသိုလ်ကောင်းမှုများ ပြုလေသောအခါ၌လည်း ဇာတိကို ခုံမင် စွဲလမ်းသောအားဖြင့် လူချမ်းသာ၊ နတ်ချမ်းသာကို ခံစား၊ စံစားရပါလို၏ ဟူ၍ ဆုမတောင်း။ ဤဘုရားမှတပါး ကိုးကွယ် ရန် အခြားဆရာကို ရှာခြင်းမပြုတော့ပြီ။ ဤသည်တို့ကား သောတာပန် ဖြစ်ရခြင်း၏ အကျိုးတို့ပေတည်း။

ဝိသာခါ၊ သုပ္ပိယာ၊ အနာထပိဏ်၊ ဗိမ္ဗိသာရ စသော ဘုရားသခင်၏ သားတော်ကြီး၊ သမီးတော်ကြီးတို့သည် ယခု အခါသောတာပန်သုံးမျိုးအနက် ကောလံကောလ သောတာပန် အဖြစ်ဖြင့် အထက်အထက်ဖြစ်သော နတ်ဘုံများတွင် နတ်တို့၏ စည်းစိမ်ကို ဇိမ်ရှိရှိနှင့် ခံစား၊ စံစားလျက် ရှိလေကြကုန်သည် ဖြစ်ရာ သူတို့သည် လူ့ဘုံမှ သောတာပန်သစ်များကို လက်ကမ်း ၍ ကြိုလင့်နေကြပေလိမ့်မည်။

## အတွေ့မခံ၊ အမြင်မခံ၊ အနံ့မခံ-သောတာပန်တို့ပယ်ပြီး တရားများ

လူတယောက် သွားနေ၏။ ထိုလူကို နေရောင်က ထိုးသောကြောင့် မြေပြင်ထွင် လူအရိပ် ထင်၏။ ခွေးသွားလျှင် ခွေးအရိပ် ထင်၏။ နွားသွားလျှင် နွားအရိပ် ထင်၏။

ထို့အတူ သောတာပန်တို့ သွားလာလေရာတွင်လည်း အရိပ်သည် ထင်သတည်း။ ထိုအရိပ်ကား လူရိပ် မဟုတ်၊ ဉာဏ်ရိပ် ဖြစ်၏။ ရုပ်နာမ်တရားတို့ကို သဘာဝကျကျ သုံးသပ်တတ်သည့် ဉာဏ်ရိပ်ဖြစ်လေသည်။ ထိုဉာဏ်က အမှောင်ကိုခွင်း၍ အလင်းသို့ ပို့ဆောင်ပေးချက်အရ သောတာပန်ကို ဖြစ်ရာဘဝတွင် အမှား ပြုမိသည်ဟူ၍ မရှိပြီ။

### (က) အာသဝေါ ၄ ပါးမှ

သောတာပန်ဖြစ်လျှင် ပုထုဇဉ်ဘဝက လက်ခံလာခဲ့သော တရားများအနက် အချို့အချို့ကို လက်မခံနိုင်တော့ဘဲ ပယ်ပစ်လေ၏။ ဒုစရိုက် ၁၀ ပါးအနက်မှ ကာယဒုစရိုက် ၃ ပါး၊ မုသာဝါဒနှင့် သက္ကာယဒိဋ္ဌိ ဤ ၅ ပါးတို့သည် အသုံးပြုသူ မရှိတော့သဖြင့် အလိုအလျောက် ချုပ်ကုန်ရလေ၏။

(၁) ကာမဥ္စ ယစ်မူးစေတတ်သော တရားတပါး (ကာမာသဝ)

(၂) ဘဝဥ္စ ယစ်မူးစေတတ်သော တရားတပါး (ဘဝါသဝ)

(၃) အယူ၌ ယစ်မူးစေတတ်သော တရားတပါး (ဒိဋ္ဌာသဝ)

(၄) အဝိဇ္ဇာ၌ ယစ်မူးစေတတ်သော တရားတပါး (အဝိဇ္ဇာသဝ)

ဤ တရား ၄ ပါးသည် ယိုစီးတတ်၊ ထိုင်းမှိုင်းတတ်၊ မူးယစ်စေတတ်သောကြောင့် အာသဝမည်၏။ အာသဝေါတရား ၄ ပါးဟု ခေါ်သည်။ ၄ ပါး ဖြစ်သော်လည်း တရားကိုယ်အားဖြင့် အရကောက်လိုက်သော် တပ်မက်ခြင်း-တဏှာ၊ အယူမှားခြင်း- ဒိဋ္ဌိ၊ မသိခြင်း- အဝိဇ္ဇာ၊ ဤ သုံးပါးသာတည်း။ ယင်း အာသဝေါတရား လေးပါး အနက်တွင် သောတာပန်သည် ဒိဋ္ဌာသဝကိုသာ ပယ်နိုင်သေးသည်။ ကြွင်းသော အာသဝေါ တရား ၃ ပါးတို့ကား တစက်စက် ယိုတုန်း၊ တသွင်သွင် စီးတုန်း၊ ရေစီးကမ်းပြို လိုက်တုန်းပင်တည်း။ ထို့ကြောင့် သောတာပန်သည် ရမက်လောဘ လျှမ်းလျှမ်းထချင်လျှင် ထရန်အလားအလာ ရှိနေ၏။ အဝိဇ္ဇာတမ မှောင်ကြီးကျချင်လည်း ကျပေဦးအံ့။ ထိုမှတပါး-

## (ခ) ဩဃ ၄ ပါး

(၁) ကာမဗွက်ထဲ၌ နှစ်၍ သတ်တတ်သော တရားတပါး (ကာမောဃ)

(၂) ဘဝဗွက်ထဲ၌ နှစ်၍ သတ်တတ်သော တရားတပါး (ဘဝေါဃ)

(၃) ဒိဋ္ဌိဗ္ဗက်ထဲ၌ နှစ်၍ သတ်တတ်သော တရားတပါး (ဒိဋ္ဌောဃ)

(၄) အဝိဇ္ဇာဗွက်ထဲ၌ နှစ်၍ သတ်တတ်သော တရားတပါး (အဝိဇ္ဇောဃ)

ဤတရား ၄ ပါးသည် နှစ်တတ်၊ နှစ်မွန်းစေတတ်၊ မျောပါစေတတ်သောကြောင့် ဩဃမည်၏။ ဩဃတရား ၄ ပါးဟု ခေါ်၏။

ယင်း ဩဃ ၄ ပါးကို တရားကိုယ် ကောက်လိုက်သော် လောဘ၊ ဒိဋ္ဌိ၊ မောဟပင်တည်း။ သောတာပန်သည် ယင်း ဩဃ ၄ ပါးအနက် ဒိဋ္ဌောဃ အယူလွှဲရေစီးကြောင်းကြီး တခုကိုသာ ပယ်၏။ ကြွင်း ဩဃ ၃ ပါး၌ နှစ်မြဲ နှစ်နေဆဲပင်တည်း။

ထိုမှတပါး-

(ဂ) ယောဂ ၄ ပါးမှ

(၁) မလှုပ်နိုင်အောင် ကာမဖြင့် တုပ်နှောင် ထားတတ်သော တရား (ကာမယောဂ)

(၂) မလှုပ်နိုင်အောင် ဘဝဖြင့် တုပ်နှောင်ထားတတ်သော တရား (ဘဝယောဂ)

(၃) မလှုပ်နိုင်အောင် ဒိဋ္ဌိဖြင့် တုပ်နှောင်ထားတတ်သော တရား (ဒိဋ္ဌိယောဂ)

(၄) မလှုပ်နိုင်အောင် အဝိဇ္ဇာဖြင့် တုပ်နှောင်ထားတတ် သော တရား (အဝိဇ္ဇာယောဂ)

ဤ တရား ၄ ပါးသည် မလှုပ်နိုင်အောင် တုပ်နှောင်ခြင်း၊ လွတ်ထွက်မသွားနိုင်အောင် အထပ်ထပ် ရစ်ပတ်ခြင်းကြောင့် ယောဂမည်၏။ ယောဂ ၄ ပါးဟု ခေါ်၏။ တရားကိုယ်အား ဖြင့် လောဘ၊ ဒိဋ္ဌိ၊ မောဟ ပင်တည်း။ သောတာပန်သည် ယင်း ယောဂ ၄ ပါးအနက်မှ ဒိဋ္ဌိယောဂကိုသာ ပယ်နိုင်သေးသည်။ ကာမ၊ ဘဝ၊ အဝိဇ္ဇာ အကျဉ်းထောင်မှ လွတ်အောင် မရုန်းနိုင် သေးသဖြင့် ကာမဘောင်တွင် အိမ်ကြီးတဆောင် မီးတပြောင် နှင့် နေပေဦးမည်။ ခုနစ်ဘဝအထိ ဘဝသံသရာ ချာချာလည် ပေဦးတော့အံ့။

ထိုမှတပါး-

(ဃ) ဂန္ထ ၄ ပါးမှ

(၁) သူ့ဥစ္စာကို လိုချင်တပ်မက်ခြင်း- အဘိဇ္ဈာကာယဂန္ထ။

(၂) သူတပါးကို ပျက်စီးစေလိုခြင်း- ဗျာပါဒကာယဂန္ထ။

(၃) မှားယွင်းစွာ သုံးသပ်ချက်-သီလဗ္ဗတပရာမာ သကာယ ဂန္ထ။

(၄) တရားသေဆုပ်ကိုင်ထားခြင်း - ဣဒံသစ္စာဘိနိဝေဒ ကာယဂန္ထ။

ဤတရား ၄ ပါးသည် အဖုအထစ်၊ အထုံးအဖွဲ့၊ အငြို အတွယ်ရှိခြင်းကြောင့် ဂန္ထမည်၏။ ဂန္ထ ၄ ပါးဟု ခေါ်၏။ တရားကိုယ်အားဖြင့် လောဘ၊ ဒေါသ၊ ဒိဋ္ဌိတည်း။

သောတာပန်သည် ယင်းဂန္ထ ၄ ပါးအနက်တွင် နွား၊ ခွေး၊ ကြက်၊ ငှက်တို့၏ အကျင့်ဖြင့် သံသရာ စင်ကြယ်၏ဟူသော

သီလဗ္ဗတပရာမာသကာယဂန္ထ။ ဤဟာမှန်သည်၊ ဤဟာမှ တပါး အကုန်မှား၏ ဟူသော ဣဒံသစ္စာဘိနိဝေသကာယဂန္ထ။ ဤဂန္ထ ၂ ပါးကို ပယ်၏။ ထို့ကြောင့် သောတာပန်သည် အရေးတစုံ ကိုယ်၌ကြုံလာသောအခါ လောဘကြီးတန်လျှင် ကြီးပေဦးအံ့၊ ဒေါသ ထွက်တန်လျှင် ထွက်ပေဦးအံ့။ သို့သော် သောတာပန်သည် လောဘကိုရင်း၊ ဒေါသကိုရင်း ချုပ်တီး နိုင်စွမ်းရှိသောကြောင့် ယင်းတို့ကို အကြောင်းပြုလျက် လွန်လွန် ကျူးကျူးဖြစ်ခြင်းမည်သည် မရှိပြီ။

ထိုမှတပါး-

(င) ဥပါဒါန် ၄ ပါးမှ

(၁) ကာမ၌ စွဲလမ်းမှုတရား (ကာမုပါဒါန်)

(၂) အယူ၌ စွဲလမ်းမှုတရား (ဒိဋ္ဌုပါဒါန်)

(၃) သည်ဟာအမှန်တရားဟု တရားသေ စွဲလမ်းမှုတရား (သီလဗ္ဗတုပါဒါန်)

(၄) အတ္တ၌ စွဲလမ်းမှုတရား (အတ္တဝါဒုပါဒါန်)

ဤလေးပါးသည် စွဲလမ်းတတ်သောကြောင့် ဥပါဒါန်မည်၏။ ဥပါဒါန် ၄ ပါးဟုလည်း ခေါ်၏။ ကာမ၌ စွဲလမ်းသည်ကို ကာမုပါဒါန်၊ ဒိဋ္ဌိအယူမျိုး၌ စွဲလမ်းသည်ကို ဒိဋ္ဌုပါဒါန်၊ တိရစ္ဆာန်တို့၏အကျင့်ဖြင့် သံသရာမှ စင်ကြယ်ဟု ယူစွဲသည်ကို သီလဗ္ဗတုပါဒါန်၊ ကိုယ်ရှိ၏ဟု စွဲယူသည်ကို အတ္တဝါဒုပါဒါန် ခေါ်၏။ ယင်း ၄ ပါးသည် တရားကိုယ် အားဖြင့် လောဘနှင့် ဒိဋ္ဌိသာတည်း။

သောတာပန်သည် ယင်း ဥပါဒါန် ၄ပါးအနက် ကာမုပါဒါန်ကို ချန်၍ ကြွင်းသုံးပါးကို ပယ်၏။ ထို့ကြောင့် သောတာပန်မှာ အယူလွဲမှု၊ မိစ္ဆာဝါဒကို လက်ခံကျင့်သုံးမှု မရှိတော့ပြီ။ ခွေးလို၊ ဝက်လို ကျင့်ခြင်းအားဖြင့် သံသရာမှ စင်ကြယ်၏ ဟူသော အယူစွဲမျိုးလည်း မရှိတော့ပြီ။ ကိုယ်ရှိ၏ ဟူသော အတ္တစွဲကိုလည်း အငုပ်မျှမကျန်အောင် နုတ်ပယ်ပြီးသူ ဖြစ်၏။ မီးခလုတ်ကို ဖွင့်၏။ မီး လင်းလာ၏။ ခလုတ်ဖွင့်ခြင်းနှင့် မီးလင်းလာခြင်းသည် တပြိုင်နက်ဖြစ်သကဲ့သို့ ထို့အတူပင် အတ္တကောင်ကြီး ပြိုသွားသည်နှင့် တပြိုင်နက် အလို အလျောက်ပင် အရိယာဘုံသို့ ရောက်သွားလေတော့၏။ အရိယာ ဖြစ်အောင် သီးခြားအားထုတ်ယူရခြင်း မရှိပြီ။

ထိုမှတပါး-

## (စ) နီဝရဏ ၆-ပါးမှ

ကောင်းသောတရားများ ဖြစ်ပွားလာမည့် အလားအလာကို ဟန့်တားတတ်၊ ကန့်ကွက်တတ်၊ ပိတ်ပင်တတ်၊ ဖျက်ဆီး တတ်သောတရားကို နီဝရဏဟု ခေါ်၏။ ကောင်းသောတရား များ ဖြစ်ပွားမလာနိုင်အောင် ဘယ်အရာဖြင့် ဟန့်တား၊ ကန့်ကွက်၊ ဖျက်ဆီးလေသနည်း။

(၁) ကာမဥ္ဆ အာသာဆန္ဒ ပြင်းပျခြင်းအားဖြင့် ကောင်းသော တရားကို အဟန့်အတား ပြု၍ ဖျက်ဆီးသော ကာမစ္ဆန္ဒနီဝရဏတမျိုး၊

(၂) သူတပါး ပျက်စီးမှုကို ပြင်းပြစွာ လိုလားခြင်းဖြင့် ကောင်းသောတရားကို အဟန့်အတားပြု၍ ဖျက်ဆီးခြင်း- ဗျာပါဒနီဝရဏတမျိုး။

(၃) အလုပ်ကောင်းကို လုပ်မည်ကြံလေတိုင်း တွန့်ဆုတ်၊ တွန့်ဆုတ်ဖြစ်ခြင်း၊ တွေဝေထိုင်းမှိုင်းခြင်း အားဖြင့် ကောင်းသော တရားကို အဟန့်အတားပြု၍ ဖျက်ဆီးခြင်း- ထိနမိဒ္ဓနီဝရဏတမျိုး။

(၄) အလုပ်ကောင်းကို လုပ်ရန်ကြံရွယ်လေတိုင်း သမာဓိ မရ၊ စိတ်ပျံ့လွင့်ခြင်း၊ နောက်တတဖန် ပူပန်ခြင်း အားဖြင့် ကောင်းသောတရား မပွားနိုင်အောင် အဟန့်အတားပြု၍ ဖျက်ဆီးခြင်း- ဥဒ္ဒစ္စ ကုက္ကုစ္စ နီဝရဏတမျိုး။

(၅) အလုပ်ကောင်းကို လုပ်ရန်ကြံရွယ်လေတိုင်း ဟုတ်မှ ဟုတ်ပါ့မလား ဟူ၍ ယုံမှားခြင်းအားဖြင့် ကောင်းသော တရားများ ပွားမလာနိုင်အောင် အဟန့်အတားပြု၍ ဖျက်ဆီးခြင်း- ဝိစိကိစ္ဆာ နီဝရဏတမျိုး။

(၆) အလုပ်ကောင်းကို လုပ်ရန်ကြံရွယ်လေတိုင်း ဥာဏ် ပညာကင်း၊ မသိခြင်းအားဖြင့် ကောင်းသော တရားများ ပွားမလာနိုင်အောင် အဟန့်အတား ပြု၍ ဖျက်ဆီးခြင်း-အဝိဇ္ဇာနီဝရဏတမျိုး။

ဤသို့အားဖြင့် ကောင်းသောတရားများ ဖြစ်ပွားလာမည့် အလားအလာကို ဆို့ပိတ် ဟန့်တား ဖျက်ဆီးတတ်၊ နှောက်ယှက်တတ်သော အဖျက်တရားတို့ ရှိကုန်၏။

တရားကိုယ် ကောက်လိုက်သော် ကာမစ္ဆန္ဒနီဝရဏ၏ တရားကိုယ်မှာ လောဘ၊ ဗျာပါဒနီဝရဏ၏ တရားကိုယ်မှာ ဒေါသ၊ ထိနမိဒ္ဓနီဝရဏ၏ တရားကိုယ်မှာ- ထိနမိဒ္ဓ၊ ဥဒ္ဓစ္စ၊ ကုက္ကုစ္စ နီဝရဏ၏ တရားကိုယ်မှာလည်း ဥဒ္ဓစ္စ ကုက္ကုစ္စ။ ဝိစိကိစ္ဆာ နီဝရဏ၏ တရားကိုယ်မှာလည်း ဝိစိကိစ္ဆာပင်။ အဝိဇ္ဇာနီဝရဏ၏ တရားကိုယ်မှာကား မောဟဖြစ်သတည်း။

ထိုနီဝရဏတရားတို့၏ တရားကိုယ်၊ တရားသားများကို စုပေါင်းလိုက်သောအခါ လောဘ၊ ဒေါသ စသောအားဖြင့် တရားကိုယ်ရှစ်မျိုး၊ ရှစ်စား ထွက်လာ၏။ သောတာပန်သည် ဤနီဝရဏတရားသား ရှစ်ပါးစလုံးကို မပယ်နိုင်သေး။

ယင်း ရှစ်မျိုးအနက်မှ ဝိစိကိစ္ဆာနီဝရဏကိုသာ ပယ်နိုင်သေး၏။

ထို့ကြောင့် သောတာပန်၏ လမ်းခရီးအကြားဝယ် ကာမစ္ဆန္ဒနီဝရဏ၊ ဗျာပါဒနီဝရဏ ဝါ- လောဘ၊ ဒေါသ အစရှိသည်တို့သည် မြစ်ကြီး၊ ချောင်းကြီးများအလား တောင်ကြီးများပမာ ကာဆီးလျက်သာ ရှိနေကုန်၏။ ထို့ကြောင့် သောတာပန်သည် ယင်း မြစ်ချောင်းကြီးများ၊ တောင်ကြီးများကို ဖြတ်ကျော်နိုင်ရန် ကြိုးစားရပေဦးအံ့။ ယင်းတို့ကို လွန်မြောက်မှ နိဗ္ဗာန်ဘုံသို့ ရောက်မည်ဖြစ်သတည်း။

ထိုမှတပါး—

(ဆ) အနုသယ ၇ ပါးမှ

လူတို့မှာ ရံခါ အနာပေါက်တတ်၏။ ရံခါ မကျန်းမမာ ရောဂါဖြစ်တတ်၏။ ထိုအနာ ထိုရောဂါသည် တခါထဲ အကင်းသေအောင် ပျောက်မသွားဘဲ ငုပ်နေတတ်၏။ ဤသည်ကို "အနာငုပ် ရောဂါငုပ်"ဟု သမုတ်ကြကုန်၏။

လူတို့၏ စိတ်သန္တာန်ထဲတွင် အနာငုပ်၊ ရောဂါငုပ် ကဲ့သို့ ဘဝအဆက်ဆက်၊ ကမ္ဘာအဆက်ဆက်က စွဲကပ်၍ ငုပ်လာခဲ့သော ဓာတ်ငုပ်များ ရှိ၏။ ၎င်းကို အနုသယဟု ခေါ်၏။ ထိုအနုသယသည်-

(၁) ကာမ၌ တပ်မက်ခြင်း-ကာမရာဂါနုသယ ဓာတ်ငုပ်။

(၂) ဘဝ၌ တပ်မက်ခြင်း-ဘဝရာဂါနုသယ ဓာတ်ငုပ်။

(၃) ဒေါသ၌ တပ်မက်ခြင်း-ပဋိဃာနုသယ ဓာတ်ငုပ်။

(၄) မာန၌ တပ်မက်ခြင်း-မာနနုသယ ဓာတ်ငုပ်။

(၅) အယူမှား၌ တပ်မက်ခြင်း-ဒိဋ္ဌာနုသယ ဓာတ်ငုပ်။

(၆) ယုံမှားခြင်း၌ တပ်မက်ခြင်း - ဝိစိကိစ္ဆာ နုသယ ဓာတ်ငုပ်။

(၇) မသိခြင်း၌ တပ်မက်ခြင်း-အဝိဇ္ဇာနုသယ ဓာတ်ငုပ်။

ယင်းအနုသယ ခုနစ်ပါးတို့၏ တရားကိုယ်ကို ကောက်သော်-

ကာမရာဂါနုသယနှင့် ဘဝရာဂါနုသယ၏ တရားကိုယ်မှာ-လောဘ။ ပဋိဃာနုသယ၏ တရားကိုယ်ကား-ဒေါသ။ မာန

နုသယ၏ တရားကိုယ်မှာ-မာန။ ဒိဋ္ဌာနုသယ၏ တရားကိုယ်မှာ-ဒိဋ္ဌိ။ ဝိစိကိစ္ဆာနုသယ၏ တရားကိုယ်မှာ-ဝိစိကိစ္ဆာပင်။ အဝိဇ္ဇာနုသယ၏ တရားကိုယ်ကား-မောဟ ဖြစ်၏။

ယင်းအနုသယ ၇ ပါး တရားသား ၆ မျိုး အနက်တွင် ဒိဋ္ဌာနုသယနှင့် ဝိစိကိစ္ဆာနုသယ ဤ ၂ မျိုးသာ ပယ်နိုင်သေး၏။ပယ်ရန် အနုသယ ၅ ပါး ကျန်သေး၏။ကျန်ရှိနေသေးသော အနုသယ ငါးမျိုးတို့က တောင်ရိုးကြီးများပမာ၊ မြစ်ချောင်းကြီးများအလား၊ သောတာပန်၏ရှေ့မှာ ဟန့်တား၊ ကာဆီးလျက် ရှိနေကုန်သေးသည် ဖြစ်ရာ သောတာပန်ပုဂ္ဂိုလ်သည်-

ကာမသုဂတိ(၇)ဘုံတွင် သားတွဲလဲ၊သမီးတွဲလဲ၊ဇနီးမယား၊ စီးပွားရေး တွဲလဲနှင့် ဘဝသံသရာ ချာချာလည်စဉ်အတွင်း ကျန်ရှိသော အနုသယငါးမျိုးကို တခုချင်း တခုချင်းသော်၎င်း၊ အားလုံးကို တပြိုင်နက်သော်၎င်း ဖျက်ချိုးပြီးလျှင် နိဗ္ဗာန်သို့ ဝင်လေ၏။

## (ဇ) သံယောဇဉ် ၁၀ ပါးမှ

ထိုမှတပါး လောက၌ အချုပ်ထောင်၊အကျဉ်းထောင်ဟူ၍ ရှိ၏။နှောင်ကြိုး၊လက်ထိပ် ဟူ၍ ရှိ၏။ ထောင်သည် လူဆိုးများ ထွက်မပြေးနိုင်အောင် လှောင်ထားသော နှောင်အိမ်ကြီး ဖြစ်၏။လက်ထိပ်သည် လူဆိုးများ မလှုပ်နိုင်အောင် တုပ်နှောင်ထားသော နှောင်ကြိုး ဖြစ်၏။

သံယောဇဉ် ဟူ၍ ရှိ၏။လူကို မလှုပ်နိုင်အောင် ချုပ်ထား၊ နှောင်ထားတတ်သောကြောင့် ယင်းသံယောဇဉ်ကို ထောင်ဟူ၍ ၎င်း၊လက်ထိပ်၊နှောင်ကြိုး ဟူ၍၎င်း တင်စား၍ ဆိုကြကုန်၏။

ထို သံယောဇဉ်သည်-

မလှုပ်နိုင် ဆိုသည်ကား မခွဲနိုင်၊ မခွာရက်ဘဲ စွဲမြဲနေမှုကို ဆိုသည်။

(၁) မလှုပ်နိုင်အောင် ကာမလက်ထိပ်ဖြင့် နှောင်ဖွဲ့ခြင်း- ကာမရာဂ သံယောဇဉ်။

(၂) ရူပဥ္စ တပ်မက်မှု နှောင်ဖွဲ့ခြင်း-ရူပရာဂသံယောဇဉ်။

(၃) အရူပဥ္စ တပ်မက်မှု နှောင်ဖွဲ့ခြင်း - အရူပ ရာဂ သံယောဇဉ်။

(၄) ဒေါသဖြင့် နှောင်ဖွဲ့ခြင်း-ပဋိဃ သံယောဇဉ်။

(၅) မာနဖြင့် နှောင်ဖွဲ့ခြင်း-မာန သံယောဇဉ်။

(၆) ဒိဋ္ဌိဖြင့် နှောင်ဖွဲ့ခြင်း-ဒိဋ္ဌိသံယောဇဉ်။

(၇) သီလဗ္ဗတပရာမာသဖြင့် နှောင်ဖွဲ့ခြင်း - သီလဗ္ဗတ-ပရာမာသ သံယောဇဉ်။

(၈) ယုံမှားခြင်းဖြင့်နှောင်ဖွဲ့ခြင်း-ဝိစိကိစ္ဆာသံယောဇဉ်။

(၉) ပျံ့လွင့်ခြင်းဖြင့် နှောင်ဖွဲ့ခြင်း-ဥဒ္ဒစ္စသံယောဇဉ်။

(၁၀) မသိခြင်းဖြင့် နှောင်ဖွဲ့ခြင်း-အဝိဇ္ဇာ သံယောဇဉ်။

ယင်း သံယောဇဉ် ၁၀ ပါးတို့၏ တရားကိုယ်ကို ကောက်သော်-

ကာမ၊ ရူပ၊ အရူပရာဂ သံယောဇဉ်တို့၏ တရားကိုယ်မှာ- လောဘ။ ပဋိဃသံယောဇဉ်၏ တရားကိုယ်မှာ-ဒေါသ။ မာန၏ တရားကိုယ်မှာ-မာန။ ဒိဋ္ဌိနှင့် သီလဗ္ဗတပရာမာသ သံယောဇဉ် ၂ ပါး၏ တရားကိုယ်ကား-ဒိဋ္ဌိ။ ဝိစိကိစ္ဆာ၏ တရားကိုယ်မှာ- ဝိစိကိစ္ဆာ။ ဥဒ္ဓစ္စ၏ တရားကိုယ်မှာ-ဥဒ္ဓစ္စ။ အဝိဇ္ဇာသံယောဇဉ်၏ တရားကိုယ်ကား- မောဟ ဖြစ်၏။

သံယောဇဉ် ၁၀ပါး ရှိသော်ငြားလည်း တရားကိုယ် အားဖြင့်မူ လောဘ၊ ဒေါသ၊ မာန၊ ဒိဋ္ဌိ၊ ဝိစိကိစ္ဆာ၊ ဥဒ္ဓစ္စ၊ မောဟ၊ ၇ ပါးသာ ဖြစ်သည်။ သောတာပန်သည် ဤသံယောဇဉ် ၁၀ မျိုး၌ ဒိဋ္ဌိနှင့် ဝိစိကိစ္ဆာ ၂ မျိုးကိုသာ ပယ်နိုင်သေး၏။ ပယ်ရန် သံယောဇဉ် ၈-မျိုး ကျန်သေး၏။ ယင်း ၈ မျိုးကို ပယ်နိုင်ရန် ကြိုးစားရပေဦးမည်။ သို့သော် ပယ်မှ ပယ်နိုင်ပါ့ မလား ဟူ၍ကား ယုံမှားခြင်း ဖြစ်ဘွယ်မရှိတော့ပြီ။ အလွန်ဆုံး (၇-ဘဝ) မြောက်လျှင် နိဗ္ဗာန်သို့ ရောက်ရတော့မှာ သေချာပြီး ဖြစ်၏။ ကာမချမ်းသာကို စံစား၊ ခံစားရင်းနှင့်ပင် နိဗ္ဗာန် ဝင်တော့မည်တည်း။

## (စ၂) ကိလေသာ ၁၀ ပါးမှ

ထိုမှတပါး လူတကောင်လုံး မီးနှင့် မြိုက်သည့်နှယ် တဟုန်းဟုန်းလောင် အပူကောင်ဖြစ်စေတတ်သော တရား၊ ဖြူစင်၍ ကြည်လင်သော နှလုံးစိတ်ဝမ်းကို ညစ်နွမ်းစေတတ်သော တရား၊ လူကို အခံရခက်အောင် နှိပ်စက်တတ်သော တရားကို ကိလေသာဟု ဆိုသည်။ ထိုကိလေသာသည်-

(၁) လိုချင်ရမက်ဖြင့် နှိပ်စက်ခြင်း - လောဘကိလေသာ။
(၂) ဒေါသဖြင့် နှိပ်စက်ခြင်း - ဒေါသကိလေသာ။
(၃) မောဟဖြင့် နှိပ်စက်ခြင်း - မောဟကိလေသာ။
(၄) မာနဖြင့် နှိပ်စက်ခြင်း - မာနကိလေသာ။
(၅) ဒိဋ္ဌိဖြင့် နှိပ်စက်ခြင်း - ဒိဋ္ဌိကိလေသာ။
(၆) ယုံမှားခြင်းဖြင့် နှိပ်စက်ခြင်း - ဝိစိကိစ္ဆာကိလေသာ။
(၇) တွန့်ဆုတ်ခြင်းဖြင့်နှိပ်စက်ခြင်း - ထိနကိလေသာ။
(၈) ပျံ့လွင့်ခြင်းဖြင့် နှိပ်စက်ခြင်း - ဥဒ္ဓစ္စကိလေသာ။
(၉) အရှက်မရှိခြင်းဖြင့် နှိပ်စက်ခြင်း- အဟိရိကကိလေသာ။
(၁၀) အကြောက်မရှိခြင်းဖြင့် နှိပ်စက်ခြင်း
-အနောတ္တပ္ပကိလေသာ။

ဤသို့အားဖြင့် ကိလေသာ ၁၀ ပါး ရှိသတည်း။ တရားကိုယ်မှာလည်း ယင်း ဆယ်ပါးပင်တည်း။ လောဘကိလေသာ၏ တရားကိုယ်မှာ လောဘပင် ဖြစ်၏ ဟူလို။

ယင်း ကိလေသာ ၁၀ ပါးအနက် သောတာပန်သည် ဒိဋ္ဌိလောဘ–အယူမှားကို လိုလားတပ်မက်မှုနှင့် ဝိစိကိစ္ဆာ-ယုံမှားသံသယဖြစ်မှု ဤကိလေသာ ၂ပါးကိုသာ ပယ်နိုင်သေးသည်။ ပယ်ရန် ကိလေသာ ၈မျိုး ကျန်သေးဘည်။ ယင်းကိလေသာ ၈မျိုးကို ပယ်နိုင်ရန်အတွက် ဆက်လက် ကြိုးစားရပေဦးမည်။ သို့သော် ကြိုးစားရကျိုးနပ်မည်၊ မနပ်မည်ကိုကား ယုံမှားစရာ

မလိုပြီ။ နိဗ္ဗာန်သို့ တဘဝတည်းနှင့် မရောက်လျှင် နှစ်ဘဝ၊ နှစ်ဘဝနှင့် မရောက်နိုင်လျှင် ၃-ဘဝ၊ ၃-ဘဝနှင့် မရောက်နိုင်လျှင် ၄-ဘဝ နောက်ဆုံးပိတ် အနေအားဖြင့် သောတာပန် ဘဝနှင့် ၇- ဘဝမြောက်သောအခါ နိဗ္ဗာန်မရလို မရောက်လိုသေးပါ၊ ခဏ နေပါရစေအုံးဟူ၍ အသနားခံသော်လည်း မရပြီ။ ကေန်မုချ နိဗ္ဗာန်ရတော့မည် ဖြစ်သတည်း။ နိဗ္ဗာန်ရွှေဘုံသို့ ခိုလှုံရောက်ရှိတော့မည် ဖြစ်သတည်း။

သောတာပန် ပယ်သောကဏ္ဍကို ကိုးပိုင်း၊ ကိုးဌာန ခွဲ၍ ပြခဲ့၏။

ယင်း ၉-ဌာနစလုံးကို ကြည့်လျှင် လောဘသည် အဘယ်မျှ နယ်ကျယ်ကြောင်း ပေါ်လာ၏။ ၉-ဌာနစလုံး၌ပင် လောဘ၏ လက်ရာ၊ ခြေရာချည်း ဖြစ်၏။ လောဘနှင့်ကင်းသော ဌာန၊ လောဘမှ လွတ်သောဌာနဟူ၍ မရှိ။ လောဘသည် ပတ်စာခွါ၊ ဖျာသိမ်းအထိ ပါဝင်သော ဇာတ်ကောင်တကောင် ဖြစ်နေကြောင်းကို တွေ့ရ၏။

လောဘလောက်နီးနီး အရာကျယ်သည်ကား ဒိဋ္ဌိ ဖြစ်၏။ ဒိဋ္ဌိသည်လည်း အတော်နယ်ကျယ်၏။ လောဘမှလွဲလျှင် ဒုတိယ လိုက်၏။ ၉-ပိုင်း၊ ၉ဌာနတို့အနက် နီဝရဏမှတပါး ကျန် ၈-ပါးကို ဒိဋ္ဌိက ချယ်လှယ်၏။

ဒိဋ္ဌိ မပါလျှင် အရာမရောက် ပြီးမြောက်ခြင်း မရှိလေ။ ဒိဋ္ဌိ ပါလေမှ အရာနှင့်ထင်ထင် အောင်မြင်လေသောဟူ၏။ လောဘ၏ နောက် တတိယစွဲသူကား မောဟ ဖြစ်၏။ ဂန္ထနှင့် နီဝရဏမှ

တပါး ကြွင်းသမျှကို မောဟက ပါသည်ချည်းဖြစ်၏။ မောဟကြောင့် အရာမရောက် ကမောက္ကမ ဖြစ်ကြရကုန်သတည်း။

## (ည) ဝိပလ္လာသ ဖောက်ပြန်ခြင်း ၃ မျိုး

အဖြူကို မဲစေ၍ စိမ်းသည်ကို အညိုဟုထင်စေသော ဝိပလ္လာသတရား ၃ ပါး ရှိ၏။

ယင်း ၃ ပါးတို့ကား-

(၁) သညာ ဝိပလ္လာသ - အမှတ်မှားခြင်း။
(၂) စိတ္တ ဝိပလ္လာသ - အသိမှားခြင်း။
(၃) ဒိဋ္ဌိ ဝိပလ္လာသ - အယူမှားခြင်း။

မည်သည့်နေရာမှာ မည်သို့ မှားသနည်းဆိုသော်-

ခန္ဓာငါးပါး၌ အနိစ္စ လက္ခဏာ၊ ဒုက္ခ လက္ခဏာ၊ အနတ္တ လက္ခဏာ၊ အသုဘ လက္ခဏာ ဟူသော သာမည လက္ခဏာ ၄ ချက်၌ မှားသတည်း။

ယင်း လက္ခဏာ ၄ ချက်တွင် တခုတခု၌ အမှတ်မှား၊ အသိမှား၊အယူမှား ဝိပလ္လာသ ၃ ပါးဖြစ်နိုင်သောကြောင့် လက္ခဏာ ၄ ချက်ကို တည်ကိန်းပြု၍ အမှား ၃ ရပ်ဖြင့် မြှောက်ပွားလိုက်သော် ဝိပလ္လာသပေါင်း ၁၂ မျိုး ဖြစ်လာ၏။

ထို ဝိပလ္လာသ ဖောက်ပြန်မှု ၁၂ မျိုးအနက် သောတာပန်ပုဂ္ဂိုလ်၌ အနိစ္စကို နိစ္စထင်ခြင်း၊ အနတ္တစစ်စစ်ကြီး ဖြစ်လျက် အနတ္တကို အတ္တဟု ထင်ခြင်း၊ဤ ၂ ချက်၌ အမှတ်မှား၊အသိမှား၊

အယူမှား ဟူသော ဝိပလ္လာသ ၃ ပါး ချုပ်၏။ အနိစ္စကို အနိစ္စ အတိုင်း၊ နိစ္စကို နိစ္စအတိုင်း၊ အတ္တကို အတ္တအတိုင်း၊ အနတ္တကို အနတ္တအတိုင်း မှတ်၏၊ သိ၏၊ ယူ၏။ သောတာပန်သည် ဤသည့် ဝိပလ္လာသ အမှတ်မှား၊ အသိမှား၊ အယူမှားများကို ပယ်လေ၏။

အသုဘကို သုဘဟူ၍ မှားယွင်းစွာ မှတ်ခြင်း၊ မှားယွင်းစွာ သိခြင်း ဟူသော သညာဝိပလ္လာသနှင့် စိတ္တဝိပလ္လာသ ၂ ပါးတို့ ကား အရဟတ္တမဂ်ကသာ ပယ်နိုင်၏။

လာဘော၊ အလာဘော၊ ယသော၊ အယသော စသော အားဖြင့် လောကဓံ ၈ ပါးရှိ၏။ ယင်းလောကဓံ ၈ ပါးကို သောတာပန်နှင့် အနာဂါမ်တို့ မပယ်နိုင်ကုန်။

ယင်း လောကဓံတရား ၈ ပါး အနက် အလာဘော၊ အယသော၊နိန္ဒာ၊ ဒုက္ခ၊ (လာဘ်လာဘ ခေါင်းပါးခြင်း၊အခြံအရံ နည်းပါးခြင်း၊ လူသူလေးပါးတို့၏ အကဲ့ရဲ့ကို ခံရခြင်း၊ ဆင်းရဲ ခြင်း ဤလောကဓံ ၄ ပါးကို အနာဂါမ်ပုဂ္ဂိုလ်သာ ပယ်နိုင်၏။ လာဘော၊ ယသော၊ ပသံသာ၊ သုခံ- လာဘ်ရွှင်ခြင်း၊ အခြံအရံ များခြင်း၊ အများက ချီးမွမ်းခြင်း၊ ချမ်းသာခြင်း) ဤလောကဓံ ၄ ပါးကို ရဟန္တာမှသာ ပယ်နိုင်၏။ထို့ကြောင့် ရဟန္တာတို့ကား လောကဓံတရား ၈ ပါးကြောင့် တုန်လှုပ်ခြင်း အချင်းပင် မရှိကြကုန် ဟူလို။

သောတာပန်တို့ အနေအားဖြင့် တွေ့ရုံမျှ တွေ့ခြင်းကိုပင် မခံနိုင်၊မြင်ရုံမျှမြင်ခြင်းကိုပင် မခံနိုင်၊အနံ့ နံရုံမျှပင် မခံနိုင်သဖြင့်

တံတွေးကဲ့သို့ ငဲ့ကွက်ခြင်း မရှိ၊ ထွေးအံ၊စွန့်ပယ်အပ်သော တရားများကို ဤဆိုအပ်ပြီးသည့်အတိုင်း သိရာ၏။

## သေတောပန်– ၃၊ သို့မဟုတ် ၇မှ သောတာပန်- ၂၄ သို့

သောတာပန်ဖြစ်ဘို့ မခဲယဉ်းပါ။ လွယ်ပါသည်။ သိမ္မသာပဓာန ဖြစ်ပါသည်။ ကမ္ဗဋ္ဌာန်းထိုင်၍ ကျင့်နေစရာ မလိုပါ။ ပရမတ်တရား တကဲ့ခတ်သားအစစ်ကို အနှစ်ကျကျသဘောပေါက်လျှင် ဖြစ်စေ၊ သို့မဟုတ် ရတနာသုံးပါးကို လှိုက်လှိုက်လှဲလှဲ၊ အသဲစွဲ ယုံကြည်လျှင်ဖြစ်စေ သောတာပန် ဖြစ်လာနိုင်ပါသည်။

သို့သော် သောတာပန်သည် အပါယ်တံခါး ပိတ်၍ နိဗ္ဗာန်သွားရန် လက်မှတ်ကို ရရှိထားရုံမျှသာ ရှိပေသေးသည်။ နိဗ္ဗာန်သို့ မရောက်သေးချေ။ နိဗ္ဗာန် ရောက်အောင် သွားလာမှုကိစ္စ လိုပေသေးသည်။နိဗ္ဗာန်သို့ ရောက်အောင် ကာယကံမြောက် သွားရပေဦးမည်။

ယင်းသို့ နိဗ္ဗာန်သို့ အရောက်သွားရာ၌ **စားနပ်ရိက္ခာ**၊ စရိတ်စက ပြည့်စုံဘို့ လိုပါသည်။ ယင်းအတွက် ကုန်ကျမည့်စရိတ်စက ဟူသည် အဘယ်နည်း။

သောတာပန်မှတဆင့် ရှေ့သို့ သကဒါဂါမ်၊ အနာဂါမ်၊ အရဟတ္တဖိုလ် ဆိုက်အောင် ကျင့်ရသော အကျင့်များသည် စရိတ်စက ဖြစ်သတည်း။ သောတာပန်အဘို့ လိုအပ်သော ထိုစရိတ်စကများကို ရှာဖွေရပေဦးမည်။ စုဆောင်းရပေဦးမည်။

ယင်းသည် နိဗ္ဗာန်ရောက်ကြောင်း တရားကောင်းများကို ကျင့်ကြံ အားထုတ်ခြင်း တည်းဟူသော စရိတ်စက မရှိက နိဗ္ဗာန်သို့ ရောက်နိုင်မည် မဟုတ်ချေ။ သောတာပန် မှန်လျှင် ထိုကျင့်ကြံ ကြိုးကုတ်၊ အားထုတ်ခြင်းတည်း ဟူသော စရိတ်စက ရှာမှီးခြင်း အလုပ်ကို မလုပ်သူဟူ၍ မရှိ။ သောတာပန် မှန်လျှင် အထက်သို့ အဆင့်ဆင့် မြင့်သည်ထက်မြင့်သောအလုပ်ကို သဘာဝအားဖြင့် လုပ်သည်ချည်းသာ ဖြစ်၏။ ငါ သောတာပန် ဖြစ်ပြီ၊ ရှေ့သို့ တဆင့်တက်ရန် မလိုတော့ပြီ ဟူ၍ စိတ်နှလုံး ဒုံးဒုံးချသော သောတာပန်ဟူ၍ မရှိပြီ။ သောတာပန်၏ ဘဝလမ်းဆုံးကား နိဗ္ဗာန်ဖြစ်သတည်း။ နိဗ္ဗာန်ရောက်အောင် အားထုတ်မည်သာ ဖြစ်သတည်း။

ပုထုဇဉ်အဖြစ်မှ သောတာပန်ဘဝ ရောက်ရှိလာရာ၌ လမ်း နှစ်သွယ်ရှိ၏။ ယင်းလမ်း ၂ သွယ်အနက် တသွယ်ကား ရတနာ သုံးပါးကို အဝေစ္စပသာဒ- လှိုက်လှိုက်လှဲလှဲ သက်ဝင် ယုံကြည်ခြင်း၊ နောက်တသွယ်ကား ပရမတ်အစစ် တကဲ့ခေတ်နှစ် ခေတ်သားကို သဘောပေါက်ခြင်း ဖြစ်လေသည်။

မည်သည့်လမ်းသွယ်ဖြင့် ဖြစ်စေ၊ သောတာပန် နယ်ထဲသို့ ရောက်ရှိလာကုန်သော သောတာပန်များ သန်းခေါင်စာရင်း ကောက်လိုက်သော်-

(၁) ဧကဗီဇ သောတာပန်၊
(၂) ကောလံကောလ သောတာပန်၊
(၃) သတ္တက္ခတ္တု ပရမ သောတာပန်၊

ဤသုံးမျိုးသာ ရ၏။

ထိုမှတပါး သောတာပန်သည် သောတာပန် ဖြစ်ပြီးသည့် နောက်၌ (၇) ဘဝတိုင်တိုင် ပဋိသန္ဓေ နေနိုင်သေးသည်ကို ထောက်သောအားဖြင့် ကေ ဗိဇသောတာပန်အစ၊ သတ္တက္ခတ္တု ပရမသောတာပန် အဆုံးအထိကို ယူ၍ သောတာပန် (၇) မျိုး ဟူ၍လည်း ယူကြ၏။

သောတာပန် ၃ မျိုးဖြစ်စေ၊ ၇-မျိုးဖြစ်စေ၊ မည်သည့် သောတာပန်မဆို လမ်း ၂ သွယ်အရဖြင့် သောတာပန်အဆင့်သို့ တက်လာကြသူချည်းသာ ဖြစ်သောကြောင့် ကေဗိဇသောတာပန် ၌လည်း ၂ သွယ်သောလမ်း ဖြစ်သည်။ ကောလံကောလ သောတာပန်၌လည်း လမ်း၂သွယ်၊သတ္တက္ခတ္တုပရမသောတာပန် ၌လည်း လမ်း၂သွယ်စီ ရစကောင်း၏။

ထို့ကြောင့် ရသင့်ရထိုက်သည်အားလျော်စွာ သောတာပန် များကို သရုပ်ခွဲ၍ ခွဲတမ်းချလိုက်သောအခါ အောက်ပါအတိုင်း သောတာပန် ၂၄ မျိုး ထွက်လာလေသည်။

(၁) သဒ္ဓါဓုရ - ရတနာ သုံးပါးကို လှိုက်လှိုက်လှဲလှဲ သက်ဝင် ယုံကြည်မှုအရ ဖြစ်လာသော ကေဗိဇ သောတာပန်။

(၂) ပညာဓုရ - ပရမတ်အစစ် ဓာတ်အနှစ်ကို သဘော ပေါက်မှုအရ ဖြစ်လာသော ကေဗိဇ သောတာပန်။

(၃) သဒ္ဓါဓုရ - ရတနာ သုံးပါးကို လှိုက်လှိုက်လှဲလှဲ သက်ဝင် ယုံကြည်မှုအရ ဖြစ်လာသော ကောလံ ကောလ သောတာပန်။

(၄) ပညာဓုရ - ပရမတ်အစစ် ခေတ်အနှစ်ကို သဘော ပေါက်မှုအရ ဖြစ်လာသော ကောလံကောလ သောတာပန်။

(၅) သဒ္ဓါဓုရ - ရတနာ သုံးပါးကို လှိုက်လှိုက်လှဲလှဲ သက်ဝင်ယုံကြည်မှုအရ ဖြစ်လာသော သတ္တက္ခတ္တု ပရမ သောတာပန်။

(၆) ပညာဓုရ - ပရမတ်အစစ် ခေတ်အနှစ်ကို သဘော ပေါက်မှုအရ ဖြစ်လာသော သတ္တက္ခတ္တု ပရမ သောတာပန်။

ဤသို့လျှင် သောတာပန်တဦးသည် သဒ္ဓါလမ်း၊ပညာလမ်း လမ်း ၂ သွယ်အနက် တသွယ်သွယ်မှ ဖြစ်လာနိုင်ရကား သောတာပန် ၃ မျိုးကို လမ်း ၂ သွယ်ဖြင့် မြှောက်သော် သောတာပန် ၆ မျိုး ဖြစ်သတည်း။

သောတာပန်သည် သောတာပန် ဖြစ်ကာမျှဖြင့် ကိစ္စမပြီး သေး၊ လမ်းမဆုံးသေးချေ။ ရှေ့သို့ သကဒါဂါမ်၊ အနာဂါမ်မှ အရဟတ္တဖိုလ် ဆိုက်သည်အထိ ကြိုးစားရဦးမည်ဖြစ်ရာ ထိုအခါ ပါရမီခေတ်ခံ အနု၊ အရင့်က စကားပြောလာ၏။ ပါရမီနုလျှင် နုသည့်အလျောက် ပါရမီရင့်လျှင် ရင့်သည့်အလျောက် နိဗ္ဗာန်သို့ အရောက်မြန်ပုံ၊ နှေးပုံများ ကွာခြားလေ၏။

ထို့ကြောင့် သောတာပန် ၃ မျိုးတို့၏ နိဗ္ဗာန်ရောက်ပုံ နှေးခြင်း၊ မြန်ခြင်း၌ ၎င်းတို့၏ ပါရမီခေတ်ခံ အနု၊ အရင့်ကို အောက်ပါအတိုင်း သိရာသတည်း။

(၁) ဒုက္ခပဋိပဒါ ဒန္ဓာဘိညာ - ဆင်းဆင်းရဲရဲ အားထုတ်၍ နှေးနှေး သိမြင်သော သဒ္ဓါဓုရ ကေဗိဇ သောတာပန်။

(၂) ဒုက္ခပဋိပဒါ ခိပ္ပာဘိညာ - ဆင်းဆင်းရဲရဲ ကြံအား ထုတ်၍ မြန်မြန် သိမြင်သော သဒ္ဓါဓုရ ကေဗိဇ သောတာပန်။

(၃) သုခပဋိပဒါ ဒန္ဓာဘိညာ - သက်သောင့် သက်သာ အားထုတ်၍ နှေးနှေးသိမြင်သော သဒ္ဓါဓုရ ကေဗိဇ သောတာပန်။

(၄) သုခပဋိပဒါ ခိပ္ပာဘိညာ - သက်သောင့် သက်သာ အားထုတ်၍ မြန်မြန်သိမြင်သော သဒ္ဓါဓုရ ကေဗိဇ သောတာပန်။

(၅) ဒုက္ခပဋိပဒါဒန္ဓာဘိညာ - ဆင်းဆင်းရဲရဲ ကြံအား ထုတ်၍ နှေးနှေး သိမြင်သော ပညာဓုရ ကေဗိဇ သောတာပန်။

(၆) ဒုက္ခပဋိပဒါ ခိပ္ပာဘိညာ - ဆင်းဆင်းရဲရဲ အား ထုတ်၍ မြန်မြန် သိမြင်သော ပညာဓုရ ကေဗိဇ သောတာပန်။

(၇) သုခပဋိပဒါ ဒန္ဓာဘိညာ - ဆင်းဆင်းရဲရဲ အား ထုတ်၍ မြန်မြန် သိမြင်သော ပညာဓုရ ကေဗိဇ သောတာပန်။

(၈) သုခပဋိပဒါ ခိပ္ပာဘိညာ - သက်သောင့် သက်သာ အားထုတ်၍ မြန်မြန်သိမြင်သော ပညာခုရ ကေဗီဇ သောတာပန်။

ပဋိပဒါ ကျင့်စဉ် ၄ ပါးကို သဒ္ဓါ၊ ပညာ လမ်း ၂ သွယ်ဖြင့် မြှောက်ပါသော် ကေဗီဇ သောတာပန် ၈ မျိုး ထွက်လာ၏။

ကောလံကောလ သောတာပန်၌လည်း ဤနည်းအတိုင်းပင် သောတာပန် ၈ မျိုးပင် ထွက်လာသတည်း။

(၉) ဒုက္ခပဋိပဒါ ဒန္ဓာဘိညာ-ဆင်းဆင်းရဲရဲ အားထုတ်၍ နှေးနှေးသိမြင်သော သဒ္ဓါခုရ ကောလံကောလ သောတာပန်။

(၁၀) ဒုက္ခပဋိပဒါ ခိပ္ပာဘိညာ - ဆင်းဆင်းရဲရဲ ကျင့်ကြံ အားထုတ်၍ မြန်မြန် သိမြင်သော သဒ္ဓါခုရ ကောလံကောလ သောတာပန်။

(၁၁) သုခပဋိပဒါ ဒန္ဓာဘိညာ - သက်သောင့်သက်သာ အားထုတ်၍ နှေးနှေး သိမြင်သော သဒ္ဓါခုရ ကောလံကောလ သောတာပန်။

(၁၂) သုခပဋိပဒါ ခိပ္ပာဘိညာ - သက်သောင့်သက်သာ အားထုတ်၍ မြန်မြန် သိမြင်သော သဒ္ဓါခုရ ကောလံကောလ သောတာပန်။

(၁၃) ဒုက္ခပဋိပဒါ ဒန္ဓာဘိညာ-ဆင်းဆင်းရဲရဲ အားထုတ်၍ နှေးနှေးသိမြင်သော ပညာခုရ ကောလံကောလ သောတာပန်။

(၁၄) ဒုက္ခပဋိပဒါ ခိပ္ပာဘိညာ - သက်သောင့် သက်သာ အားထုတ်၍ မြန်မြန် သိမြင်သော ပညာဝုရ ကောလံကောလ သောတာပန်။

(၁၅) သုခပဋိပဒါ ဒန္ဓာဘိညာ - သက်သောင့်သက်သာ အားထုတ်၍ နှေးနှေး သိမြင်သော ပညာဝုရ ကောလံကောလ သောတာပန်။

(၁၆) သုခပဋိပဒါ ခိပ္ပာဘိညာ - သက်သောင့်သက်သာ အားထုတ်၍ မြန်မြန် သိမြင်သော ပညာဝုရ ကောလံကောလ သောတာပန်။

ထို့အတူပင် သတ္တက္ခတ္တုပရမ သောတာပန်၌လည်း ပဋိပဒါ ကျင့်စဉ် ၄ ပါးကို တည်၍ လမ်း ၂ သွယ်ဖြင့် မြောက်သော် သောတာပန် ၈ မျိုးပင် ထွက်လာသတည်း။

(၁၇) ဒုက္ခပဋိပဒါ ဒန္ဓာဘိညာ-ဆင်းဆင်းရဲရဲ အားထုတ်၍ နှေးနှေးသိမြင်သော သဒ္ဓါဝုရ သတ္တက္ခတ္တုပရမ သောတာပန်။

(၁၈) ဒုက္ခပဋိပဒါ ခိပ္ပာဘိညာ-ဆင်းဆင်းရဲရဲအားထုတ်၍ မြန်မြန်သိမြင်သော သဒ္ဓါဝုရ သတ္တက္ခတ္တုပရမ သောတာပန်။

(၁၉) သုခပဋိပဒါ ဒန္ဓာဘိညာ - သက်သောင့် သက်သာ အားထုတ်၍ နှေးနှေး သိမြင်သော သဒ္ဓါဝုရ သတ္တက္ခတ္တုပရမ သောတာပန်။

(၂၀) သုခပဋိပဒါ ခိပ္ပာဘိညာ - သက်သောင့်သက်သာ အားထုတ်၍ မြန်မြန် သိမြင်သော သဒ္ဓါဓုရ သတ္တက္ခတ္တုပရမ သောတာပန်။

(၂၁) ဒုက္ခပဋိပဒါ ဒန္ဓာဘိညာ-ဆင်းဆင်းရဲရဲအားထုတ်၍ နှေးနှေးသိမြင်သော ပညာဓုရ သတ္တက္ခတ္တုပရမ သောတာပန်။

(၂၂) ဒုက္ခပဋိပဒါ ခိပ္ပာဘိညာ-ဆင်းဆင်းရဲရဲအားထုတ်၍ မြန်မြန် သိသော ပညာဓုရ သတ္တက္ခတ္တုပရမ သောတာပန်။

(၂၃) သုခပဋိပဒါ ဒန္ဓာဘိညာ - သက်သောင့် သက်သာ အားထုတ်၍ နှေးနှေး သိမြင်သော ပညာဓုရ သတ္တက္ခတ္တုပရမ သောတာပန်။

(၂၄) သုခပဋိပဒါ ခိပ္ပာဘိညာ - သက်သောင့်သက်သာ အားထုတ်၍ မြန်မြန် သိမြင်သော ပညာဓုရ သတ္တက္ခတ္တုပရမ သောတာပန်။

သောတာပန်ချင်း တူသော်လည်း ပါရမီကို အကြောင်းပြု၍ မြန်မြန်သိခြင်း၊ နှေးနှေးသိခြင်း ခြားနားသွား၏။

ဤအရာတွင် ဥပမာ ပြစရာ ထင်ရှား၏။ ဆရာတဦးထံတွင် ကျောင်းသူ- ကျောင်းသားများစွာတို့ ပညာသင်ကြ၏။ တပည့် အားလုံးကို ဆရာက ပညာသင်ပေး၏။ မည်သူ့ကိုမျှ ပို၍ သင်ပေးခြင်း မပြု။ အညီအမျှပင် သင်ပေး၏။

သို့ပါလျက် တတ်မြောက်မှု၌ ခြားနားကုန်လေ၏။ ညီတူညီမျှ တတ်ကြသည် မဟုတ်။ ထူးထူးချွန်ချွန် တတ်သူကတတ်သည်။ အသင့်အတင့်တတ်သူ တတ်သည်။ ဗူးလုံးနားမထွင်း လုံးဝမတတ်သူများလည်း ရှိသည်။ မကြိုးစားသောကြောင့်ကား မဟုတ်၊ ပါရမီကြောင့်သာ ဖြစ်၏။ ဤ၌လည်း ထို့အတူပင် ပါရမီကြောင့်သာ ပါရမီ အနု၊ အရင့်အရ သိမှုတွင် ကွာခြားခြင်း ဖြစ်သည်။

**ကိုယ့်ကိုယ်ကို ကိုယ်ဝေဖန် သောတာပန်၏ အခြေခံ**

အကျိုးပေါ်လျှင် အကြောင်းထင်မြဲ ဖြစ်၏။ မည်သည့်အရာမဆို အခြေခံ မယ်မယ်ရရ ဘာတခုမျှမရှိဘဲ ဖြစ်မလာနိုင်။ အကြောင်းနှင့် ကင်းသည်ဟူ၍ မရှိ။

ဥပမာ—သစ်ပင်ဖျား၌ သစ်ရွက်ကလေးများ တဖျပ်ဖျပ်လှုပ်နေသည်မှာ လေတိုက်သောကြောင့်၊ ကောင်းကင်ပေါ်ဝယ် မီးခိုးတွေ တလူလူ လွင့်နေခြင်းမှာ အောက်တွင် မီးလောင်နေသောကြောင့်၊ အညော်နံ့ နံခြင်းမှာ အညော်လုပ်နေသောကြောင့် ဖြစ်၏။ ယေဓမ္မာ ဟေတုပ္ပဘဝါ ဆိုသောအတိုင်း အရာခပ်သိမ်းတို့သည် အကြောင်းတရားကို အခြေခံ၍သာ ဖြစ်ကြရကုန်၏။

လူတို့သည် ဈေးဝယ်သောအခါ ရွေးလေ့ရှိကြ၏။ ရွေးခြင်းမှာ ဝတ္ထုပစ္စည်း ကောင်း၊မကောင်းကို ဝေဖန်ခြင်းပင်တည်း။ ကြိုက်မှ ဝယ်၏။ မကြိုက်လျှင် ပယ်၏။

မိမိ၏ ခန္ဓာကိုယ်ကို ဈေးဝယ်ရာ၌အကောင်းအဆိုး ရွေးချယ်ဝေဖန်သကဲ့သို့ မိမိကိုယ်ကို ဝေဖန်ကြည့်သင့်၏။ ဈေးဝယ်ရာ၌

ကြိုက်မှဝယ် မကြိုက်လျှင် ပယ်သကဲ့သို့ မိမိ၏ခန္ဓာကိုယ်ကို ဝေဖန် သုံးသပ် ကြည့်ပြီးသောအခါ တွယ်တာသင့်က တွယ်တာရာ၏။ တွယ်တာဘွယ်၊ နှစ်သက်ဘွယ် မရှိလျှင်လည်း ပယ်သင့်က ပယ်ရ၏။

**သမ္မသနဉာဏ်။** ။ သမ္မသီယတေဇ တေနာတိ သမ္မသနံ-ဟူသော ဝစနတ္ထအရ သုံးသပ်တတ်သော ဉာဏ်ကို သမ္မသနဉာဏ်ဟု ခေါ်သည်။ သုံးသပ်ဆိုသည်မှာ ဝေဖန်ခြင်း ပင်တည်း။ ဝေဖန်ခြင်းကို သုံးသပ်ဟု ခေါ်ဆိုသည်။

ထို့ကြောင့် မိမိ၏ခန္ဓာကိုယ်ကို မိမိသည်သာလျှင် အတွင်းသိ၊ အစင်းသိ အသိဆုံးဖြစ်သဖြင့် ငါ ဘာကောင်လဲ ဆိုသည်ကို မိမိ ကိုယ်ကို မိမိ ဝေဖန်ကြည့်ရအောင်၊ သုံးသပ်ကြည့်ကြရအောင်။

ယင်းသို့ ဝေဖန် သုံးသပ်ရာ၌ ယေဘုယျအားဖြင့် ဝေဖန် သုံးသပ်ခြင်းမျိုးထက် အသေးစိတ်အားဖြင့် တသန့်စီ တသန့်စီ သီခြားကဏ္ဍခွဲ၍ ဝေဖန်ခြင်းက သိမှု၌ အကျိုးပြု၊ ထိရောက် နိုင်ဖွယ်ရာ ရှိသောကြောင့် မိမိ၏ ခန္ဓာကိုယ်ကောင်ကြီးကို ကဏ္ဍ (၄) မျိုး ခွဲခြားလျက် ရှုဒေါင့် (၄) မျိုးမှ ကြည့်၍ ဝေဖန် သုံးသပ် ကြည့်ကြပါကုန်စို့။

(က) ခန္ဓာကိုယ်တခုလုံးကို ခြုံငုံ၍ ဝေဖန်သော ရှုဒေါင့် (ကလာပသမ္မသန)

(ခ) ခန္ဓာကိုယ်၌ အတိတ်ကို ရှု၍ ဝေဖန်သော ရှုဒေါင့် (အဒ္ဓါနသမ္မသန)

(ဂ) ခန္ဓာကိုယ်၌ပင် အေးရုပ်၊ ပူရုပ်စသည့် ဖြစ်စဉ်ခွဲခြား၍ ဝေဖန်သော ရှုဒေါင့် (သန္တတိသမ္မသန)

(ဃ) အေးရုပ်၊ ပူရုပ် ရုပ်စဉ် တမျိုးတည်းမှာပင် ဥပါဒ်၊ ဋ္ဌီ၊ ဘင်၊ ခွဲခြား၍ ဝေဖန်သောရှုဒေါင့် (ခဏသမ္မသန)

ခန္ဓာကိုယ်ကို ရှုဒေါင့် (၄) မျိုးမှနေ၍ ဝေဖန်ကြပါကုန်စို့။

**(က) တကိုယ်လုံးရှုဒေါင့်။** ။သဗ္ဗံ ရူပံ အနိစ္စံ၊ခယဋ္ဌေန- လူရုပ်၊ နတ်ရုပ်၊ဗြဟ္မာရုပ်၊ တိရစ္ဆာန်ရုပ်၊ထုံးရုပ်၊ ထိုင်းရုပ်၊စရုပ်၊ တန်ဆောင်း၊ဂူကျောင်း စသော ရုပ်မှန်သမျှသည် ဖြစ်လာပြီး သည့်နောက် အရှည်စွဲ၍ တည်မြဲခြင်းမရှိ၊ ပျက်စီးတတ်သည့် သဘောရှိသောကြောင့် မည်သည့်ရုပ်ဝတ္ထုမျိုးမဆို ရုပ်မှန်သမျှ အနိစ္စချည်းပါတကား။

သဗ္ဗံရူပံ ဒုက္ခံ၊ ဘယဋ္ဌေန - မည်သည့် ရုပ်ဝတ္ထုမျိုးမဆို မှန်သမျှသည် ဖြစ်ပြီးလျှင် ပျက်သည်ချည်းဖြစ်၍ ကြောက်မက် ဘွယ် ကောင်းသောကြောင့် ဒုက္ခချည်းပါတကား။

သဗ္ဗံ ရူပံ အနတ္တာ၊ အတ္တဋ္ဌေန - မည်သည့်ရုပ်ဝတ္ထုမျိုးမဆို ရုပ်မှန်သမျှသည် အနှစ်သာရ မရှိသည့်အတွက် အတ္တမဟုတ်၊ ကိုယ်စိုး ကိုယ်ပိုင် စီမံချယ်လှယ်နိုင်သည် မဟုတ်သောကြောင့် အနတ္တချည်းပါကလား။ ဝေဒနာသည်လည်း အနိစ္စ၊ ဒုက္ခ၊ အနတ္တ၊သညာသည်လည်း အနိစ္စ၊ ဒုက္ခ၊ အနတ္တ ဟူ၍ ဤသို့ စသည်ဖြင့် ဝေဖန် သုံးသပ်ရာ၏။

အနိစ္စ၊ ဒုက္ခ၊ အနတ္တ ဤလက္ခဏာ ၃ ရပ်သည် တခုနှင့်တခု ဆက်စပ်လျက် ရှိ၏။ ဆက်စပ်ပုံကား ရုပ်ဟူသမျှသည် အနှစ်

သာရရှိခဲ့သော် ခိုင်မြဲရမည်။မပျက်မစီးဘဲ အရှည်စွဲ၍ တည်နေရမည်။ထိုသို့ အရှည်စွဲ၍ တည်မြဲလေ့မရှိဘဲ ဖြစ်လိုက်သမျှ ပျက်စီးကုန်ရသည်ချည်းသာ ဖြစ်၏။ထို့ကြောင့် ကြောက်မက်ဘွယ်ကောင်းဘိစွ။ဆင်းရဲတုံးစစ်စစ်ပါတကား။မပျက်ချင်ပါဘဲ လျက်လည်း ပျက်ရ၏။မဆင်းရဲလိုပါဘဲလျက်လည်း ဆင်းရဲရ၏။ ကိုယ့်အလို ကိုယ့်ဆန္ဒအရ ဘာမျှမဖြစ်။အစိုးတရ မရှိ။အနတ္တပါတကား။

ထို့ကြောင့် ယင်းလက္ခဏာ ၃ ပါးအနက် ဥာဏ်၌ တချက်ချက် ပိုင်ပိုင်နိုင်နိုင် ထင်မြင်လာလျှင် ဥပမာ-အမြဲမရှိပါတကားဟူ၍ အနိစ္စအချက်ကို ကွက်ကွက်ကွင်းကွင်း အထင်းသား အသဲနှလုံးထဲ၌ စွဲထင်လာလျှင် ကျန်ရှိသော ဒုက္ခနှင့် အနတ္တ ၂ ချက်သည်လည်း တခါဆွတ် တပြွတ်ပါ ဆိုသကဲ့သို့ အနိစ္စနောက်သို့ အလိုအလျောက် ပါလာ၏။ ဒုက္ခ၏အနက် အနတ္တ၏ သဘောများကို ပေါ်လောကြီး ထင်မြင်လာလေတော့၏။

ဤ ဝေဖန်ခြင်းကား ရုပ်တခုလုံးကို ခြုံငုံသော ရှုဒေါင့်မှ နေ၍ ဝေဖန်ခြင်း ဖြစ်၏။ ဤသို့ ဝေဖန်ရာ၌ မြင်တွေ့လာရသည်ကား ရုပ်မှန်သမျှ အားလုံး အနတ္တဟူ၍သာ တွေ့ရသောကြောင့် ဤရုပ်၌ သာယာဘွယ်၊ ခင်တွယ်ဘွယ်၊ မြတ်နိုးဘွယ် ရှိသည်ဟု ဆိုနိုင်ပါမည်လော။ မျက်စိအောက်တွင် တပျက်ထဲ ပျက်ပျက်နေသည်ကို အမြဲ မြင်တွေ့ရ၏။ပျက်တာဟာ ချမ်းသာစရာလား၊ ဆင်းရဲစရာလား။ ချမ်းသာဘွယ်လား၊ ဆင်းရဲ

ဘူယ်လား။ ဆင်းရဲတာဟာ နှစ်သက်ဘွယ်လား၊ စက်ဆုတ်ဘွယ်လား။ဆင်းရဲတာကို မဆင်းရဲနှင့်တားလို့ကောရပါသလား။ နင် မဆင်းရဲရဟု အမိန့်ပေးလို့ ကော ရပါသလား။ ဤသို့ ကိုယ့်ကိုယ်ကို ပြန်၍ မေးခွန်းထုတ်ကြည့်ကလည်း ဤရုပ်ကောင်ကြီးအပေါ်၌ သာယာစရာ၊ ခင်တွယ်မြတ်နိုးစရာ ရှိ မရှိကို သိနိုင်ပေသည်။

(ခ) အတိတ်။ ။ဤ ခန္ဓာကိုယ် ရုပ်ကောင်ကြီး၏ မျက်မှောက်၊ ပစ္စုပ္ပန် ဖြစ်ရပ်ကို ဘေးချိတ်ပြီး အတိတ်ကို ပြန်ကြည့် သုံးသပ်သည်ရှိသော်—

ယံ- အတီတေ ရူပံ၊ တံတသ္မာ

အတီတေ ခီဏံ၊ နယိမံ ဘဝံ

သမ္ပတ္တန္တိ အနိစ္စံ၊ ခယဋ္ဌေန။

အဓိပ္ပာယ်မှာ—အတိတ်၌ ဖြစ်ခဲ့သော ရုပ်သည် အတိတ်၌ပင် ချုပ်ပျက်ခဲ့ပြီး ကုန်ခဲ့ပြီ။ ဤ ပစ္စုပ္ပန် မျက်မှောက်ဘဝအထိ ပါမလာ။ ပါမလာခြင်းမှာ မြဲသောသဘော မရှိ၊ ပျက်စီး ချုပ်ပျောက်ခြင်းသဘော ရှိသောကြောင့် အနိစ္စ၊ အမြဲမရှိပါ တကား။ ဒုက္ခ–ဆင်းရဲတုံး၊ ဆင်းရဲခဲကြီးပါ တကား။ အနတ္တ– ကိုယ့်အလိုသို့ မပါ၊ကိုယ်စေစားရာကို မခံပါကလား။ အတွင်း၌ ဖြစ်သောရုပ်သည် အတွင်း၌ ချုပ်ခဲ့လေပြီ။ ကုန်ဆုံးခဲ့လေပြီ။ အပြင်သို့ ရောက်မလာသည်ကို ထောက်လျှင် အမြဲမရှိကြောင်း ထင်ရှား၏။

ထို့ကြောင့် အနိစ္စပါတကား။

ထို့အတူပင် ဗဟိဒ္ဓ-အပြင်ရုပ်၊ သြဠာရိက-ရုပ်ကြမ်း၊ သုခုမ-ရုပ်နုတို့သည်လည်း မိမိတို့ဖြစ်ရာ၌သာ ချုပ်ပျောက်ကုန်ခန်းကုန်သည်။ တနေရာမှ တနေရာသို့ ပါမလာ။ ဤသည်ကို ထောက်ခြင်းအားဖြင့် အမြဲမရှိကြောင်း၊ ဆင်းရဲကြောင်း၊ ကိုယ့်အလိုသို့ မပါကြောင်း ထင်ရှား၏။ ထို့ကြောင့် အနိစ္စ- အမြဲ မရှိပါတကား။ ဒုက္ခ- ဆင်းရဲတုံး ဆင်းရဲခဲကြီးပါတကား။ အနတ္တ-အစိုးမရပါတကား။

ဤသို့စသည်ဖြင့် အတိတ်ရှုဒေါင့်မှ ကြည့်၍ ဝေဖန် သုံးသပ်သောအခါတွင်လည်း ဤရုပ်ကောင်ကြီး အပေါ်တွင် ဝင်တွယ်စရာ၊ မြတ်နိုးစရာ ဟူ၍ မရှိသည်ကို သတိပြုရာ၏။

(ဂ) **အစိတ်စိတ်ရှုဒေါင့်။** ။နေပူစပ်ခါးထဲ၌ ခရီးသွားသောအခါများတွင် အပူရုပ်စဉ် ဖြစ်နေ၏။ ရုပ်ပူကြီး ဖြစ်၏။ နေရိပ်ထဲသို့ ဝင်ပြီးနောက် ခဏကြာမှပင် စောစောပိုင်းက တရှိန်ရှိန် ပူလောင်နေသော ပူရုပ်စဉ် ပျောက်၍ အေးရုပ်စဉ် ရောက်လာ၏။ ဖျားနာသောအခါ ဖျားရုပ်၊ နာရုပ်စဉ် ဖြစ်၍ ဖျားရုပ်ပျောက်လျှင် ကျန်းမာရုပ် ရောက်လာ၏။ ထိုင်နေသော ရုပ်စဉ်သည် ထလိုက်လျှင် ပျောက်၍ ထရုပ် ရောက်လာ၏။

မင်းသား၊ ပင်းသမီး နှစ်ပါးသွား ကနေသည်ကို ကြည့်။ မင်းသမီးက အကရပ်၍ သီချင်းဆိုသောအခါ ပင်းသမီး၏အသံသို့ အာရုံရောက်သွားပြန်၏။ ဤ၌ နှစ်ပါးသွားအကကို ကြည့်နေသော ရုပ်စဉ်သည် ကကြိုးဆုံးလျှင် ပျောက်လေ၏။ မင်းသမီး၏

သိချင်းသံဆီသို့ ပါလာတော့ချေ။ အာကာကိုကြည့်သော ရုပ်စဉ်သည် အာကာတွင် ပျောက်၍ အဆိုရောက်လာသည်။ ဤသို့စသည်ဖြင့် ကိုယ်အမူအရာ အရိယာပုထ်တွေလှုပ်ရှားလေတိုင်း လှုပ်ရှားလေတိုင်း ရုပ်အစဉ်တွေ တခုနှင့်တခုမထပ်ဘဲ တဖျောက်ဖျောက် ပျောက်ပျောက်ကုန်သော ရှုဒေါင့်မှ ဝေဖန်သုံးသပ်ကြည့်ပြန်သော် ဤခန္ဓာကိုယ်ကြီးအပေါ်တွင် အမြဲ တည်နေသောအရာ၊ ချမ်းသာဘွယ်ကောင်းသောအရာ၊ ကိုယ့်စိတ်တိုင်းကျ နေဆိုနေ၊ သေဆိုသေ၊ ရှင်ဆိုရှင်၊ သွားဆိုသွား၊ လာဆိုလာ၊ ထိုင်ဆိုထိုင်ဟူ၍ အမိန့်ပေးသောအခါတိုင်း ကိုယ့်ဩဇာ တည်သောအရာ၊ ကိုယ့်အမိန့်ကို နာခံသောအရာများ ရှိမရှိကို သတိပြုကြည့်လျှင် သူသိ၊ ငါသိ အားလုံး သိနိုင်ပေ၏။

(ဃ) **အခိုက်အတံ့ ခဏရှုဒေါင့်။** ။ဥပါဒ်၊ ဋ္ဌီ၊ ဘင်–ဟူသော ခဏတ္တယကို ခဏအခိုက်အတံ့ဟု ခေါ်၏။ ဖြစ်ခိုက်ခဏ၊ တည်နေခိုက်ခဏ၊ ပျက်ခိုက်ခဏဟု ဆိုလိုသည်။ဤရှုဒေါင့်မှာ ဖြစ်၊ တည်၊ ပျက် အလွန် မြန်ဆန်လွန်းလှသောကြောင့် ရှုပွားရန် မလွယ်လှ။ ဥပမာ၊ သွားနေသော လက်ပတ်နာရီ၏ စက္ကန့်အိမ်မြှောင် လက်တံကလေးကို ကြည့်ခြင်းအားဖြင့် ခဏကာလ၏ မြန်ဆန်မှုကို ရိပ်စားမိနိုင်၏။ တမိနစ်အချိန်ကို ကြည့်ခြင်းအားဖြင့် ခဏကာလ၏ မြန်ဆန်မှုကို ရိပ်စားမိနိုင်၏။တမိနစ်အချိန်ကို စက္ကန့် ၆၀ ဖြင့် မှတ်၏။ တစက္ကန့် အချိန်ကိုလည်း အစိတ်ပေါင်း ၆၀ ပိုင်း၍ မှတ်နိုင်၏။ မြန်သောကြောင့် မပြတ်သွားနေသည် ထင်ရ၏။ သို့သော် စက္ကန့် တချက်လှုပ်တိုင်း လှုပ်တိုင်း ချုပ်၏။ ထိုစက္ကန့်သည် နောင် ဘယ်သောအခါမျှ

ပြန်၍ ပေါ်မလာတော့ချေ။ စက္ကန့်သစ်တွေသာ တဖြစ်ထဲဖြစ်နေလေသည်။

ယခု ရေးနေသော ဤစာလုံးကလေးများသည်လည်း ဤနေရာတွင် ချုပ်လေ၏။ တိုတောင်းလှသော ခဏကလေးအတွင်း ပျောက်၏။ ဘဝအဆက်ဆက်၊ ကမ္ဘာအဆက်ဆက် ဤစာလုံးကလေးများ မည်သည့်အခါမျှ ပေါ်လာတော့မည် မဟုတ်။ လောကအားလုံးသည် စက္ကန့်တိုင်း၊ စက္ကန့်တိုင်း အဟောင်းတွေနေရစ်၍ အသစ်အသစ်များသာ ဖြစ်ပေါ်နေ၏။

မျက်စိတမှိတ် လျှပ်တပြက်အတွင်း၌ ဥပါဒ်၊ ဌီ၊ ဘင်ပေါင်း မရေမတွက်နိုင်အောင် များလှချေ၏။ ဤအခိုက်အတန့် ခဏ ခဏကလေးတွေအတွင်းမှာပင် ရုပ်ဟောင်း နာမ်ဟောင်းတွေ ချုပ်ပျောက် ချုပ်ပျောက် တဖျောက်ဖျောက်ပျောက်ပြီး ရုပ်သစ်နာမ်သစ်တွေ အသစ် အသစ် တဖြစ်ဖြစ် ပေါ်ပေါက်လာပုံများကို သာမန်ပုဂ္ဂိုလ်တို့အနေဖြင့် မရှုပ္ပွားနိုင်ဟု ဆို၏။

ဤကား သမ္မသနဉာဏ်ဖြင့် မိမိကိုယ်ကိုမိမိ ပြန်၍ ရှုဒေါ်၍ ၄မျိုးမှ သုံးသပ် ဝေဖန်ရာတွင် တွေ့ရှိရသော ခန္ဓာကိုယ်ကောင်၏ သဘာဝအနေအထား ဖြစ်သတည်း။

တဆင့်ထက်တဆင့် သမ္မသနဉာဏ် ရင့်သန်အားကောင်းလျှင် အားကောင်းသည်နှင့်အမျှ ဤရုပ်ကောင်ကြီး၏ ပကတိ ဖြစ်အင်ကို ပို၍ ပီပီပြင်ပြင် ထင်လာ၊ မြင်လာလိမ့်အံ့။ ရုပ်ကို ရုပ်သပ်သပ်၊ နာမ်ကို နာမ်သပ်သပ် ပြတ်ပြတ်သားသား ကွဲပြားလာလတံ့။

ရုပ် နိတ္တေဇ=ရုပ်မှာ တန်ခိုးမရှိ၊ အရှိန်အဝါဘာမျှ မရှိ။ ရုပ်သည် စားတတ်သောသတ္တိ ရှိသော်လည်း စားလိုသော အာသာဆန္ဒ မရှိသောကြောင့် စားခြင်းကိစ္စ မဖြစ်မြောက်၊ စားမှုဖြစ်၍မလာ။

နာမ်သည်လည်း ထိုအတူပင်တည်း။ နာမ်နိတ္တေဇ= နာမ်မှာ တန်ခိုးမရှိ၊ အရှိန်အဝါ ဘာမျှမရှိ။ နာမ်သည် စားလိုသောအာသာဆန္ဒ ရှိငြားသော်လည်း စားဝါး စရာသွားမရှိသောကြောင့် စားခြင်းကိစ္စ မဖြစ်မြောက်၊ စားမှုဖြစ်၍မလာ။

လူ ၂ ယောက်ပေါင်း ခြေ ၂ ချောင်း မျက်ကောင်း ၂ ခုသာ ဆိုသကဲ့သို့ ရုပ်နာမ် ၂ရုပ် စပ်တွဲပူးပေါင်းမိလေမှ နာမ်က စားလိုသောဆန္ဒပြု၍ အစာကို တောင်း၏။ စားတတ်သောရုပ်က နာမ်၏အာသာဆန္ဒ ပြည့်ဝအောင် ဖြည့်ပေး၏။ အစာကို ရုပ်လက်ဖြင့် ယူ၍ ပါးစပ်ထဲသို့ သွင်းကာ ရုပ်သွားများဖြင့် ဝါးကာ ဝါးကာ စားပေး၏။ ဤသို့ ရုပ်နာမ် ၂ ရုပ် ပူးပေါင်းတွဲစပ်၍ ဆောင်ရွက်လိုက်ခြင်းအားဖြင့် စားခြင်းကိစ္စ ဖြစ်မြောက်လျက် စားမှုဖြစ်လာသည်။

သွားခြင်း၌လည်း ထို့အတူပင်တည်း။

ရုပ်သည် သွားတတ်သော်လည်းသူ့မှာ သွားလိုသော ဆန္ဒ မရှိသောကြောင့် သူ့ချည်းသက်သက်အားဖြင့် သွားခြင်းကိစ္စ မဖြစ်။ နာမ်မှာသွားလိုသော ဆန္ဒရှိငြား သော်လည်း သူ့မှာ သွားစရာခြေထောက် မပါသော

ကြောင့် သူ့ချည်းသက်သက်အားဖြင့် သွားခြင်းကိစ္စ မဖြစ်။ သူတို့ချင်း ပေါင်းစပ်မိမှသာ သွားခြင်းကိစ္စ ဖြစ်သတည်း။

ဤသို့ ရုပ်နှင့်နာမ်ကို ခွဲခွဲခြားခြား နားလည်သဘောပေါက်သည်ကို နာမရူပပရိစ္ဆေဒဉာဏ်၊ နာမရူပပစ္စယပရိဂ္ဂဟဉာဏ်၊ နာမရူပပဝတ္တနဉာဏ်ဟု ခေါ်လေသည်။

သမ္မသနဉာဏ် ရင့်သန်၍ ရုပ်ကို ရုပ်သပ်သပ် နာမ်ကို နာမ်သပ်သပ် အရှိကို အရှိအတိုင်း နှလုံး၌ စွဲ၍ သိလာ၊ထင်လာ၊ မြင်လာသောအခါ ရုပ်နှင့်နာမ်သာ ပါတကား။ ငါ မဟုတ်၊ သူ မဟုတ်၊ မိန်းမ မဟုတ်၊ ယောကျ်ား မဟုတ် ဟူ၍ ပြတ်ပြတ်သားသား ခွဲခြားတတ်လာမည်။ ထိုအခါ သက္ကာယဒိဋ္ဌိ ကွာ၍ အတ္တစွဲ၊ ငါစွဲ ပြုတ်လေပြီတည်း။ သက္ကာယပြုတ်သည်နှင့် တပြိုင်နက် ဖြုတ်ခနဲ သောတာပန် ဖြစ်လေသတည်း။

ထို့ကြောင့် သောတာပန်ဖြစ်လိုသော် ကိုယ့်ကိုယ်ကို အားမနာတမ်း၊ မညှာတမ်း သမ္မသနဉာဏ်ဖြင့် သုံးသပ်ပါ၊ ဝေဖန်ပါ။ ရုပ်သားနှင့်နာမ်သားကို ခွဲခွဲခြားခြား၊ တဖွားဖွား ပေါ်လာအောင်၊ ထင်လာ မြင်လာအောင် နာနာရှုပေးပါ။ ဤသို့ သမ္မသနဉာဏ်ဖြင့် ကိုယ့်ကိုယ်ကို ဝေဖန်သုံးသပ်ခြင်းသည် သောတာပန်တယောက် ဖြစ်မြောက်ရန် အလားအလာများစွာ ရှိပါသတည်း။

ထို့ကြောင့်ပင် မဟုတ်ပါလော။

တေဘူမကာ သင်္ခါရေသု၊
ပဿတော လက္ခဏတ္တယံ
သမ္မသနနာမံ ဉာဏံ
ဇာတိ ပထမ ယောဂိနော။

တေဘူမကသင်္ခါရေသု —ကာမရူပ အရူပဟု လောကသုံးရပ် ဘုံသုံးထပ်တွင် ပါဝင်သမျှ သင်္ခါရတို့၌၊လက္ခဏတ္တယံ-မမြဲနိုင်လစ် ဒုက္ခစစ်နှင့် အနှစ်မဲ့အင် လက္ခဏာယာဉ်သုံးပါးကို၊ ပဿတော-နည်းအဖုံဖုံ ကုန်အောင်စုံမျှ တလုံလဲလဲ စွဲမြဲထင်မြင်အောင် ဆင်ခြင် ကြည့်ရှု၍နေသော၊ ပထမ ယောဂိနော- ပထမလျှင် အစထွင်၍ အစဉ်ကြိုးကုတ် အားထုတ်သော ပုဂ္ဂိုလ်၏၊ သမ္မ-သနနာမံရောဏံ-သမ္မသန အမည်ရလျက် သင်္ခါရတွင် ဉာဏ်အလင်းသည်၊ ဇာတံ-ဒုက္ခပ်သိမ်း ဝဋ်ဇာတ်ငြိမ်းဘို့ ကိန်းအားလျော်စွာ ဖြစ်ပေါ်လာပေသတည်း။

သောတာပန်ဖြစ်လျှင် အလိုအလျောက် အရိယာဘုံသား အဖြစ် သန်းခေါင်စာရင်းဝင် ဖြစ်သွား၏။ အရိယာဘုံဟူသည် လူ့ဘုံ၊ နတ်ဘုံ တို့ကဲ့သို့သော တသီးတခြားဘုံမျိုး မဟုတ်။ မြတ်သောသူတို့၏ နေရာကို အရိယာဘုံဟု ဆိုခြင်းဖြစ်ပေသည်။ သောတာပန်သည် သံယောဇဉ် အမျှင် မဖြတ်နိုင်သေးသဖြင့် သားတွဲလောင်း၊ သမီးတွဲလောင်းနှင့် ဇနီးတွဲလောင်း၊ လယ်ယာ ချောင်းမြောင်းစသော ပစ္စည်းဥစ္စာတွေ တွဲလောင်းနှင့် ရှိစေ

ဦးတော့ သူနေသော အိမ်ဂေဟာသည် အရိယာဘုံ အရိယာ စံအိမ် ဖြစ်၏။

သောတာပန်သည် အရိယာဇာတ်ဝင် သူတော်သူမြတ် ဖြစ်၏။ အဘယ်မျှ မြတ်သနည်း။ အဘယ်အထိ မြတ်သနည်းဆိုသော်-

ပထဗျာ ဧကရဇ္ဇေန၊
သဂ္ဂဿ ဂမနေနဝါ၊
သဗ္ဗလောကာ ဓိပစ္စေန၊
သောတာပတ္တိဖလံ ဝရံ။ ၁

သောတာပတ္တိဖလံ- သောတာပတ္တိ ဖိုလ်သည်၊ ဝါ- သောတာပန်တည်သော ပုဂ္ဂိုလ်သည်ကား၊ ပထဗျာ ဧကရဇ္ဇေန- ဝါ-ဤမဟာပထဝီ မြေပြင်အလုံးကို ဘုန်းနှင့်သမ္ဘာ အာဏာ တန်ခိုးဖြင့် အစိုးရသော ဧကရာဇ် မင်းတရားကြီးထက်လည်း ကောင်း၊သဂ္ဂဿ ဂမနေနဝါ-နတ်ပြည်သို့ လားရခြင်းထက်လည်း ကောင်း၊ သဗ္ဗလောကာဓိ ပစ္စေနဝါ- လောကအားလုံးကို သိမ်းကျုံး အစိုးရခြင်းထက် လည်းကောင်း၊ ဝရံ- ဆထက် လွန်ကျူး အထူးသဖြင့် မြတ်သတည်း။

အဓိပ္ပာယ်မှာ- သောတာပန်ဟူ၍ ဖြစ်လာလျှင် သား၊မယား နှင့် နေသည်ဖြစ်စေ၊ မနေသည်ဖြစ်စေ၊ မည်သည့်သောတာပန် မဆို ပုထုဇဉ် ဗြဟ္မာကြီးများထက်ပင် မြတ်သောဟူပေ၏။ အဘယ့်ကြောင့်ဆိုသော် ပုထုဇဉ်ဗြဟ္မာကြီးများမှာ ရှေးကုသိုလ်

---

၁၊ ဓမ္မပဒပါဠိ၊ စာမျက်နှာ— ၄၀၊

အဟုန်ကြောင့် ပြဟ္မာဘုံသို့ ရောက်ကာ ပြဟ္မာမင်းကြီးများ ဖြစ်နေကြ ကုန်သော်ငြားလည်း သူတို့မှာ ဘဝအာမခံချက် မရှိချေ။ ပြဟ္မာဖြစ်၍ တဝင်းဝင်း၊ ဝက်စားကျင်းမှာ တရှုတ်ရှုတ် ဆိုသကဲ့သို့ ပုထုဇဉ်တို့၏ သဘာဝအတိုင်း ယနေ့ပြဟ္မာ၊ နက်ဖန်ခါ ဝက်၊ သို့ပဟုတ် ပိုးမွှားတိရစ္ဆာန် အမျိုးမျိုး ဖြစ်နိုင်၏။ သံသရာ တခွင်တွင် ကျင်လည်ရပေဦးမည်။ သံသရာ၏ လမ်းဆုံးသို့ မရောက်သေးချေ။

သောတာပန် ပုဂ္ဂိုလ်၌ကား ဘဝအာမခံချက် အသေအချာ ရရှိထားပြီး ဖြစ်၏။ မည်သည့်အခါမျှ အပါယ်လေးပါးသို့ မလားရခြင်း တချက်၊ ကာမဘုံတွင် (၇) ဘဝ ဘုံစဉ်စံပြီးသည့် အဆုံးတွင် နိဗ္ဗာန်သို့ ကေန်ရောက်တော့မည် တချက်၊ ဤအချက် များ သေချာနေသည် ဖြစ်သည့်အတွက် ပုထုဇဉ် ပြဟ္မာကြီး များထက် မြတ်သည်ဟု ဆိုသတည်း။

## ပြဟ္မာဖြစ်၍ တဝင်းဝင်း၊ ဝက်စားကျင်းမှာ တရှုတ်ရှုတ်

သောတာပန်သည် ပြဟ္မာထက်မြတ်ကြောင်းနှင့် ပတ်သက်၍ ဂတိမမြဲပုံကို နိဒါနဝဂ္ဂသံယုတ်ပါဠိတော်၌ ဗုဒ္ဓ ဟောတော်မူ ၏။ ယင်းအဓိပ္ပာယ်ကို ခြုံငုံမိအောင်ယူ၍ ထင်းကနဲ လင်းကနဲ မြင်အောင် ပေါ်လွင်အောင် ညောင်ပင်သာဆရာတော်က မြန်မာဆန်ဆန် ကဗျာဥာဏ်ဖြင့် ရေးသား သီကုံးထားသည်မှာ လွန်စွာမှတ်သားဘွယ် ကောင်းလှသဖြင့် အလျဉ်းသင့်၍ ဤတွင် ဖော်ပြလိုက်ပါသည်။

ဇာတိမင်း စိုးခြုံရှဲ၊ သုံးသုံးဆယ့်တစ်၊ ဘဝခေတ်တွင် နှစ်သူ တမွှားမွှား၊ ပေါ်သူ တကြွားကြွား၊ မေ့သူ တဟားဟား၊ တရားနှင့်စစ်လိုက်တော့၊ ဖြစ်သူဖြစ်၊ ပျက်သူပျက်၊ တက်သူတက်၊ ဆင်းသူဆင်း၊ လောကခံ မကင်း၍၊ ဗြဟ္မာမင်း ဖြစ်တုန်းက၊ လျှပ်စစ်လို ကိုယ်ရောင်၊ တပြောင်ပြောင်တလက်လက်၊ ဝက်ဖြစ်တော့ တအွတ်အွတ်၊ မြင့်မိုရ်ထွတ်ထိပ်ဖျား၌၊ သိကြားမင်း ဖြစ်တုန်းက၊ နတ်ဘုရင်၊ လူ့ပြည်တွင်လှတိုက်၊ မောဟိုက် ၍ တရှူးရှူး၊ ခုနစ်ဆူရတနာနှင့်၊ စကြာမင်းဖြစ်တုန်းက၊ ဘုန်းတေဇာကဲမိုး၊ လေးကျွန်းလုံး အုပ်စိုး၊ တန်ခိုး ကြီးမား၊ ဒွန်းစဏ္ဍားဘဝမှာတော့၊ တနပ်စာမျှစားစရာ၊ တရွာလုံးတောင်းမရ၊ သုခနှင့်ဒုက္ခ၊ တွေ့ကြုံမြဲမုချ၊ ဘဝကအလွန်များ၊ နွားဖြစ်၍ဝန်ရုန်း၊ တကုန်းကုန်း ဆင်းရဲနက်၊ ဝက်ဖြစ်၍လှံနှင့်သေ၊ အကုသိုလ်မေ့ သောကြောင့်၊ ရေမှာဖြစ်၊ မြေမှာဖြစ်၊ အညီဖြစ်၊ အဥဖြစ်၊ ကိုယ်တွင်းဖြစ်၊ ဝမ်းတွင်းအောင်း၊ ကောင်းသည်ကားတဘဝ၊ မကောင်းသည်ကား အနန္တ၊ ဒုက္ခကဲပို၊ ဦးချိုနှင့်တမောက်မောက်၊ အတောင်ရောက်၊ အမြီးပေါက်၊ နှစ်ချောင်းထောက်၊ လေးချောင်း ထောက်၊ မှောက်လျက်သွား၊ ဖီလာသွား၊ ခြေများ ခြေနည်း၊ ခြေမရှိအချီးနှီး၊ ရုပ်ပုံလည်းမတူ၊ ဖြူတခါ၊ ညိုတခါ၊ အဝါ၊ အမှောင်၊ အကြောင် အကျား၊ အထွေထွေဆန်းပြား၊ စကားပြောနိုင်တဲ့ဘဝ၊ တုကိုဘော ဖြင့်၊ မပြောနိုင်တဲ့ ဘဝမပြော၊ ချောတဲ့ဘဝချော၊

ကြွမ်းတဲ့ဘ၀ကြွမ်း၊ ဘရမ်းဘတာ၊ ကြောက်စရာ့ သံသရာ၊ ရေမှာကျက်စား၊ မြေမှာ ကျက်စား၊ ကောင်းကင်မှာ ကျက်စား၊ ငါးဖြစ်တုံ၊ ဖားဖြစ်ကုံ၊ ကြုံရသည် အကြိမ်ကြိမ်၊ ရှိန်တခါ၊ မှန်တခါ၊ တောက်တခါ၊ မှေးတခါ၊ အောက်မှာနရက်၊ အထက်မှာ ဘဝဂ်၊ ကြွက်ကြွက်ဆူ ဗလဗွေ၊ ရုပ်၍သာနေရော့၊ သေလို့လည်းမဆုံး၊ နာ၍လည်းမဆုံး၊ ဝဲလှည့်သည့် သစ်တုံးကဲ့သို့....။

ဆုံးမမြင်၊ စမမြင်၊ စက်ရှင်ယန္တရား၊ ချာလည် ပတ်တဲ့၊ ရဟတ်ချား၊ ဆုံလည်သည့် နွားကဲ့သို့၊ ငါးပါးသောဂတိဖြင့်၊ တရိရိပင်ပန်း၊ နွမ်းတယ်လို့လည်း မကြောက်၊ အာရုံနှောက်သောကြောင့်၊ အကောက်ကို အဖြောင့်မှတ်၊ အမြတ်ကို အယုတ်ထင်၊ ကာမဂုဏ် ဝင်သဖြင့်၊ အမြင်မှား၊ အထင်မှား၊ ထက်လှသည့် သင်ဓုန်းသွားဝယ်၊ တင်ထားသည့် ပျားရေစက်၊ လျက်မိလျှင်၊ တခါထဲ၊ လျှာထက်ခြမ်း၊ ဘျမ်းဘျမ်းကြီး ကွဲသကဲ့သို့၊ လွဲသူသာများပေသည်။

အသိဉာဏ်ယွင်းယို၊ ငါ့ကိုယ်ဟုမှတ်မှား၊ မာနက တကြွားကြွား၊ သီလက ခေါင်းပါး၊ ဘာဝနာက တက်တက်ရှား၊ ငါ့မယား ငါ့သားဟု၊ စွဲလမ်းချက် ကြီးမား၍၊ လေးပါးသောဥပါဒါန်၊ ဟုတ်ရာကိုမကြံဘဲ၊ ဖောက်ပြန်သူသာ များချေသည်။

အရှည်တွင်လည်း သံသရာ၊ အချည်တွင်း တဏှာ၊ သံသရာတိုအောင်၊ တဏှာကို ရှောင်၊ တောင်တွင်လည်း မြင့်မိုရ်၊ မြင်းတွင်လည်း အဿတိုရ်၊ ဂုဏ်ရှိရာ ဆိုခဲ့မည်၊ မြင့်မိုရ်ကိုပုံရှု၍၊ ကုသိုလ်ကို များအောင်ပြု၊ကောင်းမှုကို များအောင်ကြံ၊သတ္တဝါကောင်းမကောင်း၊ အကြောင်း သာ စီမံသည်၊ ကံလျှင်အမိ၊ ကံလျှင်အဘ၊ သည်တရား ဧကန္တ၊ ကံမြင့်မှ မြင့်သတဲ့၊ ကံဆင့်မှ ယဉ်သတဲ့၊ ကံပေးမှ ငွေးသတဲ့၊ ကံညွန်းမှ ထွန်းသတဲ့၊ကံပေါ်မှ ကျော်သတဲ့၊ မော်လို့မျှား၊ ငါတကား-ဟု ဝါကြွားကာ မယောင်ကြနှင့်၊ ကံပြောင်အောင် ကုသိုလ်မျိုးကို၊ ကြိုးစား၍ ပြုကြ ရမည်၊ သို့ဖြစ်သည်ကြောင့်—

ပုညံ ဘိက္ခဝေ မာဘာယိတ္ထ၊
ပုညံ ဘာယန္တော သုခံ ဘာယတိနာမ။

ဘိက္ခဝေ-သူတော်ကောင်းတို့၊ ဝါ-သံသရာဘေးကို ပြေး၍ပင် မကြည့်သော်လည်း၊မိမိကိုယ်တွင် ငါကဘဲဟု၊ လိပ်ခဲတန်းလန်း၊ ဟုတ်မှန်းလိလိ၊ မြင်သလေ့ ရှိကြကုန် သော၊ သူတော်ကောင်း အပေါင်းတို့၊ ပုညံ- ကောင်းမှု ပြုရန် ကိစ္စကို၊ တုမေ့-သင်တို့သည်၊ မာဘာယိတ္ထ- မကြောက်ကြကုန်လင့်၊ ပုညံ- ကောင်းမှုပြုရန် ကိစ္စကို၊ ဘာယန္တော-ကြောက်သောသူသည်၊သုခံ-လူနတ်နိဗ္ဗာန် သုံးတန်သော ချမ်းသာကို၊ ဘာယတိနာမ- ကြောက် သည် မည်၏။

ဤသို့ ပြဆိုပြီးသောအတိုင်း ပုထုဇဉ်မှန်သမျှ အပါယ်မကျဘူးသူ၊ အပါယ်မရောက်ဘူးသူဟူ၍ မရှိ။ အပါယ်လေးပါးသို့ ထုတ်ချင်းခတ် တိုးယိုပေါက် ရောက်ဘူးကြသည်ချည်းသာ ဖြစ်၏။

အပါယ်ဘုံသို့ အရောက် အပေါက် သလောက်ဆိုလျှင် တော်လောက်ပါပြီ။ အပါယ်တံခါးကြီးကို ပိတ်ပြီး နိဗ္ဗာန်ကို စိတ်ချရအောင် သောတာပန် ဖြစ်ရေးသို့ ရှေးရှုကြကုန်ရာသတည်း။

## ဝေဘူဆရာတော်ဘုရား၏ သောတာပန်တရားတော်

မခက်ဘူးဗျာ့။

လွယ်လိုက်တာမှ အင်မတန်လွယ်ဗျာ့။

လွယ်လိုက်တာ ဒကာကြီး၊ ဒကာမကြီးများရယ်။

ဤသည်တို့ကား ဝေဘူ ဆရာတော်ဘုရားကြီး၏တရားဟောရာတွင် မြွက်ကြားလေ့ရှိသော မိန့်ခွန်းတော် ဖြစ်၏။ တရားတော်ကို ခက်သည် ထင်၍ လန့်နေသူများအား ရှံ့ကြောက်ခြင်းကင်းစွာ တရားတော်ကို ကြားနာနိုင်လာအောင် အားဓာတ် သွင်းပေးတော်မူလိုက်ခြင်းဟု ဆိုနိုင်၏။

ဆရာတော်သည် သက်တော်ထင်ရှား ရှိစဉ်အခါက အကြိမ်ပေါင်း တသောင်းကျော် တရားဟောတော်မူပါလျက်ကို တကြိမ်တခါမှ ကျွန်ုပ် ကြားနာခွင့် မရခဲ့ပါ။ သို့ရာတွင် သာသနာရေးဦးစီးဌာန၊ ညွှန်ကြားရေးမှူးချုပ် ဦးကြည်ညွန့်

(မှူးဟောင်း)၏ ကျေးဇူးကြောင့် ဆရာတော်ဘုရား၏ တရားတော်ကို ကြားနာခွင့် ရရှိပါသည်။ ဆရာတော်ဘုရား သက်တော်ထင်ရှား ရှိတော်မူစဉ်က ဟောကြားသွားတော်မူသော သန္တိဋ္ဌိက တရားတော်များနှင့် သန္ဒိဋ္ဌိက ဓမ္မလမ်းစဉ် စာအုပ်ကို ဦးကြည်ညွန့်က ဓမ္မဒါနပြုသောကြောင့် ဖြစ်ပါသည်။ ဦးကြည်ညွန့်၏ကျေးဇူးကား လွန်စွာကြီးမားလှပါပေသည်။

၁၉၅၄-ခု လောက်က ထင်ပါသည်။ ဆရာတော်သည် ရန်ကုန်သို့ ကြွလာ၍ တက္ကသိုလ်ဓမ္မာရုံတွင် သီတင်းသုံးပြီး ဒကာ၊ ဒကာမတို့ ကုသိုလ်ပွားစေရန်အလို့ငှာ ကိုယ်တော်တိုင် ကြွ၍ ဆွမ်းခံပါသည်။ ထိုအချိန်က ကျွန်ုပ်မှာ မြေနီကုန်း၊ စမ်းချောင်း မဟာမြိုင်လမ်း၌ နေသဖြင့် ဆရာတော် ကြွလာမည့် လမ်းတလျှောက်လုံးကို သူ့ထက်ငါ ဖျာ၊ သင်ဖြူး၊ ကော်ဇောများကို ခင်းကြပုံကိုလည်းကောင်း၊ အချို့ အမျိုးသမီး ကြီး၊ငယ်တို့က ဆရာတော် ကြွလာတော်မူသော အခါ ဆံပင် ဖြန့်ပေးကြသည်ကိုလည်းကောင်း ကိုယ်တွေ့ ကြုံဘူးခြင်း၊ အခိုက်အတန့်အားဖြင့် ဆရာတော်ဘုရားအား ကိုယ်တိုင် ဖူးမြော်လိုက်ရခြင်းများဖြင့်သာ ရောင့်ရဲခဲ့ရပါသည်။ တရားနာသွားရန် အားထုတ်ငြားလည်း ကံက ဖယ်လေရော့ သလား၊ အကြောင်း အမျိုးမျိုးကြောင့် ပျက်ကွက်ပြီး ကြားနာခွင့် မရခဲ့ပါ။

ဆရာတော်၏ တရားစာအုပ်ကို ဖတ်ရှုရသောအခါ "သက်တော်ထင်ရှား ရှိစဉ်က တရားတော်ကို ငါ မနာခဲ့မိ

လေခြင်း’’ဟူ၍ နောင်တကြီးစွာ ရမိလာပါသည်။ ဆရာတော်၏ တရားတော်များမှာ အခြေအနေအရ စာအုပ်တွင်း၌ တည်နေကိန်းဝပ်လျက် ရှိနေကြသော်လည်း ဆရာတော်ကိုယ်တိုင် ဟောနေသကဲ့သို့ ထင်ရသည်။

မြန်မာမှု၌ အရေးသဒ္ဒါ၊ အပြောသဒ္ဒါ၊ ဝါ-အရေးစကား၊ အပြောစကားဟူ၍ ရှိသည်ဖြစ်ရာ အရေးစကားထက် အပြောစကားကို ပို၍သဘောပေါက်လွယ်ကြသည်။ နားရှင်းကြသည်။ ဗုဒ္ဓ၏ တရားတော်ကို ပါဠိပါဠ်သားတွေမပါဘဲ မြန်မာစကား သက်သက်ဖြင့် မီးဖိုချောင်ထဲက လူတွေရော၊ ဗျတ်ထိုးခေါင်းရွက် ဈေးသည်များပါမကျန် လွယ်လွယ်ကူကူနှင့် အားလုံး နားယူနိုင်အောင် ဟောတော်မူသည်ကို တွေ့ရပါသည်။

တရားစာများကို ဖတ်ရင်း မိဘများက စကားမတတ်သေးသည့် သားငယ်၊ သမီးငယ် ပေါက်စနလေးများအား စကားသင်ပေးပုံကို မြင်ယောင်လာသည်။ ဆရာတော်၏ ဟောပြောပုံမှာ ခလေးငယ်များအား စကားသင်ပုံနှင့် တူလှ၏။ တရားဟောသည်ဟူ၍ မထင်။ တရားတော်၏ အနှစ်သာရများကို တလုံးသင်၊ နှစ်လုံးသင်နှင့် နားမလည်မချင်း တရားတော်ကို လက်ထပ်သင်ပြပေးနေသည်ဟု ထင်လာသည်။

မှန်၏။ သောတာပန် ဖြစ်ထိုက်သော အင်္ဂါလက္ခဏာလေးရပ်တွင် သဒ္ဓမ္မသဝန၊ သူတော်ကောင်းတို့ ဟောဖော်ညွှန်ပြသော တရားကို ကြားနာခြင်းဟူသော အချက်ကို လက်ကိုင်ပြုကာ တရားနာသူတို့အား လွယ်လွယ်နှင့်မြန်မြန်

သောတာပန် ဖြစ်အောင် ဟောကြားတော်မူပုံကို ဤတွင် အကွက်ဆိုက်သဖြင့် အမြွက်မျှ ဖော်ပြရသော်— (မှတ်ချက်— အောက်၌ ဖော်ပြလတ္တံ့သော စကားလုံးများမှာ ဆရာတော် ဟောတော်မူသည့်အတိုင်း သန္ဒိဋ္ဌိက တရားတော်များ စာအုပ်မှ လုံးစေ့ပါဌ်စေ့ကူး၍ ထည့်ထားတော်မူရင်း စကားများသာ ဖြစ်ပါသည်။)

## ထမင်းစားတာထက် လွယ်

မခက်ဘူးဗျာ့။

လွယ်လိုက်တာမှ အင်မတန်လွယ်တယ်ဗျာ။

(မေး) "ဘယ်လိုများ လွယ်ပါသလဲဆိုတော့ မိမိတို့ထမင်း ဆာလောင် မွတ်သိပ်နေတယ်ဆိုရင် ရှေ့မှာ ကောင်းနိုးရာရာ အဖြာဖြာတွေကို တည်ခင်းပြီးတော့ ကျွေးတယ်၊ မွေးတယ်။ ဒီအခါကျတော့ မွတ်သိပ် ဆာလောင်တာကို ပျောက် အောင်လုပ်ဘို့ရာ ခက်သလားဗျာ့"

(ဖြေ) "မခက်ပါဘုရား။ စားရုံပါဘဲ"

"အဲဒီ စားရုံတွင်မှ မွတ်သိပ်ဆာလောင်တာ၊ စားရမှာ ခက်လိုက်တာလို့များ ညည်းပြီး မစားဘဲ နေမှာလား"

(မစားဘဲ နေမှာ မဟုတ်ပါဘုရား၊ ချက်ချင်းဘဲ စားမှာ ပါဘဲ ဘုရား။)

"ဒီလို စားဘို့ရာ ခက်သလားဗျာ"

"မခက်ပါ ဘုရား"

"မခက်ပေါင်ဗျာ။အဲဒါမှ ညည်းချင် ညည်းအုံး။ဘယ်လိုလဲ ဆိုတော့ လက်ဆေးရဦးမယ်၊ဝါးရဦးမယ်၊ယူပြီးတော့ စားရဦးမယ်၊ခံတွင်းထဲဝင်အောင် သွင်းရဦးမယ်၊မျိုရဦးမယ်"

(မေး) "နောက် ဒီတခါ စားလိုက်ရင် တသက်လုံး ဝပါ့မလား"

(ဖြေ) "မဝပါ ဘုရား၊ အခါပေါင်းများစွာ စားရပါတယ် ဘုရား"

(မေး) "နောက်တခါလဲ ဒီလိုဘဲ လုပ်ရဦးမှာဗျ။အဲဒါက ဤကဲ့သို့ အဆင်သင့် နှစ်သက်ရာရာ အမျိုးမျိုး အဖြာဖြာကို စုံလင်စွာ စီမံပြီးတော့ တည်ခင်းပြီး ကျွေးတာမွေးတာကမှ မွတ်သိပ်ဆာလောင်တာ ပျောက်ချင်မှပျောက်မယ်။ အဲဒီတော့ အဲဒါကို ညည်းချင် ညည်းပါအုံး။ ဘာကြောင့်လဲဆိုတော့ ဤကဲ့သို့ လုပ်ရသေးတာကိုး"

## သက်သာလွယ်ကူ အရယူ

"အခု ဘုရားရှင့်သာသနာ၊ ဘုရားအဆုံးအမ ရှိတဲ့အခါမှာ သုဂတိနှင့် လူ့ဘဝကို ရကြတော့ ဘုရားရွှေလက်ထက်တော်က အဆင့်ဆင့်ဖြစ်ကြတဲ့ လူ၊ နတ်၊ ဗြဟ္မာတွေဟာ ဘုရားရှင်ထံမှောက်သို့ ရောက်ကြ၊ ဘုရားရှင့် အသရေတော်ကို ကြည်ညိုပြီးတော့ အားမရ၊ မချောင့်ရဲနိုင်အောင် ဖြစ်နေတော့မှ ဘုရားရှင်က သဗ္ဗညုတဉာဏ်တော်ဖြင့် ကိုယ်တော်တိုင် ထိုးထွင်းသိပါတဲ့အတိုင်း သိစေတဲ့အခါကျတော့ တပြိုင်ထဲ ခဏကလေးနဲ့ စိတ်နှလုံး အလိုပြည့်တယ် မဟုတ်လား"

"ပြီးပါတယ် ဘုရား"

"လက်ဆေးရသေးသလား"

"မဆေးရပါ ဘုရား"

"ဝါးစားပြီး မျိုရသေးသလား"

"မမျိုရပါ ဘုရား"

"သက်သာလိုက်တာဗျာ။ သာသာကလေးရယ်ဗျာ့။ ဒီလို ချမ်းသာသုခတွေရလို့ အပြီးအဆုံးတိုင် သွားတဲ့အခါကျတော့ နောက် ဘာလိုသေးသလဲ"

"ဘာမှ မလိုပါ ဘုရား"

"ချမ်းသာလိုက်တာဗျာ။ကြားလား၊အခုလို အခါကောင်း၊ ဘဝကောင်းတာသိပြီး ဝီရိယကောင်းကောင်းနဲ့ ဒီလို ယူကြပြီ ဆိုတော့ ဒီလို ပြည့်စုံတာဗျာ့။အခုလဲ ဒီလို ဝီရိယတွေနဲ့ အခါ၊ ဘဝ ကောင်းတာသိပြီး ဈေးက အရှင်မျာ့းကဲ့သို့ ဒီလို ဝီရိယ မျိုးကိုမှီအောင်၊ညီအောင် ထူထောင်ပြီဆိုတော့ ယူမယ်ဆိုရင် မဖြစ်ပေဘူးလား"

"ဖြစ်ကြမှာဘဲ ဘုရား"

"ရှင်ဘုရင်လုပ်ရင် ဖြစ်ပါဘယ်ဘုရား"

"သူဌေးလုပ်ရင်လဲ ဖြစ်ပါတယ်ဘုရား"

"ရှင်ဘုရင်၊သူဌေး မဟုတ်တဲ့ အားလုံးတို့မှာရော"

"အားလုံးတို့မှာလဲ ဖြစ်ပါတယ် ဘုရား"

"ငါ့မှာတော့ ကျေးကျွန်၊ချွေရံသင်းပင်း အလွန်များတယ်၊ ဒါကြောင့် ဒီဟာကို လုပ်လို့မဖြစ်နိုင်ပါဘူးရယ်လို့များ ရှိသေးသလား"

"မရှိပါဘုရား"

"ပီးတော့ သား၊ သမီး၊မြေး၊မြစ်တွေ၊ ကျေးတွေ၊ကျွန်တွေ၊ ထီးနန်း၊ စည်းစိမ်နဲ့ပင်လျှင်ဘဲ ဘယ်နှယ်တုန်းဗျာ့ ဘုရားအဆုံးအမကို ယူကြတဲ့အခါ စိတ်နှလုံးအလို မပြီးဘူးလား"

"စိတ်နှလုံးအလို ပြီးစီးပါတယ်ဘုရား"

"ပရိတ်သတ် အများကြီးနဲ့ကော"

"အများကြီးနဲ့လဲ ပြီးစီးပါတယ်ဘုရား"

"တယောက်ထဲကော"

"တယောက်ထဲလဲ ပြီးပါတယ်ဘုရား"

"ဘုရားရှေ့လက်ထက်တော်ကဆိုရင် ဒီလိုဘဲဗျာ အခုခေတ်မှာလဲ ဘုရား ဆုံးမတာတွေကို ကောင်းမွန်စွာမှတ်သားပြီး ဒီလို ဝီရိယနဲ့ ထူထောင်ပြီး ယူကြမယ်ဆိုရင် ပင်ပန်းမှာလားဗျာ"

"မပင်ပန်းပါဘုရား"

"လွယ်လိုက်တာ ဒကာကြီး၊ ဒကာမကြီးများရယ်"

(မေး) "သို့ပေမယ့်လို့ သူတို့များမှာတော့ နိဗ္ဗာန်တော့ လိုချင်သား၊ ဘယ်လိုလုပ်ရဦးမယ် ဒါတွေကတော့ အခု ဒီလို လုပ်နေရသေးတယ်၊ ဒါကြောင့် မလုပ်နိုင်သေးပါဘူးနဲ့ အဲဒီလိုများ ပြောနေသေးသလား"

(ဖြေ) "ဒီလိုဘဲ ပြောနေတာပါဘဲဘုရား။ နိဗ္ဗာန်တော့ လိုချင်တယ်၊ သားသမီးတွေကို ပစ်ပြီးတော့ တောထွက်ရမလို ဖြစ်နေတယ်။ အဲဒါကို ကြောက်တာနဲ့ မလုပ်ဖြစ်အောင် ဖြစ်နေပါတယ်ဘုရား"

"မစွန့်ပါနဲ့ဗျာ၊ ဘုရားဟောတာကိုသာ တခါထဲ ဒီလို အာရုံပြုပါဗျာ။ ဘုရားရှေ့လက်ထက်တော်က တစုတဝေးကြီး (နိဗ္ဗာန်) ရောက်သွားတာတွေကို မနဲပါဘူးတဲ့ဗျာ။ဘယ့်နှယ်လဲ။ အကုန်လုံးရတယ်မှတ်လား"

(မေး) "အထက်က သိကြား၊ ဗြဟ္မာ၊ နတ်တွေကလဲ သူတို့ ပရိတ်သတ်နဲ့ သူတို့ လာတာဘဲ မဟုတ်လား။ အဲဒီလို သူတို့ ပရိတ်သတ်တွေနဲ့ အကုန်လုံး မရဘူးလားဗျာ"

(ဖြေ) "ရပါတယ်၊အကုန်လုံး ရပါတယ်ဘုရား"

"သို့သော်လည်း ဘုရားထံမှောက်သို့ ဘုရား ပွင့်တော်မူတဲ့ အချိန်အခါရယ်လို့ သိပြီးတော့ ဝမ်းမြောက်ပြီး ဝီရိယရှိတော့မှ ရောက်တာဗျာ။ အဲဒီလို ရောက်ရင်လဲ ဘုရားရှင်က မဟာ ကရုဏာအရှင် ဖြစ်သည့်အားလျော်စွာ သဗ္ဗညုတဉာဏ်တော်ဖြင့် သိပြီးတော့ ညွှန်ကြားဆုံးမတဲ့အခါမှာ တမုဟုတ်ချင်း ထိုင်ရာ မထ ပြီးစီးကြတယ် မဟုတ်လားဗျာ"

"ပြီးစီးပါတယ်ဘုရား"

"လွယ်လိုက်တာဗျာ။ လွယ်တာ ဘာ့ကြောင့်တုန်းဆိုရင် အခုနကလို စိတ်ကထားတာဗျာ။ အခုလဲ ဒီလို ထားရုံပါဘဲဗျာ"

"ဒီလိုထားရှိတော့ ထားရှိပါတဲ့ဘုရား ဒါပေမယ့် ဘယ်လို ထားရမှန်းကို မသိသေးပါဘုရား"

"အံမယ်၊ ဘယ်လိုများ ထားရမှာလဲဗျာ၊ အခု ဒကာကြီး၊ ဒကာမကြီးတွေဟာ မေတ္တာရှင်၊ **ကရုဏာရှင် ဖြစ်ပါတဲ့** သံဃာတော်အရှင်ကောင်း၊ အရှင်မြတ်တို့က အစဉ်အားဖြင့် အခွင့်အခါရတိုင်း ဘယ်အခါမှ မပြတ်အောင် (သုံးဖြာသော ပိဋကတ်) တို့ကို ထပ်တလဲလဲ သွန်သင်လို့၊ ဆုံးမလို့၊ ဟောလို့ ပြောလို့၊ ပို့လို့ ချလို့ နည်းမျိုးစုံနဲ့ ဘယ်ဟာမှ မလပ်ရအောင် ဤကဲ့သို့ ညွှန်ကြားဆုံးမပြီးတော့ အမြဲနေတော့ အားလုံး တို့ဟာ ဘုရားအဆုံးအမတွေကို ပြွန်းတီး လိမ္မာပြီးသားတွေ မဟုတ်လားဗျာ"

"အချို့တော့လဲ လိမ္မာပါတယ်ဘုရား။ အများအားဖြင့် တော့ မသိကြသေးပါဘုရား"

"လိမ္မာကြပါတယ်ဗျာ၊ အခုလို ရောက်လာကြတဲ့ ဒကာကြီး၊ ဒကာမကြီးတွေဟာ ဘာသိဘာသာနဲ့ တရားနာလာတာ မဟုတ် ဘူးဗျာ၊ ရောက်လေရာမှာ တရားဟောနေတဲ့ ဓမ္မကထိကချည်းဘဲ မဟုတ်လားဗျာ"

"မဟုတ်ပါဘုရား"

"ဟုတ်တော့ ဟုတ်မှာပါဗျာ၊ သူများပြောတာတောင် မင်း အသာနေစမ်းပါ၊ ငါ ပြောစမ်းပါမယ်နဲ့ ဒီလိုလုပ်မှာပါဗျာ"

"တပည့်တော်တို့ ပြောတာက အလွဲတွေပါဘုရား"

"ဘယ်လွဲမလဲ၊ မေတ္တာရှင်၊ ကရုဏာရှင်တွေက ဆုံးမထား တော့ တခုခု ပြောချင်တယ်ဆိုရင် သူတို့မှာ အမျိုးမျိုးအဖုံဖုံ ကျယ်ကျယ်ဝန်းဝန်းနဲ့ များများကြီးပြောတတ်၊ ဟောတတ်ပြီး သား နေမှာပါဗျာ၊ ဟုတ်ကဲ့လားဗျာ။ အဲဒီလို ဟောတတ်၊ ပြောတတ်ပြီးသားပါဗျာ။ ဘာဖြစ်လို့လဲဆိုရင် အကုန်လုံးဟာ ကြီးကြီးငယ်ငယ် တို့အားလုံး ပြွန်းတီး လိမ္မာပြီးသားပါ။ ဘာ့ ကြောင့် သိရသလဲဆိုရင် အနည်းငယ် စပြောလိုက်ရင်ဘဲ သူတို့ သိပါတယ်ဗျာ။ ဘယ်လိုလဲဆိုတော့ ဒါက သုတ်ပါဗျာ၊ ဒါက အဘိဓမ္မာပါဗျာ၊ ဒါက ဝိနည်းပါဆိုပြီး ဒီလို သိကြတယ် မဟုတ်လား"

"သိတဲ့သူ နည်းပါတယ်ဘုရား"

"ဘယ်ဟုတ်လိမ့်မှာလဲ၊ အကုန်လုံးသိပါတယ်ဗျာ။ အဲဒါ ကြောင့် ဘုရားဆုံးမတဲ့ အဆုံးအမကို ကောင်းကောင်းလှလှကြီး ပြွန်းတီးလိမ္မာကြတဲ့ သူတော်တောင်းတွေ မို့လို့ အဲဒီလို ဖြစ်ပါ သဗျာ့။ အဲဒီတော့ ဒီလို မှတ်သားပြီး ထားတဲ့ဟာတွေဟာ များပြားကြပါတယ်။ အဲဒါတွေထဲက အကုန်းလုံး မဟုတ်ပါဘူး ဗျာ၊ ကိုယ်နှစ်သက်ရာ ဘုရားဆုံးမတဲ့ အဆုံးအမ မှန်မှန်တခုကို သန်သန်ဝီရိယနဲ့ အာရုံပြုပြီးတော့ စူးစူးစိုက်စိုက်ကြည့်ပါ။ အဲဒီလို ကြည့်တဲ့အခါမှာ ထိုထို ထိုထို တပါးအာရုံတွေ မသွားဘဲနဲ့ စိတ်အားဖြင့် စိုက်စိုက်စူးစူး ကပ်၍ထားပါ"

ခုလုပ်၊ ခုချက်ချင်း ချမ်းသာ

"အဲဒီလို ထားနေတဲ့အခါမှာ ဆင်းရဲကို ဖြစ်စေတတ်တဲ့ ဒေါသ၊ မောဟတွေဟာ ရှိပါ့မလား"

"မရှိတော့ပါဘုရား"

"ဒီတော့ လောဘ၊ ဒေါသ၊ မောဟ သန့်ရှင်းစင်ကြယ်တယ် ဆိုတော့ ဒီအချိန်မှာ ကြောင့်ကြမှု၊ စိုးရိမ်ရမှု၊ ပူပန်ရမှု ရှိပါဦးမည်လား"

"မရှိတော့ပါဘုရား"

"စိုးရိမ်ကြောင့်ကြ၊ ပူပန်ရမှုတွေဟာ ဆင်းရဲလား၊ ချမ်းသာလား"

"ဆင်းရဲပါဘုရား"

"ဒီစိုးရိမ်၊ ကြောင့်ကြ၊ ပူပန်ရမှု မရှိဘူးဆိုရင်ကော"

"ချမ်းသာပါဘုရား"

"ဒီတော့ ဘုရားဆုံးမပါတဲ့ အဆုံးအမ မှန်မှန်တခုကို ကောင်းမွန်စွာ မှတ်သားပြီးတော့ ဝီရိယသန်သန်နဲ့ ရှေးအရှင်များကဲ့သို့ မီအောင်၊ ညီအောင် ဒီလို ထူထောင်လိုက်ကြရမယ် ဆိုရင် ဝီရိယိဒ္ဓိပါဒ်က ဆိုင်းနေမှာလားဗျာ"

"မဆိုင်းပါဘုရား"

"အခုဆို အခု မဟုတ်လား"

"အခု ချက်ချင်းပါဘုရား"

"အဲ-အခုဘဲ အာရုံပြုလိုက်ပါဆိုတော့ သူတို့မှာ မှတ်သား ပြီးထားတာ အများကြီးဆိုတော့ ကိုယ်နှစ်သက်ရာ တခုခုကို ဆိုရင်လဲ အာရုံပြုပြီးသား ဖြစ်နေပြီဗျာ့၊ အားလုံးပြုပြီးသား မဟုတ်လား"

"မပြုတတ်သေးပါဘုရား"

**အတူတူမှာ ဟိုဟာရွေး သည်ဟာရွေး**

"အံမယ် နေမှာမဟုတ်ပါဘူးဗျာ့။ဒို့ကသာ တခုပြောတော့ သူတို့က ဟိုဟာကောင်းတယ်၊ ဒီဟာကောင်းတယ်၊ ဒါလဲစမ်း၊ ဟိုဟာလဲစမ်းနဲ့ ဘယ်နှစ်မျိုးများ ပြောင်းပြောင်းပြီး လုပ်လိုက် တယ် မသိပါဘူး။ ဒို့ကသာ ရှောက်ပြောနေတာ။ သူတို့က ဘယ်နှစ်မျိုးလောက်များ ပြီးသွားမှန်းတောင် မသိပါဘူး။ အများကြီးပါဗျာ။ ဟုတ်ကဲ့လား။ အများကြီးကို ပြီးသွား မှာဗျာ့။သို့သော်လည်း ဘယ်ဟာဘဲဖြစ်ဖြစ် ဆင်းရဲ မလွတ်ဖူး ဆိုတာကိုတော့ နားလည်ရမယ်။ ဒီလို အများကြီးရှိတာမှာ တခုကို အာရုံပြုလိုက်မယ်ဆိုရင် လောဘ၊ဒေါသ၊မောဟတို့ဟာ သန့်ပြန့်စင်ကြယ်လို့ အခုချက်ချင်းဘဲ ဆင်းရဲမှ လွတ်ပါတယ်။ သည့်ပြင်ဟာကို အာရုံပြုမယ်ဆိုရင်လဲ ဒီလိုဘဲ ဆင်းရဲမှ လွတ်မှာဘဲ"

"မှန်ပါ ဘုရား"

**ဘယ်ရေသောက်သောက် မွတ်သိပ်ပျောက်**

(မေး) "အခု ဒကာကြီး၊ ဒကာမကြီးတွေဟာ ရေအိုး တွေကို ဟိုနေရာမှာလဲ ထား၊ သည်နေရာမှာလဲ ထားတော့ ရေသောက်ချင်တဲ့အခါမှာ ဘယ့်နှယ်လဲ"

(ဖြေ) "ရေအိုး ရှာသောက်ရပါတယ် ဘုရား"

(မေး) "ဒီ ရေအိုးထဲက ရေကိုသောက်တော့ ဘယ့်နှယ်လဲ"

(ဖြေ) "ရေငတ် ပြေပါတယ် ဘုရား"

(မေး) "ဒီရေအိုးကတော့ ဝပြီ၊ဟိုရေအိုးကို သွားသောက်ဦးမယ်လို့ လုပ်သေးသလား"

(ဖြေ) "ဟိုရေအိုးကို သွားမသောက်တော့ပါ ဘုရား"

(မေး) "ဟိုရေနှင့် ဒီရေက တမျိုးစီလား"

(ဖြေ) "အတူတူပါဘဲ ဘုရား"

(မေး) "ဘယ်လို တူပါလိမ့်"

(ဖြေ) "ရေချင်း အတူတူပါဘဲ ဘုရား"

(မေး) ရေချင်းတူတော့ ဘယ်လိုဖြစ်မလဲ"

(ဖြေ) "ဟိုရေသောက်လဲ ဝတာပါဘဲ ဘုရား၊ ဒီရေသောက်လဲ ဝတာပါဘဲ ဘုရား"

(မေး) "ဒီဟာသောက်လဲ အတူတူဆိုတာ နားလည်သွားပြီလား။အခုလဲ ဘုရား အဆုံးအမတော်တွေဟာ ဆင်းရဲမှလွတ်မှုတခုပါဘဲ။ အခုနက ရေအိုးတွေကို ဟိုနေရာ၊ ဒီနေရာထားတာနဲ့ တူတယ်ဗျာ။အားလုံးဟာတော့ ရေချည်းဘဲ"

(ဖြေ) "တပည့်တော်တို့မှာ ရေအိုးတောင် ရှာမတွေ့သေးပါ ဘုရား။သောက်ဘို့ဆို ဝေးရော"

"ဒါတော့ သူတို့မှာ ပေါပေါများများ ရှိပါတယ်ဗျာ"

## အားလုံးတွေဟာ တခုထဲ

"သို့သော်လဲ ဒီလိုပြောကြပါစို့ ရှဲ။ တခုခုနဲ့ မျှားပြီးနေပေမယ့် အတူတူတော့ အတူတူပါဘဲ။ သို့သော်လည်း တမျိုးစီ ဖြစ်နေတယ်ဆိုရင် အကုန်လုံး အတူတူ တပြိုင်နက်ထဲ ဖြစ်လဲ အတူတူ၊ လုပ်တာလဲ အတူတူ၊ အဲဒီလို တူတာတွေ ပြောကြပါစို့ ရှဲ။ အေး အေး ဒီတော့ ဘယ်သင်း ရှိသလဲဆိုတော့ အားလုံး ဒကာကြီး၊ ဒကာမကြီးတွေ ကြီးကြီး၊ ငယ်ငယ် အသက်တော့ မရှူကြဘူးလား"

"အသက် ရှူပါတယ် ဘုရား"

"အသက်ရှူတယ် ဆိုတာက လေနှစ်ရပ်တို့ဟာ ထွက်လိုက်၊ ဝင်လိုက်နဲ့ နေတာကို အသက်ရှူတယ်လို့ ခေါ်တာဘဲ မဟုတ်ပါလားဗျာ့"

"ဒါကိုဘဲ ခေါ်ပါတယ် ဘုရား"

"အသက်ရှူတဲ့အခါကျတော့ ဘာနှင့် အသက်ရှူကြသတုန်း ဗျာ့"

"နှာခေါင်းနဲ့ အသက်ရှူပါတယ်ဘုရား"

"အဲဒီလို အသက်ရှူတဲ့နေရာမှာ ဒို့ကတော့ နှာခေါင်းနဲ့ ဆိုတော့ ဒိပြင်ဘာနဲ့မျှား ရှူတာရှိသေးသလဲ"

"မရှိပါဘုရား။ နှာခေါင်းနဲ့ရှူတာချည်းပါဘဲ"

"ကောင်းပါ့ဗျာ။ ဘယ်အချိန်ကစပြီး အသက်ရှူကြ သတုန်း"

"မွေးကတည်းကစပြီး အသက်ရှုပါတယ်ဘုရား"

"ပြီးတော့ ထိုင်နေရင်းကော အသက်မရှုဘူးလား"

"ရှုပါတယ်ဘုရား"

"မတ်တတ်ရပ်ရင်းကော"

"ရှုတာပါဘဲဘုရား"

"လမ်းခရီးသွားရင်းကော"

"ရှုပါတယ်ဘုရား"

"စားဘို့ သောက်ဘို့ အလုပ်တွေလုပ်ရင်းကော"

"ရှုပါတယ်ဘုရား"

"အိပ်ပျော်သွားတော့ကော"

"ရှုတုန်းပါဘဲဘုရား"

"ဒီတော့ အလုပ်တွေက ရှုပ်လိုက်တာ၊ များလိုက်တာ၊ အသက်မရှုအားပါဘူး၊ နားလိုက်အုံးမယ်လို့ ဒီလိုမျိုး နားနေလို့ ဖြစ်သလား"

"နားလို့ မဖြစ်ပါဘုရား"

"ဒီဟာတော့ အားလုံး ပြွန်းတီးလိမ္မာပြီးမပေါ့"

"ပြွန်တီး လိမ္မာပါတယ်ဘုရား"

"ဒီတော့ လေကလေး ထွက်တာ ဝင်တာဟာ ဘယ်အခါမှ မပြတ်အောင် ဖြစ်နေတော့ ဒီဟာကို စိတ်အာရုံအားဖြင့် ထွက်တာ၊ ဝင်တာကို သိအောင် ပြုရမယ်ဆိုရင် ခက်ဦးမလား"

"မခက်ပါဘုရား"

"ဒါဖြင့်ရင် ဒီလေကလေး ထွက်တဲ့အခါမှာ အေးအေး အေးအေးနဲ့ ဘယ်နေရာကလေးကို တိုက်ပြီးတော့ ထွက်သလဲ"

"နှာသီးဝကို တိုက်ပြီး ထွက်ပါတယ်ဘုရား"

"ဝင်တော့ကော"

"ဝင်တော့လဲ အဲဒီနေရာကိုဘဲ တိုက်ပြီး ဝင်ပါတယ်ဘုရား"

"ဒီတော့ အဲဒီနေရာဟာ ထင်ရှားတော့ အဲဒီနေရာကို လက်ကလေးတခုနဲ့ သာသာကလေးထိပြီးတော့ ထားရင် သိပြီးတော့ မနေပေဘူးလား"

"လက်နဲ့ ထိပြီးတော့ထားရင် သိနေပါတယ်ဘုရား"

"အေး ဒါကြောင့်မို့ လက်နဲ့ထိတော့ သိပြီးနေသလို ထိုထို ထိုထို တပါးအာရုံတွေဆီ မသွားရအောင် စိတ်ကို ဒီလိုထားဗျာ၊ ဒီလိုထားတော့ကို စိတ်ဟာ ထိုထို ထိုထို မသွားဘဲ နေတယ် မှတ်လား"

"နေပါတယ်ဘုရား"

## အတွင်းအပြင် လိုက်မသွားနဲ့

"ဒီစိတ်ကလေးကို အဲသလို ထားဗျာ၊ ဟုတ်ကဲ့လား။ ထားတော့ကို လေကလေးဟာ ဒီနေရာကလေးကို အေးအေး အေးအေးနဲ့ တိုက်ပြီးတော့ ထွက်တာကို သိတယ်။ ဟိုဘက်ကို လိုက်မသွားနဲ့။ ဝင်တော့လဲ အေးအေး အေးအေးနဲ့ တိုက်ပြီးတော့ ဝင်မယ်။ အတွင်းကို လိုက်မသွားနဲ့။

အဲဒီတော့ ဒီနေရာမှာ တဆက်ထဲ မပြတ်ဘဲနဲ့ တထိထဲ ထိနေတာကို တသိထဲ သိမနေဘူးလား။

"သိနေပါတယ်ဘုရား"

"အဲဒီလို သိပြီးနေတဲ့အခါမှာ ဆင်းရဲကို ဖြစ်စေတတ်ပါတဲ့ လောဘ၊ ဒေါသ၊ မောဟတို့ ရှိသေးသလား"

"မရှိပါဘုရား"

"ဒီလို ဆင်းရဲကို ဖြစ်စေပါတဲ့ လောဘ၊ ဒေါသ၊မောဟတို့ မရှိတာဟာ အကုသိုလ် မရှိတာပေါ့"

"မှန်ပါ့ဘုရား"

"ဒီအချိန်မှာ စိုးရိမ်ရမှု၊ ကြောင့်ကြရမှု၊ ပူပန်ရမှု ရှိပါဦးမည်လား"

"မရှိပါဘုရား"

"ဒီလို စိုးရိမ်မှု၊ ကြောင့်ကြမှု၊ ပူပန်မှုတွေ မရှိဘူးဆိုရင် သန့်ပြန့်စင်ကြယ်မှုဟာ ဆိုင်းနေဦးမှာလား"

"မဆိုင်းပါဘုရား"

"အခုချက်ချင်း ဝီရိယကို ထူထောင်ပြီးတော့ ဤကဲ့သို့ သန့်ပြန့်စင်ကြယ်သွားတာက ဝီရိယဒ္ဓိပါဒ်၊ ဒီတော့ အခုလို ထိုင်ပြီးတော့ထားရင် မဖြစ်ဘူးလား"

"ဖြစ်ပါတယ်ဘုရား"

"မတ်တတ်ရပ်ရင်းကော"

"ဖြစ်ပါတယ်ဘုရား"

"လမ်းသွားရင်းကော"

"ဖြစ်ပါတယ်ဘုရား"

"စားဘို့သောက်ဖို့ အလုပ်တွေ လုပ်ရင်းကော"

"ဖြစ်ပါတယ်ဘုရား"

"ဤကဲ့သို့ ထားရတာဟာ ပင်ပန်းသလား"

"မပင်ပန်းပါဘုရား"

"ပစ္စည်းကုန်သလား"

"မကုန်ပါဘုရား"

"အလုပ်အကိုင် ပျက်သလား"

"မပျက်ပါဘုရား"

(မေး) "ဒီတော့ ဘုရားဆုံးမပါတဲ့ အဆုံးအမတော်တွေကို လိုက်နာဘို့ရာမဖြစ်တဲ့ နေရာရယ်လို့ ရှိသေးသလားဗျာ"

(ဖြေ) "မရှိပါဘုရား"

"လွှယ်လိုက်တာ ဒကာကြီး၊ ဒကာမကြီးများရယ်၊ ဘုရားရှေ့လက်ထက်တော်က မြင့်မြတ်ကြပါတဲ့ တပည့်သား၊ တပည့်သမီး၊ ဥပါသကာ၊ ဥပါသိကာတွေဟာ ဤကဲ့သို့ အဆုံးအမတွေကို မှတ်သားပြီးပြီဆိုတော့ ဣရိယာပုထ် လေးပါးမှာ ဘယ်အခါမှ မပြတ်အောင် တခါတည်း တဆက်တည်း ဒီလိုထားကြတာတဲ့ဗျာ။ ဤကဲ့သို့ ထားသည်ဖြစ်သောကြောင့် စိတ်နှလုံးကို တောင့်တတဲ့အတိုင်းဟာ ပြီးစီးအောင်မြင်ကြလို့မို့ ဝမ်းမြောက်ကြရသတဲ့ဗျာ့၊ ဝမ်းသာကြရသတဲ့ဗျာ့။

ဒါဟာ တခဏစာ၊ တဘဝစာ မဟုတ်ဘူး၊ သံသရာတလျှောက်လုံးအတွက် ကောင်းကောင်းလှလှကြီး လုံလောက်ကြသတဲ့ဗျား၊ အဲသည်လိုဗျာ”

ဤသည်တို့ကား ဝေဘူဆရာတော်ဘုရားကြီး၏ (သောတာပန်) တရားတော် ဖြစ်၏။ ဆရာတော်ဘုရား၏ တရားတော်ကို မကြားရဘူး၊ မနာရဘူးသူတို့ ကြားနာတော်မူနိုင်ကြစေရန် တရားတော်ကို ကြားနာရင်း အသိဉာဏ်ပွင့်၍ ပါရမီအားလျော်စွာ ချက်ချင်းပင် သောတာပန်အဆင့်သို့ ရောက်ရန် အလားအလာရှိသူများ သောတာပန်နိုင်ကြစေရန် ရည်သန်၍ ဆရာတော်၏ “သန္ဒိဋ္ဌိတရားတော်များ”မှ ထုတ်နုတ် ဖော်ပြလိုက်ပါသည်။

ဆရာတော် ပြောဟောချက်များသည် မြန်မာ့နားရှက်နှင့် အံဝင်ခွင်ကျ ဖြစ်နေသည်ကို သတိမူနိုင်ပါ၏။ ပါဠိမစွက် မြန်မာသက်သက်ဖြင့် မီးဖိုချောင်ထဲက ထမင်းချက်သူအထိ အသိရှင်းရှင်းနှင့် နားသွင်းပေးတော်မူ၏။

အာနာပါန ကမ္မဋ္ဌာန်း စီးဖြန်းပုံကို ပါဠိတလုံးမျှမပါဘဲ မြန်မာသက်သက်ဖြင့် နားလည်အောင် ဟောပြတော်မူ၏။ ဟောပြတော်မူရာ၌ မျက်ဝါးထင်ထင် အများသိမြင်နေကျ အရာကို ရွေတန်းတင် ဦးစားပေး၍ ဟောတော်မူ၏။

“လေ ဝင်လိုက်၊ ထွက်လိုက် ဖြစ်နေတာကို အသက်ရှူတယ်လို့ ခေါ်တာဘဲ မဟုတ်လား။ အသက် ဘယ်အချိန်က စပြီး ရှူသလဲ။ အသက်ရှူတော့ ဘာနဲ့ရှူသလဲ” စသော မေးခွန်း

များမှာ ကလေးကစပြီး ဖြေနိုင်၊ သိနိုင်သော မေးခွန်းများ ဖြစ်၏။ ထိုအခါ အဲဒီလို လေအဝင် အထွက်ကို သိနေအောင် ဆရာတော်က အမှတ်ခိုင်းလေသည်။ ငင်လေ၊ ထွက်လေကို အမြဲသိနေလျှင် လောဘ၊ ဒေါသ၊ မောဟများ ဝင်ခွင့်မရ၊ အကုသိုလ် မဖြစ်။ အကုသိုလ် မဖြစ်လျှင် စိုးရိမ်ရမှု၊ ကြောင့်ကြ ရမှု၊ ပူပန်ရမှုတွေ မရှိနိုင်တော့။ အနှောင့်အယှက် မကပ်နိုင်တော့။ ထိုအခါ သန့်ပြန့်စင်ကြယ်မှုဟာ မဆုတ်မဆိုင်း ဒိုင်းကနဲ ရောက်လာပါလိမ့်မည်ဟု ဟောတော်မူချက်များမှာ ရာသက်ပန် အသဲထဲ စွဲပြီးသွားစေသော တရားတော်များ ဖြစ်လေသည်။

သောတာပန်သည် အသိအစွဲမြဲမှု အခြေခံသောကြောင့် ဆရာတော်သည် တပည့်တို့အား အသိခိုင်ခိုင်နှင့် သောတာပန် နိုင်ငံ ရောက်အောင် ၎င်းမှ တဆင့် မြင့်သထက်မြင့်သော အရဟတ္တဖိုလ်တိုင်အောင် လွယ်လွယ်နှင့် ပို့ဆောင်တော်မူ၏။ သုံးနှုန်းသွားသော စကားများမှာလည်း တမူထူးခြားပြီး မြတ်နိုးစရာ ကောင်းလှ၏။ ရင်းနှီးမှုအသွင်ကိုလည်း အပြည့်အဝ ဆောင်ပေ၏။

"မရတဲ့ တောင့်တချက်ဆိုတာ မရှိအောင်ပါဘဲဗျာ"

"လွယ်လိုက်တာ ဒကာကြီး၊ ဒကာမကြီးများရယ်"

"ယူတဲ့အချိန်မှာ ကေန္တ ရပါသတဲ့ဗျာ"

"ဝီရိယသန်သန်နဲ့ စူးစူးစိုက်စိုက် လုပ်ကြည့်ကြဦးဗျာ"

ဟူသော အသုံးအနှုန်းများကို "တရားစကားလုံး" ဟုဆိုကာ ယုံကြည်မည် ပဟုတ်။ သို့သော် ဆရာတော်သည် သက်တော်

ဆုံးသည်အထိ ဤစကားလုံးများကို သုံးကာသုံးကာနှင့်သာ တရားဟောသွားတော်မူပေသည်။

## သောတာပန် ထွက်ပေါက်မရအောင် ကာဆီးထားသော တံတိုင်းကြီး လေးထပ်

အရေးကောင်း ဒိန်းဒေါင်းဖျက် ဟူသော စကားပုံ ရှိ၏။

ဘုရားဖြစ်ခါနီး မာရ်နတ်က ကန့်လန့်ကန့်လန့် ဟူ၍လည်း ဆိုစမှတ်စကား ရှိ၏။

ဤစကားများသည် အကောင်းသို့ ရောက်ခါနီးချိန်တွင် အဖျက်နှင့် ကြုံတွေ့ရသောသဘောကို ထင်ရှားစေသော စကားများ ဖြစ်၏။ သောတာပန်သည် ရဟန္တာ မဟုတ်သေးသော်လည်း နိဗ္ဗာန်ကူးလက်မှတ်ကို သေချာပေါက် ရရှိထားသူ ဖြစ်သော ကြောင့် အဆိုးဘက်မှ အကောင်းဘက်သို့ ရောက်ရှိသွားတော့ မည်မှာ မြေကြီးလက်ခတ်မလွဲ ဖြစ်၏။

အကောင်းဘက်သို့ ရောက်ခါနီးလေ အဖျက်များလေလေ အဖျက်နှင့် ကြုံရတတ်လေလေ ဖြစ်နေသည်မှာ ဓမ္မတာကဲ့သို့ ဖြစ်နေ၏။ သို့ကြောင့်ပင် လူတဦးတယောက် ပုထုဇဉ်ပိုင်နက် ထဲက လွတ်မြောက်သွားမှာကို အဖျက်သမားအသိုင်းအဝိုင်းက အလွန်ကြောက်၏။

ထို့ကြောင့် ပုထုဇဉ်ပိုင်နက်တွင်းက လွတ်ထွက်မသွားနိုင် အောင် ယမ်းကုန်မီးကုန် ကြိုးစားကြကုန်သတည်း။ သောတာပန် သွားရာလမ်းကို တံတိုင်းကြီးလေးထပ် ကာဆီးကာ အစွမ်းကုန် ဟန့်တားကြကုန်သတည်း။

လောကမှ ထွက်လိုသော သောတာပန်သည် အဆိုပါ တံတိုင်းလေးထပ်ကိုလည်း ဖြတ်သန်း ကျော်လွှားနိုင်ရဦးမည် ဖြစ်ရာ ထိုတံတိုင်းကြီးများအကြောင်းကိုလည်း သိထားစရာ ကောင်းသဖြင့် ဤတွင် ယင်းတို့၏ ဖြစ်ရပ်ကို အမှတ်တရပင် ကမ္ဘည်းထိုးလိုက်ပေဦးအံ့။

ယင်းတို့၏ဖြစ်ရပ်ကို အမှတ်တရ စ၍ဆိုတော့အံ့။ တကယ်ရှိ၊ အဟုတ်ရှိသဘောကို ပရမတ်ဟု ဆိုသည်။

ထိုပရမတ်ကား အနှစ်သာရနှင့် အလားတူ၏။အနှစ်တည်း။ တကယ်မရှိ၊ အဟုတ်မရှိသဘောကို ပညတ်ဟု ဆိုသည်။ ပညတ်ကား အခွံနှင့် အလားတူ၏။ အခွံတည်း။

သစ်ပင်တို့၏သဘော၌ အနှစ်သည် အတွင်းမှာနေ၍ အခွံကား အပေါ်က နေ၏။ ယင်းနှစ်ရပ်တွင် အခွံကသာ ပေါ်လွင်၏။ ထင်ရှား၏။ အနှစ်ကား အခွံက ဖုံးထားသော ကြောင့် အတွင်း၌ မြုပ်နေ၏။ ထင်ရှားခြင်း မရှိ။

အနှစ်ကို တွေ့လို၊ မြင်လို၊ရယူလိုသော် အပေါ်က ဖုံးနေသောအခွံကို ခွာ၍ လွှာ၍ ယူရ၏။ သို့မှသာ အနှစ်ကို မြင်ရ၊ တွေ့ရ၏။ မြင်နိုင်၊တွေ့နိုင်၏။

ပရမတ်အစစ် ခေတ်အနှစ်ကို မမြင်ရအောင် ဖုံးကွယ်ထားသော ပညတ်တံတိုင်း လေးထပ် ရှိ၏။ ပညတ်တံတိုင်းကြီးကို ပေါက်အောင် ထိုးဖောက်နိုင်မှ ပရမတ်အစစ် အနှစ်ကို တွေ့ရ၏။

မျက်စိကို တိမ်သလ္လာဖုံးသည့်နှယ် လုံးလုံး မမြင်ရအောင် ဖုံးကွယ်ထားသော ပညတ်တံတိုင်းကြီး လေးထပ် ဆိုသည်ကား ဤသို့ပေတည်း။

(၁) တသားတပြင်တည်း ထင်ရမှု ထုထယ်ကြီး တထပ်။
(သမ္မုဟာဃန ပညတ်)

(၂) မပြတ် ဖြစ်နေသည်ထင်ရမှု ထုထယ်ကြီး တထပ်။
(သန္တတိဃန ပညတ်)

(၃) ကျား၊ မ၊ ပုံ စသည် ထင်ရမှု ထုထယ်ကြီး တထပ်။
(သဏ္ဍာနဃန ပညတ်)

(၄) တင့်တယ်သည် ထင်ရမှု ထုထယ်ကြီး တထပ်။
(သုဘဃန ပညတ်)

ယင်းတံတိုင်းကြီးလေးထပ်ကို ပေါက်အောင် ဖောက်နိုင်သူ၊ ပြိုအောင်ဖြိုနိုင်သူ၊ ပျက်အောင်ဖျက်နိုင်သူကိုမှ သောတာပန်ဟု ဆိုရသည်။

**(၁) ပထမ တံတိုင်းကြီး။** ။ သမ္မုဟာဃန ပညတ်ကို ရှင်းချက်။ အစိတ်စိတ် အမွှာမွှာ တခုစီ တခုစီ၊ တသန့်စီ တသန့်စီ၊ တကန့်စီ တကန့်စီ သူ့အကန့်နှင့်သူ သီးခြားတည်သော အရာဝတ္ထုများကို စုစည်း၍ တပေါင်းတည်း ဖြစ်အောင် ပြုလိုက်သောအခါ ဝတ္ထုပစ္စည်းတမျိုး ဖြစ်လာလေသည်။ဤသို့ ဖြစ်လာသည်နှင့်အမျှ မူလရှိရင်းစွဲ အမည်နာမများကို ကျော်လွှားကာ သူတို့က အမည်သစ်များ ခေါ်တွင် ပညတ်လိုက်ကြကုန်၏။ ထိုအခါ မူလရှိရင်းစွဲ ပစ္စည်းနှင့်တကွ မူလအမည်ရင်းပါ ပျောက်အောင် နောက်မှပေါ်လာသော ရှေ့ကြောပင်အမည်က လွှမ်းမိုးပင်လိုက်၏။ ထိုအခါ တကယ်ရှိ၊ အဟုတ်ရှိ ပစ္စည်းများ လုံးလုံးပျောက်ပြီး အမည်သစ်သာလျှင်

တွင်ကျယ်လေတော့၏။အမည်ဟောင်း ပျောက်အောင် အမည်သစ် ပညတ်က ဖျောက်ပစ်လိုက်၏။ ရှိရင်းစွဲ ပရမတ်အစစ်ခတ်အနှစ်သည် လူတို့က သမုတ်ထားသော ပညတ်အောက်တွင် ပျောက်ရလေတော့၏။

ဥပမာအားဖြင့် ထင်ရှားပြရသော် လူတို့သည် သံကိုသံဟူ၍ပင် ခေါ်ကြ၏။ တိုင်ကိုလည်း တိုင်၊ ပျဉ်ကိုလည်း ပျဉ်၊ သွတ်ကိုလည်း သွတ်ဟူ၍ပင် ခေါ်ကြ၏။ သွတ်၊ သံ၊ ပျဉ်၊ တိုင်တို့သည် မူလရှိရင်းစွဲ ပရမတ်များ ဖြစ်ကုန်သတည်း။ယင်းတို့ကိုစုပေါင်းလျက် မြေတွင် စိုက်တန်သည်ကို စိုက်၊ သံဖြင့် ရိုက်တန်သည်ကို ရိုက်၊ မိုး၊ လေ၊ နေ လုံအောင် ကာသင့်သည်ကို ကာ၍မိုးသင့်သည်ကို မိုးလိုက်သောအခါ အဆောက်အအုံတခုဖြစ်လာလေသည်။ သံ၊ သွတ်၊ တုံး၊ တိုင်၊ ပျဉ် စသည်တို့ကိုစုပေါင်းစပ်နှော၍ ရောလိုက်သောအခါ တသားတည်း၊တပြင်တည်း ဖြစ်လာပြီး ၎င်းကို သံဟူ၍လည်း မခေါ်တော့ကုန်။ သွတ်၊ ပျဉ်၊ တုံး၊ တိုင် ဟူ၍လည်း မခေါ်ကြတော့ဘဲ အမည်သစ်ဖြင့် ကင်မွန်းတပ်လိုက်ကြကုန်၏။ အိမ်ဟူ၍၎င်း၊ ကျောင်းဟူ၍၎င်း၊တန်ဆောင်းဟူ၍၎င်း ပညတ်၍ ခေါ်တွင်ကြကုန်၏။

ထိုအခါ ထို အိမ်၊ကျောင်း၊ဇရပ် စသော အဆောက်အအုံများကို တကယ့် အမာခံအစစ် အနှစ်ဖြစ်သည့် သံဟူ၍ပြောလျှင် နားမလည်ကြတော့ကုန်။သွတ်ဘဲ၊တိုင်ဘဲ၊ပျဉ်ဘဲဟူ၍ပြောလျှင် သဘောမပေါက်ကြတော့ကုန်။ အိမ်၊ ကျောင်း၊ တန်ဆောင်း၊ ပြသာဒ်၊ ဇရပ် စသော (ပညတ်)အမည်များက

ဖုံးသဖြင့် သံ စသော ပရမတ်များမှာ လုံးလုံး ပျောက်ကွယ်ကုန်လေ၏။ အိမ်၊ ကျောင်း၊ တန်ဆောင်းပြောမှ နားလည်ကြကုန်၏။ပညတ်အောက်တွင် ပရမတ် ပျောက်ရလေ၏။

နောက် တနည်းအားဖြင့် ဥပမာ - အင်္ကျီဆိုပါတော့၊ ထိုအင်္ကျီကို "ချည်"ဟူ၍ပြောလျှင် ရူးသလားဟု ဆိုပေလိမ့်မည်။ စင်စစ်အားဖြင့်ကား တချောင်းစီ၊တမျှင်စီ အသီးသီး ရှိနေကြသည့် ချည်မျှင်ချည်ချောင်းကလေးများ စုပေါင်း၍ ရက်လုပ်လျက် ချုပ်စပ်ထားသော အထည်သာ ဖြစ်ချေ၏။

တသားတည်း၊ တပြင်တည်း ဖြစ်အောင် ရက်လုပ်ခြင်းအားဖြင့် အထည်ဟူ၍ ဖြစ်လာသောအခါ နောက်ပေါ်ရွေကြာပင် အမည်သစ် အင်္ကျီဟူသော ပညတ်အောက်တွင် မူလဓာတ်နှစ် ချည်မျှင်ဟူသော ပရမတ်သည် ပျောက်ရလေ၏။

= သမူဟ + အပေါင်း

= ဃန + တခဲနက်၊ အထုအထယ်ကြီး၊ အစိုင်အခဲကြီး။

= ပညတ် + သမုတ်ခေါ်ဝေါ်ခြင်း။

အများကို စုပေါင်း ဖွဲ့စပ်ခြင်းအားဖြင့် ထုနှင့်ထယ်နှင့် အရာဝတ္ထု တမျိုးမျိုး အဆောက်အအုံ တမျိုးမျိုး အဖြစ်သို့ ရောက်ရှိလာသောအခါ အမည်ဟောင်းပျောက်၍ အမည်သစ်ရောက်လာပြီး ထိုအမည်သစ်ကိုသာ နားလည်ကြကုန်၏။ပညတ်က ဖုံးလွှမ်းထားသောကြောင့် ပရမတ် အစစ်ကို မမြင်ကြရတော့ကုန်။ပညတ်အောက်တွင် ပရမတ် ပျောက်နေတော့၏။

ဤသည်ကို အဘိဓမ္မာစကားဖြင့် "**သမူဟဃန**" ခေါ်၏။ မြန်မာလိုဆိုသော် တကွဲပရမတ်အစစ် ဓာတ်အနှစ်ကို မမြင်ရအောင် ပညတ်ထုထယ်ကြီးဟု ဆိုရာရောက်၏။ အတွင်းသား၊ အတွင်းလွှာကို မမြင်ရအောင် ကားဆီးထားသော ပထမ တံတိုင်းကြီး ဖြစ်၏။

သောတာပန် ပုဂ္ဂိုလ်ကား တံတိုင်းအထပ်ထပ် မည်သို့ပင် ကာရံထားအပ်စေကာမူ အတွင်းရောက်အောင် ဉာဏ်ဖြင့် ထိုးဖောက်၍ မြင်၏။ အိမ်၊ ကျောင်းဟူသည် ပညတ်၊ သတ္တ၊ သံ၊ ပျဉ် စသည်တို့ကား ပရမတ်ဟူ၍ ခွဲခွဲခြားခြား နားလည်၏။

ဤပထမတံတိုင်း (သမူဟဃန) ခေါ်သော ပထမခံတပ်ကြီး ပြိုအောင် ဖြိုသောကိစ္စတွင် အပြောလွယ်သလောက် လက်တွေ့ အလုပ် လုပ်ကြည့်သောအခါ သဘောပေါက်ဘို့ မလွယ်လှ။ လက်တွေ့ အလုပ် လုပ်သောအခါ စာသိ သိရုံမျှဖြင့် မရ။ ငါ မဟုတ်၊ ငါ့မယား မဟုတ်၊ ငါ့လင် မဟုတ်၊ ဓာတ်လေးပါး သာ ဖြစ်သည်။ ခန္ဓာငါးပါးကို စုစည်း ပေါင်းစပ်ထားသည်။ ရုပ်ဒြပ်သာ ဖြစ်သည်ဟူ၍ နှုတ်လုံးသိဖြင့် မသိသေးသမျှ "သမူဟ ဃနဖုံးနေတုန်း" ဟု လုံးလုံးမှတ်ရာ၏။ ပါရမီရှိ၍ အသိဉာဏ် စူးရှလျှင်မူကား သမူဟဃနကွာ၍ သောတာပန်လေတော့ မည်တည်း။

(၂) **ဒုတိယ တံတိုင်းကြီး**။ ။ သန္တတိဃန ပညတ်ရှင်းချက်- ဆိုလည်သောနွား၊ ရဟတ်ခြားကဲ့သို့ မရပ်မနား၊ တလစပ် ဆက်တိုက်ဖြစ်နေသော သဘောမျိုးကို သန္တတိဟု ခေါ်သည်။

ထိုအစဉ်မပြတ် ဆက်တိုက်ဖြစ်မှု အထုအထယ်ကြီး၊ အစိုင်အခဲကြီး ဖြစ်နေသည်ကို သန္တတိဃနဟု ခေါ်သည်။

ဥပမာ-ယင်းသန္တတိဃန၏ သဘောသဘာဝတ္တကို တသွင်သွင်စီးနေသော ရေရှင်ကို ကြည့်ခြင်းအားဖြင့် သိနိုင်ပေသည်။ မျက်စိရှေ့တွင် တသွင်သွင် စီးနေသောရေကို ကြည့်ခြင်းအားဖြင့် သိနိုင်ပေသည်။ မျက်စိရှေ့တွင် တသွင်သွင်စီးနေသောရေကို ကြည့်လျှင် အခြားရေ စီးသည် မဟုတ်၊ သည်ရေ သည်ရေများသာ စီးနေသည်ဟု ထင်ရ၏။ အသစ်အသစ်ဖြစ်သော ရေများ စီးနေတာပါကလားဟူ၍ မသိလေ၊ မထင်လေ။ မျက်စိအောက်က စီးသွားသောရေသည် နောက်ထပ် ဤနေရာသို့ ပြန်လာပြီး စီးခြင်း မဟုတ်၊ အသစ်အသစ်ဖြစ်သော ရေများသာ တသွင်သွင် အလျဉ်မပြတ်စီးနေခြင်း ဖြစ်၏။ ဟုတ် မဟုတ် လက်တွေ့ စမ်းသပ်လိုသော် မိမိ မျက်စိရှေ့တွင် စီးနေသောရေထဲသို့ စက္ကူစုတ်ကလေးတခု ချကြည့်ပါ။ ထိုစက္ကူသည် အောက်သို့ မျောရှ်ပါသွားလေ၏။ အထက်သို့ ပြန်၍ ပြန်လာခြင်း ရှိမရှိကို သတိပြုပါ။ ဤရေမျောစက္ကူစုတ်ကလေးကို ကြည့်ခြင်းအားဖြင့် မျက်စိရှေ့တွင် တသွင်သွင် စီးနေသော ရေဟာ "သည်ရေလား၊ ဟိုရေလား" ဆိုသည်ကို ခွဲခွဲခြားခြား သိနိုင်ပေသည်။

သင္ခေါ်သင်္ခါရာ အနိစ္စာ ဆိုသောအတိုင်း အရာခပ်သိမ်းတို့သည် မြဲသည်ဟူ၍ မရှိကုန်။ အမြဲမပြတ် တလစပ် ပြောင်းလဲနေကြ၏။ အပြောင်းအလဲ မြန်ဆန်လွန်းလှသောကြောင့် အကြားမထင်သဖြင့် တဆက်တည်းကဲ့သို့ မြင်နေကြကုန်၏။

ဥပမာ- မိမိကိုယ်ကို ဆင်ခြင် ကြည့်ခြင်းအားဖြင့်လည်း သန္တ-တိသဘောကို သိနိုင်၏။ ယနေ့ ငါသည် ယနေ့ ငါသာတည်း။ ငါသစ်တည်း။ ငယ်ငယ်တုန်း ငါ မဟုတ်ချေ။ ငယ်ငယ်က ငါကား ဟို ငယ်ငယ်တုန်း ကတည်းကပင် နေရစ်ခဲ့လေပြီ။ ချုပ်ဆုံး ကွယ်ပျောက်ခဲ့လေပြီ။ ယနေ့ငါသည် ငါဟောင်း ဖြစ်လတံ့။ သတ္တဝါခပ်သိမ်းတို့၏ နာမ်ရုပ်တို့သည် အချိန်တိုင်း အချိန်တိုင်း သစ်သီးကြွေသကဲ့သို့ တဖုတ်ဖုတ် ချုပ်ကြွေကုန်၏။ ချုပ်လေ၊ ကြွေလေပြီးသော နာမ်ဟောင်း၊ ရုပ်ဟောင်းတို့၏ နေရာတွင် နာမ်သစ်၊ ရုပ်သစ်များ တဖွားဖွားရောက်လာကြသည်တို့ကား သတိမထားမိကြ။

အကယ်၍သာ သည်နာမ်၊ သည်ရုပ်သည် ချုပ်ပျောက်ခြင်း မရှိ၊ အမြဲသာတည်နေခဲ့သော် မိမိသည်၎င်း၊ အခြားသူများသည် ၎င်း၊ လူငယ်ကလေးတွေသာ ဖြစ်နေကြပေမည်။ လူကြီး ဖြစ်လာနိုင်ဘွယ် မရှိ။ ရုပ်တို့၏ ဥပါဒ်- ဌီ- ဘင် စသောသဘောကို မသိကြသဖြင့် ငယ်ငယ်က ငါကို ယခု ငါဟု ထင်နေကြ၏။ စင်စစ်အားဖြင့် စက္ကန့်ပိုင်းနှင့်အမျှ ငါငါ ငါငါတွေလည်း အမြဲပြောင်းလဲနေကြ၏။ သန္တတိဃနခေါ်သော မပြတ်တလစပ် ဖြစ်နေသမျှ ထုထယ်၊ အစိုင်အခဲကြီးကြောင့် ကိုယ့်ကိုယ်ကို တနေ့ထက်တနေ့၊ တလထက်တလ၊ တနှစ်ထက်တနှစ်၊ စက္ကန့်ပိုင်းနှင့်အမျှ ပြောင်းလဲနေသည်ကိုကား မသိကြ။ သန္တတိဃနပညတ် အောက်တွင် ပရမတ်ဖြစ်သော အနိစ္စ-သဘောသည် ပျောက်နေတော့၏။

ဗုဒ္ဓသမိုင်းကြောင်းကို ကြည့်ပြန်လျှင်လည်း သုမေဓာရသေ့ ဘဝမှသည် နောက်ဆုံးဘုရားအဖြစ်သို့ ရောက်တော်မူသည့်ဘဝ

အတွင်း ကြားကာလများ၌ လူဖြစ်လိုက်၊ နတ်ဖြစ်လိုက်၊ ပြဟ္မာဖြစ်လိုက်၊ တိရစ္ဆာန်ဖြစ်လိုက်နှင့် ဘဝပေါင်းများစွာ သံသရာတခွင် ကျင်လည်တော်မူလာခဲ့ရငြားသော်လည်း တဆက်တည်းဟု ထင်ကုန်၏။ သုမေဓာသည်လည်း ဘုရားပင်၊ မဟောသဓာသည်လည်း ဘုရားပင်၊ ဝေဿန္တရာမင်းကြီးသည်လည်း ဘုရားပင် မြင်ကုန်၏။ သန္တတိ ကွင်းဆက်ကြီးကိုကား မမြင်ကြ။ မမြင်သည်မှာလည်း အဆန်းမဟုတ်၊ ဆက်တိုက်ဖြစ်၊ တလစပ်ဖြစ်၊မပြတ်ဖြစ်တည်းဟူသော သန္တတိဃန ထုထယ်အစိုင်အခဲကြီးက ဖုံးထားသောကြောင့် လုံးလုံးမမြင်နိုင်အောင် ဖြစ်နေ၏။

ပါရမီဆိုသည်မှာ ဘုရားရဟန္တာများမှ တပါး သိနိုင်၊ မြင်နိုင်ခဲသောအရာ ဖြစ်၏။ ထို့ကြောင့် ယနေ့ခေတ်တွင်လည်း သောတာပန်ဖြစ်နိုင်သော ပါရမီရှင်များ မရှိဟု မည်သူပြောနိုင်မည်နည်း။ ဤသန္တတိဃန ပညတ်ကြီးသည် အဘယ်မျှ အင်အားကြီးထွားသည် ဆိုစေကာမူလည်း တောင်ကြီးလျှင် ဖဝါးအောက် ဆိုသကဲ့သို့ သောတာပန်ဖြစ်ရန် အလားအလာ ရှိသူများအဘို့တွင်ကား ထိုသန္တတိဃန ခေါ်သော မဟာရံတံတိုင်းကြီးများ အရာရောက်တော့မည် မဟုတ်။ ပါရမီရှင် သောတာပန်ဖြိုလျှင် သံတောင်ကြီး ပြိုသကဲ့သို့ ပြိုရမည်သာ ဖြစ်သတည်း။

(၃) **တတိယတံတိုင်းကြီး။** ။သဏ္ဌာနဃန ပညတ်ရှင်းချက်- သဏ္ဌာန်ကား ထင်ရှား၏၊ ပေါ်လွင်လှ၏။ နိမ့်နိမ့်၊ မြင့်မြင့်၊ ပုပုကွကွ၊ ထိုးထိုးထောင်ထောင်၊ ပြားပြားချပ်ချပ်၊

ချွန်ချွန်ထက်ထက် ဟူသမျှသည် သဏ္ဌာန်ချည်း ဖြစ်၏။ သည်ဟာက လုံးလုံး၊ သည်ဟာက ပြားချပ်ချပ် စသည်ဖြင့် သမုတ်ခြင်းကို သဏ္ဌာနပညတ် ဟု ခေါ်သည်။ သည်ဟာက ယောကျ်ား၊ သည်ဟာက မိန်းမ၊ သည်ဟာက သား၊ သည်ဟာက သမီး၊ ဟောဒါကို ကျောင်း၊ ဟောဒါကို အိမ် ဤသို့စသည်ဖြင့် ဒြပ်ဝတ္ထု တခုခုကို သင်္ကေတပြု၍ ခေါ်ဝေါ်သမုတ်ခြင်းကိုလည်း သဏ္ဌာနပညတ် ဟူ၍ပင် ခေါ်သည်။

သဏ္ဌာနပညတ်လည်း အလွန်နယ်ကျယ်၏။ သမုဟာဃနဖြင့် ပြဆိုခဲ့သော ချည်မျှင်အပေါင်းတို့ကို ယက်ကန်း ရက်လိုက်သော် ချည်မျှင်ဟူသောအမည် ပျောက်ပြီး အထည်အလိပ် ဟူသော သဏ္ဌာန်ပညတ်အမည်သို့ ရောက်ရှိသွားလေ၏။ တဖန် ယင်း အထည်အလိပ်ကို ချုပ်လိုက်သောအခါ ပုံသဏ္ဌာန်ကို အစွဲပြု၍ အချို့မှာ အင်္ကျီ ဖြစ်လာ၏။ အချို့မှာ ပုဆိုး ဖြစ်လာ၏။ အချို့မှာ ခေါင်းအုံး၊ မွေ့ရာ ဖြစ်လာလေသည်။ စင်စစ် အမှန်ရှိသည့် အနှစ်သာရကား ပရမတ် ချည်မျှင်သာ ဖြစ်၏။ ယင်းချည်ပရမတ်ကို သဏ္ဌာနပညတ်က လွှမ်းဖုံးချက်အရ ပရမတ် ခတ်သား ချည်မျှင်ပျောက်ပြီး သဏ္ဌာနပညတ်၏ တန်ခိုးကြောင့် အင်္ကျီတွေ၊ ပုဆိုးတွေ၊ မွေ့ရာ၊ ခေါင်းအုံးတွေ ဖြစ်လာကုန်လေ၏။

သစ်သားတွေ၊ဓားတွေ၊ သံချွန်တွေ၊ဒုတ်တွေ၊ ကျောက်တွေ လည်း သဏ္ဌာနပညတ်၏ စွမ်းဆောင်ချက်အောက်တွင် အိမ် အဖြစ်၊ ကျောင်းအဖြစ်၊ တန်ဆောင်းအဖြစ်၊ တိုက်အဖြစ်သို့

ရောက်ရလေ၏။ ဒဗ္ဗဝါစကံနာမံ-အမည်သည် ဒြပ်ကို ဟော၏ ဟု သဒ္ဒါကျမ်းက ဆိုသည်ဖြစ်ရာ ယင်းအမည်ဟူသည်ကား ပညတ်ပင်တည်း။ ခြေလေးချောင်းသွားသော တိရစ္ဆာန်ချင်း တူပါလျက် အချို့ကို နွား၊အချို့ကို ကျွဲ၊အချို့ ဆင်၊ အချို့ မြင်းဟု ပညတ်ကုန်၏။ ပညတ်ချက်အတိုင်းလည်း ဒါက နွားဘဲ၊ဒါက ကျွဲဘဲ ဟူ၍ အမှတ်ပြု၍ သိကြကုန်၏။သဏ္ဍာန ပညတ်၏ စွမ်းအားပင်တည်း။ တကယ်ရှိ အဟုတ်ရှိနေသော ပရမတ်ဓာတ်သားစု အားလုံးတို့သည် လူတို့၏ သတ်မှတ်ချက် ပညတ်အောက်တွင် အရောင်မတောက်နိုင်ကြတော့ဘဲ ပျောက် ကုန်လေ၏။

စင်စစ်ဆိုသော် လူသည် ပညတ်ဖြစ်၏။ လူတို့သမုတ်ထား သော အမည်နာမတခုသာ ဖြစ်၏။ လူဟူသော ပညတ်ကြီးကို ခွာတ်ခွဲ၍ ခွဲတမ်းချလိုက်သောအခါ ဆံပင်၊မွေးညှင်း၊ အသွေး၊ အသား၊ အကြော၊ အရိုးတွေ ထွက်လာကုန်၏။ဤ အသွေး၊ အသား စသည်တို့သာလျှင် တကယ်ရှိ၊အဟုတ်ရှိသော ပရမတ် စစ်စစ် ဖြစ်ကုန်၏။ သို့သော် လူဟူသော သဏ္ဍာနပညတ် အောက်တွင် ပရမတ် အသွေး၊အသားတွေ ပျောက်ကုန်လေ၏။ ၃၂ ကောဋ္ဌာသ အစုအဝေးဆိုလျှင် မသိ၊ လူဆိုမှ သိကုန် သတည်း။

ထိုမှတပါး ဥပမာ၊ လူတယောက် ပေတိုင်းကြည့်ရာ ၅ ပေနှင့် ၆ လက်မ ရှိ၏။ ထိုလူကို အရပ်အမောင်းအားဖြင့်

၅ ပေ၊ ၆ လက်မရှိသူဟု သမုတ်ကုန်၏။ တကာယ်ရှိသည်ကား ထိုသူ၌ ခွာတ် ၄ ပါး အစုအဝေးသာ ရှိသတည်း။

သို့သော် ၅ ပေ ၆ လက်မ တည်းဟူသော ပုံပန်းသဏ္ဍာန် သဏ္ဍာနဃနပညတ်အောက်တွင် တကာယ်ရှိနေသော ဓာတ်လေးပါး အစုအဝေးကြီး ပျောက်ရလေ၏။ သဏ္ဍာန်ပညတ် ဖုံးသောကြောင့် ပရမတ်အစစ်ကို မမြင်နိုင်တော့ချေ။ သဏ္ဍာနပညတ် တံတိုင်းကြီးပေါ် ကျော်လွှား၍ အတွင်းသား ပရမတ်ကို မြင်အောင် မကြည့်ကြတော့ကုန်။ ဆူ၊ ကြုံ၊ နိမ့်၊ မြင့်၊ ပိန်၊ ဖောင်း စသည်တို့၌လည်း ဤနည်းအတိုင်းပင်တည်း။ သဏ္ဍာနပညတ်၏ သတ္တိကြောင့် ပရမတ် ဓာတ်နှစ်ကိုပင် ပိန်သည် ထင်ကုန်၊ ငသည် ထင်ကုန်၏။ ချောသည် ထင်ကုန်၏။ အရုပ်ဆိုးသည် ထင်ကုန်၏။ ဤပညတ်ကို ကွာအောင် မခွာနိုင်သမျှ၊ ဤ ပညတ်တံတိုင်းကြီးကို ပေါက်အောင် မဖောက်နိုင်သမျှ၊ ပြိုအောင် မဖြိုနိုင်သမျှ သောတာပန်အဖြစ်ကို မှန်းသော်လည်း မှန်းရာ ရောက်နိုင်ဦးမည် မဟုတ်။

(၄) **သုဘဃန ပညတ်။** ။မျက်စိထဲ ကြည့်၍လှသော သဘော၊ ကြည့်ကောင်းသောသဘောကို "သုဘ" ဟု ဆိုသည်။ တင့်တယ်မှုဟူသမျှသည် သုဘချည်းပင်တည်း။ ဃန-သဒ္ဒါမှ အထုအထယ်ကြီး၊ တခဲနက် အစိုင်အခဲကြီး ဟူသော အနက် ထွက်သည်ဖြစ်ရာ သုဘနှင့် ဃနကို ပေါင်းစပ်၍ သုဘဃန ဟူ၍ ဖြစ်လာသောအခါ "တင့်တယ်မှု အထုအထယ်ကြီး၊တင့်တယ်မှု

အစိုင်အခဲကြီး” ဟူ၍ ဖြစ်လာ၏။ ဘယ်ဟာကိုဘဲ ကြည့်ကြည့် မျက်စိထဲမှာ၊ စိတ်ထဲမှာ၊ နှလုံးသားထဲမှာ တယ်လဲ တင့်တယ်ပါလားဟူ၍ စွဲထင်လေသမျှသည် သုဘဈာန်ကြောင့် ချည်းသာ ဖြစ်၏။ သုဘဈာန်က တင့်တယ်သည်ဟု ထင်၊ မြတ်နိုး စရာကောင်းသည်ဟု ထင်၊ နှစ်သက်စရာကောင်းသည်ဟု ထင် စသည်ဖြင့် အထင်ခိုင်းချက်အရ အထင်မှား၊ အမြင်မှားနေကြ ခြင်း ဖြစ်၏။

အရာခပ်သိမ်းတို့သည် ဓာတ်လေးပါး၏ အစုအဝေးချည်း သာ ဖြစ်ကုန်သော်လည်း ဥပမာ၊ ယောကျ်ားက မိန်းကလေး တယောက်ကို မြင်သောအခါ၌ လည်းကောင်း၊ မိန်းမက ယောကျ်ားကို မြင်သောအခါ၌ လည်းကောင်း သုဘဈာန်၏ လှုံ့ဆော်ချက်ကြောင့် “တယ်ချောပါကလား၊ တယ်လပါ ကလား” ဟူ၍ မျက်လုံးထဲက မထွက်အောင် ဖြစ်ကုန်လေ၏။ သုဘဈာန်၏ လွှမ်းမိုးခြင်းအောက်တွင် အရိုးစု၊ အကြောစု၊ သွေးသားစု စသော တကယ့် ဓာတ်နှစ် ၃၂ ကောဋ္ဌာသ စသော ပရမတ်အစစ်တို့သည် ပျောက်ကုန်ရလေ၏။

အချုပ်အားဖြင့် သောတာပန်ဟူသည် သက္ကာယဒိဋ္ဌိ အကြွင်းမဲ့ ကင်းရှင်းပြီးသူ ဖြစ်၏။ ယင်းသက္ကာယဒိဋ္ဌိမှ ကွာထွက် မသွားနိုင်အောင် ဆိုခဲ့ပြီးသော အထုအထယ်ကြီး၊ အစိုင်အခဲကြီး လေးမျိုး တည်းဟူသော သမူဟဃန၊ သန္တတိဃန၊ သဏ္ဌာနဃန၊ သုဘဃနများက တွယ်ယှက်၊ ဖက်ပိုက်ထား၏။ သောတာပန်

ကား ဃနခေါ်သော ဤအထုအထယ်၊ အစိုင်အခဲကြီးများကို မှုံ့မှုံ့ညက်ကြေပျက်အောင် ချေဖျက်ပြီးသူ လူစွမ်းကောင်းကြီး စစ်စစ် ဖြစ်ရသတည်း။

## ပက္ကုသာတိ ရဟန်းအား ဗုဒ္ဓဟောကြားတော်မူသော ဓာတ်ခြောက်ပါး ဝေဖန်သုံးသပ်ချက် တရားတော်

သောတာပန် ဖြစ်ရန် ကျင့်ကြံ အားထုတ်နေကြသော ယောဂီပုဂ္ဂိုလ်များအဖို့ ဗုဒ္ဓခေတ်၌ အကယ်ဖြစ်ခဲ့သော သောတာပန်ဇာတ် ဤဖြစ်ရပ်ကိုလည်း သတိချပ်သင့်သည်ထင်၍ တင်ပြပါဦးအံ့။

သူ၏အမည်ကို ပက္ကုသာတိ ဟု ခေါ်တွင်၏။ သူကား သာမန် အညတရလူတန်းစားထဲက မဟုတ်။ သူသည် ပြည့်ရှင်မင်းကြီး ဖြစ်၏။ တက္ကသိုလ်ပြည်ကို အစိုးရ၏။ ပက္ကုသာတိမင်းကြီး ဟူ၍ ထင်ရှားသတည်း။

တနေ့သ၌ ပက္ကုသာတိမင်းကြီးသည် ဗုဒ္ဓ ပွင့်ထွန်းလျက် ရှိနေကြောင်း သတင်းကောင်းကို ကြားလျှင် ထီးနန်းကို စွန့်၍ ဗုဒ္ဓကို ရှယ်စူးလျက် ရဟန်းပြုလေ၏။

ဗုဒ္ဓသည် နိဗ္ဗာန်အောင်မြို့သို့ မဂ္ဂင်ဖောင်ကူတို့ဖြင့် ပို့ဆောင် နေတော်မူလျက် ရှိနေကြောင်းကိုလည်း ထပ်ဆင့်ကြားရာတွင် သောတာပန်သံ၊ သကဒါဂါမ်သံ၊ အနာဂါမ်သံ၊ ရဟန္တာသံ၊ နိဗ္ဗာန်သံများလည်း ပါလာလေရာ ထိုအခါ သူသည်

သောတာပန်မှအစ ရဟန္တာဖြစ်ချင်သည်အထိ စိတ်ထက်သန်လာသည့်အလျောက် ဗုဒ္ဓရှိရာသို့ ဦးတည်လျက် တက္ကသိုလ်ပြည်မှ ထွက်ခွာလာခဲ့လေသည်။

## အိုးထိန်းသည် အိမ်သို့ ရောက်သွားခြင်း

လမ်းခရီးအကြားရှိ ရွာတရွာသို့ ရောက်သွား၏။ အိမ်တအိမ်တွင် ဝင်၍ ခေတ္တတည်းခိုနေ၏။ အိမ်ရှင်ကား ဘဂ္ဂဝ ဟု တွင်၏။ အိုး လုပ်စားသူ ဖြစ်၏။ သူ့ အိမ်ခြံဝင်းကြီးထဲတွင် ရဟန်းသည့်သည်၊ လူသည့်သည်များ တည်းခိုနိုင်ရန် ရိပ်သာတခု ဆောက်လုပ်ထားရာ ရှင်ဘုရင်လူထွက် ပက္ကုသာတိ ရဟန်းကြီးသည် အိုးထိန်းသည်ဘဂ္ဂဝ၏ ဓမ္မသာယာခေါ် ရိပ်သာ၌တည်းခိုနေသည့် အခိုက်တွင် နောက်ထပ် ရဟန်းတပါး ဆိုက်ရောက်ပြန်၏။ ထိုရဟန်းကား အခြားမဟုတ်၊ ဗုဒ္ဓရှင်တော်မြတ်ဘုရားကြီး ဖြစ်သတည်း။

ဘဂ္ဂဝ၊ သင့်မှာ ဝန်မလေးခဲ့သော် သင့်အိမ်မှာ တညတည်းခိုပါရစေဟု အိမ်ရှင်ထံ သည့်သည်က ပန်ကြားသည့် သဘောမျိုးဖြင့် ဗုဒ္ဓက ဆို၏။ ဘဂ္ဂဝက လက်အုပ်ချီလျက် တပည့်တော်အဖို့ ဝန်မလေးပါ။ သို့သော် တပည့်တော်အိမ်တွင် ရဟန်းကြီးတပါး ရောက်နှင့်လျက် ရှိနေပါ၏။ ထိုရဟန်းကြီးအား တည်းခိုခွင့် ပြုထားပါသဖြင့် သူ့ထံမှ ကျေနပ်မှု ရရှိပါက အလိုရှိသလို တည်းခိုနိုင်ပါကြောင်း ယခု အခိုက်အတန့် အချိန်တွင် ဓမ္မသာယာရိပ်သာကို ထိုရဟန်းကြီးကသာ စိုးပိုင်သဖြင့် သူနှင့် ဆွေးနွေးတော်မူပါဟု လျှောက်၏။

## ဘုရားနှင့်တွေ့သော်လည်း ဘုရားမှန်း မသိခြင်း

ဗုဒ္ဓသည် အိမ်ရှင်ဘဂ္ဂဝထံမှ ခွင့်ရလျှင် ရိပ်သာတွင်းသို့ ဝင်တော်မူ၏။ ရှင်ဘုရင်လူထွက် ပုက္ကုသာတိ ရဟန်းကြီးကား ဗုဒ္ဓထက် အသက်ကြီးလေသည်။ သူ၏ ခန်းတွင်းရိပ်သာသို့ အမှတ်မထင် ဝင်ရောက်လာသော ဗုဒ္ဓကို ရုတ်တရက်မြင်လိုက်ရသော် အံ့အားသင့်သွားလေသည်။

"ရဟန်းကြီး၊ သင့်အား ဝန်မလေးခဲ့သော် ဤအခန်း၌ ငါ တည၌မျှ တည်းခိုပါရစေ"

ဗုဒ္ဓက သာယာလှစွာသော အသံတော်ဖြင့် ခွင့်တောင်းလေသော် ပက္ကုသသည် ဗုဒ္ဓ၏ အသရေတော်ကို တအံ့တသြ ကြည့်ပြီးမှ "တည်းခိုနိုင်ပါ၏ ငါ့ရှင်။ ဤအခန်းကြီးကား ကျယ်ဘိစွ၊ နေလောက်ပါသည်" ဟု ဆိုလျှင်-

ဗုဒ္ဓသည် ဖျာတချပ်ကို ကိုယ်တိုင်ခင်းပြီးလျှင် ယင်းဖျာထက်၌ ထက်ဝယ်ဖွဲ့ခွေထိုင်နေ၏။ ပက္ကုသလည်း ဗုဒ္ဓကဲ့သို့ပင် ဖျာတချပ် ပေါ်တွင် တင်ပလ္လင်ခွေလျက် တခန်းတည်းတွင် နှစ်ပါးအတူ နေကြ၏။

ဤရိပ်သာ၌ ရဟန်းနှစ်ပါး ဆုံမိကြခြင်းကား ဆန်းလှ၏။ ဗုဒ္ဓသည် ဤရိပ်သာသို့ ပက္ကုသအတွက် ကြွရောက်လာခြင်း ဖြစ်ပြီး ဗုဒ္ဓအနေအားဖြင့် ပက္ကုသကို သိတော်မူ၏။ ပက္ကုသ သည်လည်း ဗုဒ္ဓထံ လာခဲ့ခြင်းဖြစ်ပြီး ဤရိပ်သာတွင် ဗုဒ္ဓနှင့် ဆုံမိပါလျက်လည်း သူကား ဗုဒ္ဓမှန်း မသိ၊ သာမန်ရဟန်းတပါး ဟူ၍သာ အမှတ်ပြုပေ၏။

အချိန်မှာ ညဉ့်သန်းခေါင်ပင် ကျော်လောက်ပြီဖြစ်သော်လည်း နှစ်ပါးစလုံး ကျိန်းစက်ခြင်းမပြု။ တင်ပလ္လင်ခွေလျက်သား ထိုင်နေရက်က တချက်တချက်တွင် မသိမသာလှမ်း၍ လှမ်း၍ ကြည့်မိကြ၏။ ဗုဒ္ဓအနေအားဖြင့် အထူးအထွေ တွေးဆခြင်း မပြုသော်လည်း ပက္ကုသကား ဗုဒ္ဓကို အကဲခတ်ကာခက်ကာ အတွေးမှာလည်း ရောက်ရက်ခတ်လျက် ရှိနေ၏။ "တော်တော့်ကို ဣန္ဒြေသိက္ခာတော် ရှိလှပါကလား" ဤမျှလောက်ကိုတော့ သူ့ဦးနှောက်ထဲ ရောက်နေ၏။

## ဘုရားက ပက္ကုသာတိ ရဟန်းကြီးကို သင့်ဆရာ ဘယ်သူလဲဟု မေးခြင်း

"အသင်ရဟန်း၊ မည်သည့်ပုဂ္ဂိုလ်ကို ရည်စူး၍ သင် ရဟန်းပြုသနည်း"

သင့်ဆရာကား မည်သူနည်း။ မည်သူ၏တရားကို သင်နှစ်သက်ပါသနည်း"

ဤမေးခွန်းကား ပက္ကုသကို ဗုဒ္ဓက မေးသောမေးခွန်းဖြစ်၏။ ဤသို့ မေးခြင်းကား မသိ၍မေးခြင်း မဟုတ်ပေ။ ပက္ကုသ မည်သူဖြစ်ကြောင်းကို ဗုဒ္ဓအနေဖြင့် ကောင်းစွာ သိတော်မူပြီး ဖြစ်၏။ သို့ပါလျက် ဤသို့ မေးမြန်းခြင်းပြုတော်မူပါမှ တရားသဘော ပေါက်လွယ်မှု အလားအလာကို မြင်တော်မူသောကြောင့် တမင်တကာမေးတော်မူခြင်း ဖြစ်သတည်း။

(ပက္ကုသ) "ငါ့ရှင်၊ ငါကား သကျပုတ္တ သာကီနွယ်ဘွားဂေါတမဘုရား ဟူသည် ထင်ရှားပွင့်တော်မူလျက် ရှိ၏။ ထိုဗုဒ္ဓကို

ရည်စူး၍ ငါ ရဟန်းပြုလိုခြင်း ဖြစ်ပါ၏။ ငါ၏ဆရာကား တရားခပ်သိမ်းကို ကိုယ်ပိုင် ဉာဏ်အလင်းဖြင့် ထိုးထွင်း၍ သိတော်မူသော ဗုဒ္ဓဂေါတမ ရှင်တော်မြတ်ဘုရားပါတည်း"

(ဗုဒ္ဓ) "အသင်ရဟန်း၊ သင်၏ဆရာ ဗုဒ္ဓဂေါတမကို သင်မြင်ဘူးပါသလော"

(ပက္ကုသ) "မမြင်ဘူးသေးပါ ငါ့ရှင်။ သို့သော် မမြင်ဘူးဘဲလျက် ဗုဒ္ဓကိုလည်းကောင်း၊ ဗုဒ္ဓ၏ တရားတော်ကိုလည်းကောင်း ကြည်ညို၍ တပည့်ခံကာ ရဟန်းပြုခဲ့ခြင်း ဖြစ်သည်။

ဤမေးသံနှင့် ဖြေဆိုသံများသည် တိတ်ဆိတ်သောည၊ အိပ်မောကျနေသောညကို နှိုးသကဲ့သို့ ရှိလေ၏။ ဗုဒ္ဓသည် ပက္ကုသဆန္ဒကို သိတော်မူသောအခါ ဤအချိန် ဤအခါကား သူအား တရားဟောရန် သင့်ပြီဖြစ်ကြောင်း သိတော်မူသဖြင့် အဘယ်တရားသည် သူနှင့် သင့်လေမည်နည်းဟု ဆင်ခြင်တော်မူသောအခါ ဓာတ်ခြောက်ပါးတရားနှင့် သင့်လျော်သည်ကို သိတော်မူ၏။ ထိုအခါ တရားဟောလို၍ သူ၏သဘောထားကို တီးခေါက်ကြည့်တော်မူလေ၏။

(ဗုဒ္ဓ) "အသင်ရဟန်း၊ ယခု သင် အဘယ်ကို သွားမည်နည်း"

(ပက္ကုသ) "ငါ့ရှင်၊ ငါကား ငါ၏ဆရာ ဗုဒ္ဓဂေါတမထံ သွားအံ့"

(ဗုဒ္ဓ) "သင်၏ဆရာသည် အဘယ်မှာနည်း"

(ပက္ကုသ) "သာဝတ္ထိမှာ ရှိသည်ဟု ကြားရ၍ ငါလာခဲ့ပါသတည်း"

## ဘုရားသခင်ကား ပက္ကုသာတိကို ငါ့တရားကို နာလိုသလော မေးခြင်း

ဗုဒ္ဓသည် သူ့စကားကို ကြားရသောအခါ ပက္ကုသအပေါ်တွင် ပို၍ ကရုဏာသက်တော်မူလာပြီး သူ၏ အဇ္ဈာသယကို ဆင်ခြင်ပြန်သော် များစွာ အလားအလာ ကောင်းနေပြီကို သိတော်မူသည့်အလျောက် အောက်ပါ မေးတော်မူလိုက်လေသည်။

(ဗုဒ္ဓ) "အသင်ရဟန်း၊သင့်အား ငါတရားဟောတုံငြားအံ့၊ ငါ့တရားကို သင် နာလိုအံ့လော"

(ပက္ကုသ) "ကျွန်ုပ် နာပါအံ့၊ ဟောတော်မူပါ။ အသင်ကား ဗုဒ္ဓမြတ်ဘုရားထံမှ တိုက်ရိုက်ဆက်ပွားလာသူ ဖြစ်သဖြင့် သင့်တရားကို ဗုဒ္ဓတရားတော်ဟူ၍ အကျွန်ုပ် နာယူပါအံ့"ဟူ၍ ရိုသေစွာ တောင်းပန်ခြင်း ပြုလေ၏။ထိုအခါ ဗုဒ္ဓသည် ပက္ကုသနှင့် လျော်ကန်မည့် ဓာတ်ခြောက်ပါး တရားကို ဟောကြားတော်မူသတည်း။

မှတ်ချက်။ ။ဤတရားကား ဥပရိပဏ္ဏာသ ပါဠိတော် ဝိဘင်္ဂဝဂ်၊ ဓာတုဝိဘင်္ဂသုတ်၊ ၂၀၁၊ဆဋ္ဌမူ၌ လာ၏။

အသင်ရဟန်း၊ ငါတရားကို နာလိုဘိသော် ကောင်းစွာ နာလော့ဟု မိန့်တော်မူပြီးနောက် သောတာပန်၊သကဒါဂါမ်မှ အစ ရဟန္တာဖြစ်သည်အထိ အားထုတ်ကြိုးစားရန် စိတ်အား ထက်သန်စွာဖြင့် ထီးနန်းစွန့်ကာ ရဟန်းပြုလာခဲ့သော ရှင်ဘုရင် လူထွက် ပက္ကုသာတိရဟန်းအား ဓာတ်ခြောက်ပါး တရားကို ဟောတော်မူသတည်း။

မှတ်ချက်။ ။ပ၊အာ၊ဝါ၊တေ-ဟု ဆိုအပ်သော ဓာတ်ကြီး လေးထွေတို့၏ ပေါင်းစပ်စုဝေးရာမှဖြစ်သော ရုပ်ဒြပ်ဝတ္ထုကား သော့မပေးရသေးသော စက်ရုပ်ကြီးများနှင့် အလားတူ၏။သော့မပေး လျှင် တုန်လှုပ်ခြင်း မရှိ၊ ပကတိ သဘာဝ အတိုင်း ငြိမ်နေ၏။သော့ပေးလိုက်မှ လှုပ်ရှား လာ၏။ထို့အတူပင်လျှင် ရုပ်ကို လှုပ်ရှားလာ စေသော၊လှုပ်ရှားအောင်တတ်နိုင်စွမ်းရှိသော ဓာတ်နှစ်မျိုးကို ဖြည့်စွက်ကာ ဓာတ် ခြောက်ပါး တရားကို ဟောတော်မူခြင်း ဖြစ်၏။

## ပက္ကုသာတိကို တရားဟောခြင်း

"အသင်ရဟန်း၊ သူသူငါငါ ပုဂ္ဂိုလ်ဟုဆိုအပ်သော သတ္တဝါဟူသမျှသည် ဓာတ်ခြောက်ပါး၏ အစု အဝေးသာ ဖြစ်၏။ ပုဂ္ဂိုလ် သတ္တဝါတိုင်းကို ဓာတ်ခွဲ ကြည့်လိုက်သော် ပထဝီ-မြေဓာတ်၊ အာပေါ-ရေဓာတ်၊

ဝါယော-လေဓာတ်၊ တေဇော-မီးဓာတ်၊ အာကာသ-ဟင်းလင်း ပွင့်နေသော ဓာတ်၊ ဝိညာဏ-အသိဓာတ် ဤဓာတ်ခြောက်ပါးကိုသာ တွေ့ရ၏။ သင့်မှာလည်း ဓာတ်ခြောက်ပါးနှင့်ပင် ဖြစ်၏။

## (၁) ပထဝီ-မြေဓာတ်

အသင်ရဟန်း၊ ကောင်းစွာ မှတ်သားဘိလော့။ ပထဝီ-မြေဓာတ်ဟူ၍ ရှိ၏။ထိုမြေဓာတ်ကား အချို့သည် ကိုယ်တွင်းမှာ ဖြစ်၏။ အချို့ကား ကိုယ်၏အပမှာ ဖြစ်၏။ သို့ဖြစ်လေရာ သင့်ကိုယ်တွင်းမှာ မည်သို့သော မြေဓာတ်မျိုး တွေ့ရှိနေမည် ထင်သနည်း။

အသင်ရဟန်း၊ မြေဓာတ်ကို ရှေးဦးစွာ ဤသို့ သင် မှတ်ဘိလော့။ အပြင်ရုပ်ဝတ္ထုသည် ကြမ်း၏၊ မာ၏။ ကိုယ်၌ မှီတွယ်၍ ဖြစ်၏။ တဏှာက မစွဲလျှင် စွဲချင်အောင် စွဲဆောင်ထား၏။ ထိုရုပ်မျိုးသည် မြေဓာတ် မည်၏။ မြေဓာတ်ဟူ၍ မှတ်။ ၃၂-ကောဋ္ဌာသ အစုအဝေးဖြစ်သော ပုဂ္ဂိုလ်၊ သတ္တဝါတိုင်း၏ကိုယ်၌ မြေဓာတ်ဖြစ်သော ထိုရုပ်ကြမ်း၊ ရုပ်မာတို့ရှိကုန်၏။

အသင်ရဟန်း၊ ယင်းရုပ်ကြမ်းမျိုးကို ဓာတ်ခွဲလိုက်သော် ဆံပင်ရုပ်ကို တွေ့ရမည်၊ မွေးညှင်းရုပ်၊ ခြေသည်း လက်သည်းရုပ်၊ သွားရုပ်၊ အရေထူ အရေပါးရုပ်၊ အသားရုပ်၊ အကြောရုပ်၊ အရိုးရုပ်၊ ရိုးတွင်းချင်ဆီရုပ်၊ အညှိရုပ်၊ နှလုံးရုပ်၊ အသည်းရုပ်၊

အမြွေးရုပ်၊ အဖျဉ်းရုပ်၊ အဆုတ်ရုပ်၊ အူသိမ်ရုပ်၊ အူမရုပ်၊ အစာသစ်ရုပ်၊ အစာဟောင်းရုပ် ဤရုပ်ကြမ်း၊ ရုပ်မာများကို တွေ့ရမည် ဖြစ်ပေသည်။

ဤရုပ်ကြမ်းများကိုမြွက်ကြားတော်မူပြီးနောက် သူ၏သန္တာန် အသိဓာတ်ခံမျိုး ရှိ၊ မရှိကို သိလို၍ အမေး၊ အဖြေသဘောဖြင့် ဆက်၍ဟောတော်မူ၏။

(ဗုဒ္ဓ) အသင်ရဟန်း၊ ဆံပင်၊ မွေးညှင်း စသော ထိုရုပ်၊ ဤရုပ်တို့သည် ကိုယ်တွင်းမှာ ဖြစ်ကုန်သလော၊ ကိုယ်၏အပမှာ ဖြစ်ကုန်သလော။ အဘယ်မှာဖြစ်သည် ထင်သနည်း။

(ပက္ကုသ) ငါ့ရှင်၊ ဤရုပ်တို့ကား ကိုယ်တွင်းမှာ ဖြစ်ကုန်၏။

(ဗုဒ္ဓ) မှန်ပေ၏။ ယင်းရုပ်စုတို့သည် ခန္ဓာကိုယ်ကောင်ကို စွဲမှီ၍ တည်ကုန်၏။ ခန္ဓာကိုယ်တွင်းမှာ ဖြစ်သောကြောင့် ယင်း ဆံပင်၊ မွေးညှင်း စသော ရုပ်ကြမ်းတို့ကို ကိုယ်တွင်းရှိ ရုပ်၊ ကိုယ်တွင်းရှိ မြေဓာတ် ဟူ၍မှတ်။ ဤမြေဓာတ်တို့သည် သင့် ဥစ္စာ၊ သင့်ပစ္စည်းလော။ သင် ပိုင်သလော။

(ပက္ကုသ) မပိုင်ပါ။ ကျွန်ုပ်၏ ဥစ္စာ၊ပစ္စည်းများ မဟုတ်ပါ။

(ဗုဒ္ဓ) အသင်ရဟန်း၊ ဤမြေဓာတ်သည် သင်ပိုင် မဟုတ်၊ သင့် ပစ္စည်း မဟုတ်လျှင် ဤမြေဓာတ်သည် သင်များကော ဟုတ်သလော၊ မဟုတ်ဘူးလော။

(ပက္ကုသ) အကျွန်ုပ်လည်း မဟုတ်ပါ။

(ဗုဒ္ဓ) သင်မဟုတ်ခဲ့လျှင် သင်၏အတ္တများ ဖြစ်နေသလော။

(ပက္ကုသ) အကျွန်ုပ်၏အတ္တလည်း မဟုတ်ကြောင်းပါ။

(ဗုဒ္ဓ) အသင်ရဟန်း၊ သာဓု၊ သာဓု၊ သာဓု၊ ကောင်းဘိစွ။ ဤမြေဓာတ်တို့ကို မူလဓာတ်ရင်း၊ ဓာတ်ငုတ် မြုပ်ပျောက်မသွားစေဘဲ အမှန်ကို အမှန်အတိုင်း သိအောင်၊ ထင်အောင်၊ မြင်အောင် ယထာဘူတဉာဏ်ဖြင့် ရှုအပ်၏။ ရှုလော့။

**ဤမြေဓာတ်သည် ငါမဟုတ်၊ ငါ့ဥစ္စာ၊ ငါ့ပစ္စည်း မဟုတ်၊ ငါ့အတ္တ မဟုတ်** ဟူ၍ ဤသို့ အမှန်ကို အမှန်အတိုင်း သဘောပေါက်အောင် ထိရောက်စွာ ရှုလေသည်ရှိသော် ဘာမျှတွယ်တာစရာ၊ မြတ်နိုးစရာ ရှာမတွေ့သဖြင့် မြေဓာတ်အပေါ်၌၊ မြေဓာတ်ဟုခေါ်သော ဆံပင်၊ မွေးညှင်း တို့အပေါ်၌ ငြီးငွေ့လာ၏။ ယင်း မြေဓာတ်နှင့်ပတ်သက်၍ စိတ်ကို တပ်မက်ခြင်း၊ သာယာခြင်း၊ စွဲလမ်းခြင်း ကင်းစေ၏။

တပ်မက်ခြင်း ကင်းသွားကတည်းက စွဲလမ်းခြင်း ရှိနိုင်ပါတော့မည်လော။

## (၂) အာပေါ - ရေဓာတ်

အသင်ရဟန်း၊ ထိုမှတပါး အာပေါဓာတ်ခေါ်သော ရေဓာတ်ဟူသည် ရှိ၏။ယင်း ရေဓာတ်သည်သည်း အချို့ကား ကိုယ်တွင်းမှာ၊ အချို့ကား ကိုယ်၏အပမှာ ဖြစ်၏။ ထိုရေဓာတ်သတ္တိကား ဖွဲ့စည်းတတ်၏။ ဖွဲ့စည်းဆိုသည်ကား အရာဝတ္ထုများကို တမျိုးနှင့်တမျိုး၊ တခုနှင့်တခု ပူးမိအောင်၊ ကပ်မိ စပ်မိအောင်

ရောမိ နှောမိသွားအောင်၊ တွဲမိသွားအောင် ပြုလုပ်ပေးခြင်းကို ဆိုပေသည်။

အသင်ရဟန်း၊ သည်းခြေသည် အဘယ်၌ တည်သနည်း။ အဘယ်ကိုစွဲ၍ ဖြစ်သနည်း။ ခန္ဓာကိုယ်ကို စွဲမှီ၍ ဖြစ်နေသည် မဟုတ်ပါလော။ ထို့အတူ သလိပ်၊ ပြည်၊ သွေး၊ ချွေး၊ အဆီခဲ၊ မျက်ရည်၊ ဆီကြည်၊ တံတွေး၊ နှပ်၊ အခဲစေး၊ ကျင်ငယ် ဤသို့သော ဓာတ်တို့သည်လည်း ပုဂ္ဂိုလ်တိုင်း သတ္တဝါတိုင်း တို့၏ ခန္ဓာကိုယ်၌ တည်ကုန်၏။

(ဗုဒ္ဓ) အသင်ရဟန်း၊ ထိုဓာတ်၊ ထိုသည်းခြေ၊ သလိပ် စသော ရုပ်တို့သည် အဘယ်၌ ဖြစ်ကုန်သနည်း။ ကိုယ်တွင်းမှာ သို့မဟုတ် ကိုယ်၏ပြင်ဘက်မှာ ဖြစ်ကုန်သလော။

(ပက္ကုသ) ကိုယ်တွင်းမှာပါ ငါ့ရှင်။

(ဗုဒ္ဓ) အတွင်းမှာ ဖြစ်ခဲ့သော် ထိုရုပ်၊ ထိုဓာတ်တို့ကို မည်သို့ ပညတ်ရန် သင့်မည်နည်း။ မည်သို့ ခေါ်ဝေါ်သင့် မည်နည်း။

(ပက္ကုသ) အတွင်းရုပ်၊ အတွင်းဓာတ်ဟု ခေါ်ဝေါ် သင့်ပါသည်။

ဗုဒ္ဓသည် ကျေသည်ထက် ကျေညက်အောင်၊ သဘော ပိုင်သည်ထက်ပိုင်အောင် လှည့်ကာလှည့်ကာ ကျော့၍ကျော့၍ ပက္ကုသအား မေးတော်မူပြန်၏။

(ဗုဒ္ဓ) အသင်ရဟန်း၊ သည်းခြေ၊ သလိပ်၊ သွေး စသည် တို့သည် မြေဓာတ်လော၊ ရေဓာတ်လော။

(ပက္ကုသ) ရေခဲ့တော်ပါ၊ ငါ့ရှင်။

(ဗုဒ္ဓ) ကောင်းပြီ။ သို့ဖြစ်ဘိသော် ထိုရေခဲ့တော်တို့သည် သင့်ဥစ္စာလော၊ သင့်ပစ္စည်းလော၊ အခြားသူများ၏ ပစ္စည်းလော။

(ပက္ကုသ) ကျွန်ုပ်ပစ္စည်း၊ ကျွန်ုပ်ဥစ္စာလည်း မဟုတ်၊အခြားသူများ၏ ဥစ္စာ ပစ္စည်းလည်း မဟုတ်ပါ။

(ဗုဒ္ဓ) အသင်ရဟန်း၊ ဤရေခဲ့တော်သည် သင့်ဥစ္စာ၊သင့်ဟာ၊ သင့်ပစ္စည်း မဟုတ်လျှင် သင်များ ဖြစ်နေသလော။

(ပက္ကုသ) အကျွန်ုပ်လည်း မဟုတ်ပါ။

(ဗုဒ္ဓ) သင် မဟုတ်လျှင် သင်၏အတ္တများလား။

(ပက္ကုသ) အကျွန်ုပ်၏ အတ္တလည်း မဟုတ်ပါ။

(ဗုဒ္ဓ) အသင်ရဟန်း၊ သာဓု၊ သာဓု၊ သာဓု၊ ကောင်းဘိစွ။ ဤရေခဲ့တော်တို့ကို မူလခဲ့တော်ရင်း၊ ခဲ့တော်ငုတ် မြုပ်ပျောက် မသွားစေဘဲ ရေခဲ့တော်အမှန်ကို အမှန်အတိုင်း သိအောင်၊ ထင်အောင်၊ မြင်အောင် ယထာဘူတဉာဏ်ဖြင့် ရှုအပ်၏။ ရှုတိလော့။

**ဤ ရေခဲ့တော်သည် ငါ မဟုတ်၊ ငါ့ပစ္စည်း မဟုတ်၊ ငါ့ဥစ္စာ၊ ငါ့ဟာ မဟုတ်၊ ငါ့အတ္တဘောမဟုတ်** ဟူ၍ ဤသို့ အမှန်ကို အမှန်အတိုင်းသိအောင် မြင်အောင်၊ ထိရောက်စွာ ရှုအပ်၏။ ရှုဘိလော့။ ဤသို့ ရှုဖန်များလတ်သော် တွယ်တာစရာ၊ မြတ်နိုးစရာဆို၍ ဘာမျှ ရှာမတွေ့သဖြင့် ရေခဲ့တော်

ဖြစ်သော သည်းခြေ၊ သလိပ်၊ သွေး စသည်တို့ အပေါ်၌ ငြိးငွေ့ခြင်း ဖြစ်လာလတံ့။ ထိုအခါ ယင်းရေဓာတ်နှင့် ပတ်သက်၍ စိတ်ကို တပ်မက်ခြင်း ကင်းစေလတံ့။ တပ်မက်ခြင်း ကင်းသည်ဆိုကတည်းက စွဲလမ်းခြင်း ရှိနိုင်ပါဦးမည်လော။

## (၃) ဝါယော-လေဓာတ်။

အသင်ရဟန်း၊ ထိုမှတပါး ဝါယောဓာတ်ခေါ်သော လေဓာတ်ဟူသည် ရှိ၏။ ယင်းလေဓာတ်သည်လည်း အချို့ကား ကိုယ်တွင်းမှာ၊ အချို့ကား ကိုယ်၏ ပြင်ဘက်မှာ ဖြစ်၏။ ယင်းလေဓာတ်၏ သတ္တိကား လှုပ်ရှားခြင်း၊ ထောက်ကန်ခြင်း ဖြစ်၏။ လှုပ်ရှားဆိုသည်ကား အငြိမ်မနေ၊ ကြွရွစေခြင်းကို ဆိုသည်။

အသင်ရဟန်း၊ လေနှင့်ပတ်သက်၍ အထက်ဆန်သောလေ၊ အောက်သို့စုန်သောလေ၊ အူထဲ၌ တည်သောလေ၊ အင်္ဂါကြီး ငယ်တို့ကို ကွေးခြင်း ဆန့်ခြင်း၊ ခုန်ခြင်း ပျံခြင်း ပြုလုပ်နိုင်အောင် ကူးချည်သန်းချည် လျှောက်နေသောလေ၊ ဝင်သက်လေ၊ တွက်သက်လေ၊ ဤလေ၊ ထိုလေ အားလုံးတို့သည် ကိုယ်တွင်းမှာ ဖြစ်သောကြောင့် အတွင်းဓာတ် မည်ကုန်၏။ အတွင်းဓာတ်ဟူ၍ မှတ်။

(ဗုဒ္ဓ) အသင်ရဟန်း၊ သင့်ကို ငါ မေးအံ့။ ဝါယောဓာတ် ခေါ်သော ထိုလှုပ်ရှားဓာတ်သည် အဘယ်၌ ဖြစ်သနည်း။

(ပက္ကုသ) ကိုယ်မှာ ဖြစ်ပါသည် ငါ့ရှင်။

(ဗုဒ္ဓ) ကောင်းပြီ။ ကိုယ်မှာဖြစ်က အတွင်းမှာဖြစ်သလော၊ အပြင်မှာ ဖြစ်သလော။

(ပက္ကုသ) အတွင်းမှာပါ ငါ့ရှင်။

(ဗုဒ္ဓ) ကောင်းပြီ။ ယင်းသို့ အတွင်းမှာဖြစ်သော ထိုလေဓာတ်သည် သင့်ပစ္စည်းလော၊ သင့်ဥစ္စာ၊ သင့်ဟာလော။

(ပက္ကုသ) မဟုတ်ပါ ငါ့ရှင်။

(ဗုဒ္ဓ) သင့်ဥစ္စာ၊ သင့်ဟာ မဟုတ်လျှင် သင်များ ဖြစ်နေသလား။

(ပက္ကုသ) အကျွန်ုပ်လည်း မဟုတ်ပါ။

(ဗုဒ္ဓ) သင် မဟုတ်လျှင် သင့်အတ္တများလား။

(ပက္ကုသ) အကျွန်ုပ် အတ္တလည်း မဟုတ်ပါ။

(ဗုဒ္ဓ) အသင်ရဟန်း၊ ကောင်းဘိစွ။ သာဓု၊ သာဓု၊ သာဓု။

ဤလေဓာတ်၊ ထိုစုန်လေ၊ ဆန်လေ စသော လေဓာတ်တို့ကို မူလဓာတ်ရင်း၊ ဓာတ်ငုတ် မြုပ်ပျောက်မသွားစေဘဲ အမှန်ကို အမှန်အတိုင်း သိအောင်၊ ထင်အောင်၊ မြင်အောင် ယထာဘူတဉာဏ်ဖြင့် ရှုအပ်၏။ သင် ရှုဘိလော့။

**ဤလေဓာတ်ကား ငါ မဟုတ်၊ ငါ့ပစ္စည်း မဟုတ်၊ ငါ့ဥစ္စာ ငါ့ဟာ မဟုတ်၊ ငါ့အတ္တ မဟုတ် ဟူ၍ ဤသို့ အမှန်ကို အမှန်အတိုင်းသိအောင်၊ ထင်အောင် ထိရောက်စွာ ရှုအပ်၏။ ရှုဘိလော့။ ဤသို့ ရှုဖန် များလတ်သော် တွယ်တာစရာ၊**

မြတ်နိုးစရာ ဆိုသရွေ့ ဘာမျှမရှိသဖြင့် လေဓာတ်ဖြစ်သော ထွက်သက်၊ ဝင်သက် စသည်တို့အပေါ်၌ ငြီးငွေ့ခြင်း ဖြစ်လာလတံ့။ ထိုသို့ ငြီးငွေ့ခြင်း ဖြစ်လာသော် လေဓာတ်နှင့် ပတ်သက်၍ စိတ်ကို တပ်မက်ခြင်း ကင်းစေလတံ့။ တပ်မက်ခြင်း ကင်းသည် ဆိုကတည်းက စွဲလမ်းခြင်း ရှိနိုင်ပါဦးမည်လော။

(၄) တေဇော-မီးဓာတ်။

အသင်ရဟန်း၊ ထိုမှတပါး တေဇောဓာတ်ခေါ်သော မီးဓာတ်ဟူသည် ရှိ၏။ ယင်းမီးဓာတ်၏ သတ္တိကား လောင်ကျွမ်းစေတတ်၏။ လောင်ကျွမ်းခြင်းသဘော ရှိ၏။

အသင်ရဟန်း၊ ပုဂ္ဂိုလ်တိုင်း၊ သတ္တဝါတိုင်း၏ ခန္ဓာကိုယ် ကောင်သည် အကြင်ဓာတ်ကြောင့် ပူလောင်၏။ လောင်ကျွမ်း၏။ ဆွေးမြေ့ခြင်းသို့ ရောက်၏။ စားဘွယ်သောက်ဘွယ် ဟူဟူသမျှတို့ကို ကောင်းစွာကြေညက်ခြင်း၊ နူးနပ်ခြင်းသို့ ရောက်စေ၏။ ထိုဓာတ်၊ ထိုရုပ်တို့သည် ခန္ဓာကိုယ်၏ အတွင်း ဖြစ်သောကြောင့် အတွင်းဓာတ် မည်ကုန်၏။ အတွင်းဓာတ် ဟူ၍ မှတ်။

(ဗုဒ္ဓ) အသင်ရဟန်း၊ သင့်အား ငါ မေးအံ့။ ပူတတ်၊ လောင်ကျွမ်းစေတတ်၊ ဆွေးမြေ့စေတတ်သော ထိုတေဇော ဓာတ်သည် အဘယ်၌ ဖြစ်တည်သနည်း။ ယင်းတေဇောဓာတ်တို့၏ ဖြစ်ရာကား အဘယ်နည်း။

(ပက္ကုသ) ခန္ဓာကိုယ်သည် ယင်းဓာတ်တို့၏ ဖြစ်တည်ရာ ဖြစ်ပါ၏။ ယင်းဓာတ်တို့သည် ခန္ဓာကိုယ်၌ စွဲမှီ၍ ဖြစ်ကုန်ပါ၏။

(ဗုဒ္ဓ) သင်၏ ရုပ်ဝတ္ထုဖြုပ်သည် ခန္ဓာကိုယ် မဟုတ်လော။

(ပက္ကုသ) ဟုတ်ပါသည် ငါ့ရှင်။

(ဗုဒ္ဓ) ဒါဖြင့်ရင် သင့်ခန္ဓာကိုယ်၌ စွဲမှီလျက် ဖြစ်တည်နေသော ထိုတေဇောဓာတ်သည် သင့်ပစ္စည်းလော၊သင့်ဟာ၊ သင့်ဥစ္စာလော။

(ပက္ကုသ) မဟုတ်ပါ ငါ့ရှင်။

(ဗုဒ္ဓ) သင့်ပစ္စည်း မဟုတ်လျှင် သင်များ ဖြစ်နေသလား။

(ပက္ကုသ) အကျွန်ုပ်လည်း မဟုတ်ပါ။

(ဗုဒ္ဓ) သင့်ပစ္စည်းလည်း မဟုတ်၊ သင်လည်း မဟုတ်ခဲ့သော် ထိုတေဇောဓာတ်သည် သင်၏ အတ္တများ ဖြစ်လေမည်လား။

(ပက္ကုသ) အကျွန်ုပ်၏အတ္တလည်း မဟုတ်ပါ။ သူ၏သဘောသတ္တိအရ သူ့ဖာသာသူ ပူနေခြင်း၊ လောင်နေခြင်း၊ ဆွေးမြေ့နေခြင်းသာ ဖြစ်ပါ၏။

(ဗုဒ္ဓ) အသင်ရဟန်း၊ ကောင်းဘိစွ၊ ကောင်းဘိစွ။ သာဓု၊ သာဓု၊ သာဓု။ ယင်းတေဇောဟု ဆိုအပ်သော မီးဓာတ်၊ အပူဓာတ်၊ ဆွေးမြေ့ဓာတ်၊ ပူလောင်ဓာတ်တို့ကို မူလဓာတ်ရင်း ပျောက်မသွားစေဘဲ အမှန်ကို အမှန်တိုင်း အရှိကို အရှိအတိုင်း သိအောင်၊ ထင်အောင်၊ မြင်အောင် ယထာဘူတဉာဏ်ဖြင့် ရှုအပ်၏။ သင် ရှုဘိလော့။

ဤတေဇောဟု ဆိုအပ်သော မီးဓာတ်၊ အပူဓာတ်၊ လောင်ကျွမ်းဓာတ်၊ ဆွေးမြေ့စေတတ်သောဓာတ်သည် ငါ မဟုတ်၊ ငါ့

**ပစ္စည်း မဟုတ်၊ငါ့ဟာငါ့ဥစ္စာ မဟုတ်၊ငါ့အတ္တမဟုတ်**ဟူ၍ ဤသို့ ထိရောက် ပေါက်မြောက်အောင် ရှုစေ၏။ ဤသို့ ရှုဖန်များ လတ်သော် ထိုအခါ ယင်းတေဇောခေါ် ပူလောင်ဓာတ်များ အပေါ်၌ ငြီးငွေ့ခြင်း ဖြစ်လာလတံ့။ ယင်းဓာတ်များနှင့် ပတ်သက်၍ စိတ်ကို တပ်မက်ခြင်း ကင်းစေလတံ့။ စိတ်တပ်မက် ခြင်း ကင်းရှင်းသွားလတံ့။ တပ်မက်ခြင်း ကင်းရှင်းသွား ကတည်းက စွဲလမ်းမှုဟူသည် ရှိနိုင်ပါဦးမည်လော။

## (၅) အာကာသ-ဟာလာဟင်းလင်းဓာတ်

အသင်ရဟန်း၊ သင်သဘောပေါက်သည့်အလျောက် ဖြေဆို ချက်များကား အားရဘွယ်ကောင်းဘိစွ။ နှစ်သက်ဘွယ်ကောင်း ဘိစွ။ ဆိုခဲ့ပြီးသော ဓာတ်လေးပါးတို့၏ သဘာဝအချက်အလက် များကို အရှိကိုအရှိအတိုင်း အမှန်ကို အမှန်အတိုင်း သင် သိသွားပြီ ဖြစ်လေပြီတည်း။

အသင်ရဟန်း၊ ထိုမှတပါး သိမှတ်ဘွယ်ကျန်သေး၏။ သင် မှတ်လေဦး။ ဟင်းလင်းဟာတာ အတွယ်အတာ ငြိစရာဟူ၍မရှိ သော အာကာသဓာတ်ဟူသည် ရှိသေး၏။ ယင်းအာကာသ ဓာတ်သည် သင့်မှာလည်း ရှိ၏။ ပုဂ္ဂိုလ်တိုင်း၊ သတ္တဝါတိုင်းမှာ လည်း ရှိ၏။ ယင်းဓာတ်တို့ကား အဘယ်နည်းဆိုသော် နားပေါက်၊ မျက်စိပေါက်၊ ပါးစပ်ပေါက်၊ အစာသစ်ပေါက်၊ အစားဟောင်း ပေါက်တို့ ဖြစ်ကုန်၏။ ယင်းဓာတ်တို့သည် တစုံတရာဖြင့် အခြား အကန့်၊ အဆီးအတားမရှိ။ သူ့ပင်ကိုယ်ပကတိအတိုင်း ဟာလာ ဟင်းလင်း ဖြစ်ကုန်၏။ တခုနှင့်တခု၊ တမျိုးနှင့်တမျိုး ထိကပ်

စပ်နေ့ခြင်း မရှိ။ ဥပမာ-သင်၏နှာခေါင်းပေါက်၊ နားပေါက်များကို သင်ကြည့်လော့။ သူ့ဖာသာသူ ဟောင်းလောင်းအပေါက်ကြီး ဖြစ်နေသည်မဟုတ်လော။ ယင်းအပေါက်များမှ ထွက်စရာရှိသည်တို့ ထွက်ကုန်၏။ ဝင်စရာရှိသည်တို့ ဝင်ကုန်၏။

(ဗုဒ္ဓ) အသင်ရဟန်း၊ သင့်အား ထပ်မံ၍ ရှင်းပြပါဦးအံ့။ စားဘွယ်သောက်ဘွယ် အာဟာရတို့သည် ရှိကြကုန်၏။သတ္တဝါတိုင်းသည် အာဟာရကို မှီတင်းနေကြရသည် ဖြစ်သောကြောင့် စားဘွယ်ကို စားကြကုန်၏။ သောက်ဘွယ်ကို သောက်ကြကုန်၏။ထိုအခါ ယင်း စားဘွယ်သောက်ဘွယ်တို့ အဘယ်သို့ မည်သည့်နေရာသို့ ရောက်ရှိသွားကုန်သနည်း။

(ပက္ကုသ) ခန္ဓာကိုယ်ထဲ ရောက်ရှိသွားပါသည် ငါ့ရှင်။

(ဗုဒ္ဓ) ကောင်းပြီ။ စားဘွယ်သောက်ဘွယ်များ ခန္ဓာကိုယ်ထဲ ရောက်ရှိသွားသည်ဟု သင် ဖြေ၏။ ယင်း စားဘွယ်သောက်ဘွယ်တို့သည် မည်သို့သော နည်းလမ်းဖြင့် ခန္ဓာကိုယ်တွင်းသို့ ရောက်ရှိသွားကုန်သနည်း။

(ပက္ကုသ) ပါးစပ်ပေါက်က ရောက်ရှိသွားပါကုန်၏။

(ဗုဒ္ဓ) ကောင်းပြီ။ အကယ်၍ ပါးစပ်သည် အဘုံးကြီး၊ အခဲကြီး၊ အဆို့ကြီး၊ အပိတ်ကြီး ဖြစ်နေခဲ့သော် စားဘွယ်သောက်ဘွယ်များ ကိုယ်ထဲ ရောက်နိုင်ပါမည်လား။

(ပက္ကုသ) မရောက်နိုင်ပါ ငါ့ရှင်။

(ဗုဒ္ဓ) အဘယ်ကြောင့်ပါနည်း။

(ပဏ္ဏုသ) အထဲသို့ သွင်းစရာ ဝင်စရာလမ်း၊ ဝင်စရာအပေါက် မရှိသောကြောင့် ဖြစ်ပါသည်။

(ဗုဒ္ဓ) ဒါဖြင့်ရင် စားသောက်ဘွယ်များ ဝမ်းခေါင်းထဲ၊ ခန္ဓာကိုယ်ကြီးထဲ ရောက်ရှိသွားနိုင်ခြင်းသည် ဝင်စရာ တံခါး၊ ဝင်စရာအပေါက် ရှိသောကြောင့်ဆိုတာ မထင်ရှားပေဘူးလား။ ဝင်ပေါက်မရှိလျှင် စားဘွယ်သောက်ဘွယ်များ ဝမ်းထဲရောက်နိုင်ပါမည်လား။

(ပဏ္ဏုသ) မရောက်နိုင်ပါ ငါ့ရှင်။

(ဗုဒ္ဓ) ယင်းသို့ ဟာလာဟင်းလင်းကြီး ပွင့်နေသော အာကာသဓာတ်ခေါ်သော ပါးစပ်ပေါက်ကြီးများ သတ္တဝါတိုင်း သတ္တဝါတိုင်းမှာ မရှိပေဘူးလား။

(ပဏ္ဏုသ) ရှိပါသည် ငါ့ရှင်။ ပါးစပ်ပေါက် မရှိခဲ့သော် ယခုဘာ ဘယ်နှယ် သွင်းမည်နည်း။ စားမည်နည်း။ သောက်မည်နည်း။ မစားမသောက်နိုင်က သတ္တဝါဟူ၍ပင် ရှိတော့မည်မဟုတ်ဘူး။

(ဗုဒ္ဓ) ကောင်းပြီ။ ပါးစပ်ပေါက် ဗုအာကာသဓာတ်ရှိ၍ စားသောက်ဘွယ်များကို ဝမ်းထဲရောက်အောင် သွင်းနိုင်ကြသည်။ ဤသို့ သွင်းခြင်းအားဖြင့် သတ္တဝါတွေ ရှင်သန်ကြသည်။ ဤသို့ သင်ပြောလိုသည် မဟုတ်လား။

(ပဏ္ဏုသ) မှန်ပါသည်။

(ဗုဒ္ဓ) ယားပါပေါ့။ အာကာသဓာတ် ပါးစပ်ပေါက်၏ကျေးဇူးကြောင့် အသက်ရှင်ရှင်နေကြသည့် သတ္တဝါတွေဟာ

ဘေးခပ်သိမ်း၊ ရန်ခပ်သိမ်း၊ အန္တရာယ်ခပ်သိမ်းတို့မှ ကင်းငြိမ်းပါစေ၊ ရောဂါဘယများ ကင်းရှင်းပါစေ။

(ပဏ္ဍုသ) သည်လိုတော့လဲ မဟုတ်ရပါ ငါ့ရှင်။ ကြီးငယ်မဟူ ဘေးအန္တရာယ်၊ အနာရောဂါ၊ ဆင်းရဲဒုက္ခများ အချိန်မရွေး ဖြစ်နိုင်ပါသည်။

(ဗုဒ္ဓ) အဘယ်ကြောင့် ဤသို့ ဆင်းရဲကြရ၊ဒုက္ခရောက်ကြရသနည်း။

(ပဏ္ဍုသ) အသက်ရှင်သန်နေ၍ ဖြစ်ပါသည်။

(ဗုဒ္ဓ) အသက် ဘာ့ကြောင့် ရှင်သန်သနည်း။

(ပဏ္ဍုသ) ခုနက အာကာသဓာတ်ခေါ်သည့် ပါးစပ်ပေါက်ကြောင့်၊ ပါးစပ်ပေါက်က အစာများ သွင်းပေးသောကြောင့် ဖြစ်ပါသည်။

(ဗုဒ္ဓ) ကောင်းပြီ။ သည်ပါးစပ်ပေါက် အာကာသဓာတ်ဟာ သင့်မှာကော ပါသည်မဟုတ်လား။

(ပဏ္ဍုသ) ပါ ပါသည် ငါ့ရှင်။

(ဗုဒ္ဓ) အဲသည် အာကာသဓာတ် ပါးစပ်ပေါက်ဟာ သင့်ပစ္စည်းလော၊ သင့်ဥစ္စာ၊ သင့်ဟာလော။

(ပဏ္ဍုသ) သည်လိုတော့လဲ မဟုတ်ပေါင်ပါ ငါ့ရှင်။

(ဗုဒ္ဓ) သင့်ဟာ၊ သင့်ဥစ္စာ၊ သင့်ပစ္စည်း မဟုတ်ခဲ့လျှင် အဲသည် အာကာသဓာတ်ဟာ သင်များ ဖြစ်လေသလား။

(ပဏ္ဍုသ) အကျွန်ုပ် မဟုတ်ရပါ ငါ့ရှင်။

(ဗုဒ္ဓ) အသင် မဟုတ်ခဲ့သော် သင်၏အတ္တများ ဖြစ်လေမည်လား။

(ပဏ္ဍုသ) မဖြစ်နိုင်ပါ။ ကျွန်ုပ်၏အတ္တ မဟုတ်ပါ ငါ့ရှင်။

**မှတ်ချက်။** ။ရှင်ဘုရင်လူထွက် ပဏ္ဍုသာတိရဟန်းကြီးသည် တရားတော်ကို များစွာနှစ်သိမ့်သဖြင့် ခေါင်းတငြိမ့်ငြိမ့်၊ ပီတိတစိမ့်စိမ့်နှင့် ရှိနေတော့၏။ သို့သော် သူသည် ဗုဒ္ဓနှင့် တွေ့တွေ့ဆိုင်ဆိုင် ပက်ပင်းတွေ့နေရပါလျက် ဗုဒ္ဓကို ဗုဒ္ဓမှန်း မသိရှာသေး။ ထို့ကြောင့် စကားဆိုပြောလေသောအခါများတွင် မိမိက အသက်ကြီးသော ဂုဏ်အရဖြင့် ဗုဒ္ဓအား ငါ့ရှင်၊ငါ့ရှင် ဟူ၍ ခေါ်ဝေါ် သုံးစွဲခြင်းပြုနေ၏။

(ဗုဒ္ဓ) ကောင်းဘိစွ၊ အသင်ရဟန်း၊ သာဓု၊ သာဓု၊ နားပေါက် မျက်စိပေါက်များကိုလည်း ဤနည်းကို မှီး၍ သိလေလော့၊ ရှုပွားလေလော့။

**အာကာသဓာတ်ဟု ဆိုအပ်သော ပါးစပ်ပေါက်၊ နားပေါက်၊ မျက်စိပေါက်၊ နှာခေါင်းပေါက်၊ အစာသစ်ပေါက်၊ အစာဟောင်းပေါက်တို့သည် ငါ မဟုတ်၊ ငါ့ပစ္စည်း မဟုတ်၊ ငါ့ ဥစ္စာ ငါ့ဟာ မဟုတ်၊ ငါ့အတ္တမဟုတ်ဟူ၍** မူလဓာတ်ငုတ်ကို မြုပ်မသွားစေဘဲ အမှန်အတိုင်း မြင်အောင်၊ ယထာဘူတ ဉာဏ်ဖြင့်ရှုသော် အာကာသဓာတ်များ အပေါ်၌ ငြီးငွေ့လာလတံ့။ အာကာသဓာတ်နှင့်ပတ်သက်၍ စိတ်ကို တပ်မက်ခြင်း ကင်းစေလတံ့။ စိတ်၌ တပ်မက်ခြင်း ကင်းရှင်းလတံ့။ ထိုအခါ ယင်းအာကာသဓာတ်၌ စွဲလမ်းခြင်း အဘယ်မှာ ဖြစ်နိုင်တော့ မည်နည်း။

## (၆) ဝိညာဏ -အသိဓာတ်

(ဗုဒ္ဓ) အသင်ရဟန်း၊ တရားဟူသည် အလွန်ကြားနာရခဲ၏။ အခွင့်သင့်ခိုက်တွင် သင် နာဦးမည်လော့။ တရားဟောရန် ငါ့အား ဝန်မလေး။ သင့်မှာ နာလိုသောဆန္ဒ ရှိဘိမူကား ငါ တခု ဟောလိုသေး၏။

(ပက္ကုသ) ဟော ငါ့ရှင်။ ငါ့ရှင်ကား ဗုဒ္ဓ၏သားတော် ကောင်း ပီသဘိစွ။ အနှစ်သာရနှင့်ပြည့်ဝသော တရားများကို ဟောကြားနိုင်ဘိစွ။ အကျွန်ုပ်သည် ဗုဒ္ဓ၏ထံတော်မှောက်သို့ ရောက်သွားခဲ့သော် အဘယ်သို့ နေမည်မသိ။ ယခု ငါ့ရှင်နှင့် တွေ့ရခြင်း၊ ငါ့ရှင် ဟောသောတရားများကို ကြားနာရသည် ကိုပင် ဘုရားသခင်နှင့် တွေ့ရဘိသကဲ့သို့လည်းကောင်း၊ ဘုရားသခင်ကိုယ်တော်တိုင် မြွက်ကြားနေသော တရားတော်ကို ကြားနာရဘိသကဲ့သို့လည်းကောင်း နှစ်သက်ခြင်း၊ ကြည်နူးခြင်း အဟုန်တို့သည်သာ ကျွန်ုပ်၏တကိုယ်လုံး အပ်သွားချစရာမျှ မလပ်ရအောင် ပျံ့နှံ့လျက် တည်ပါကုန်၏။ ဟောတော်မူပါ ငါ့ရှင်။

(ဗုဒ္ဓ) ကောင်းဘိစွ၊ ကောင်းဘိစွ။ သို့ဖြစ်ဘိသော် ဆက်၍ နာလေဦး။ အသင်ရဟန်း၊ ငါသည် ဓာတ်ငါးပါး၏အကြောင်း ကို သဘောပေါက်သည်အထိ စိတ်ရှည်စွာ ငါဟော၍ ပြီးခဲ့ပြီ။ သိအပ်၊ သိထိုက်၊ မှတ်အပ်၊ မှတ်သင့်၊ မှတ်ထိုက်သော ဓာတ်တပါး ကျန်သေး၏။ ထိုဓာတ်ကား အခြားမဟုတ်၊ ဝိညာဏ ခေါ်သော အသိဓာတ်ပင်တည်း။

(ဗုဒ္ဓ) အသင်ရဟန်း၊ သင့်အား ငါ မေးဦးအံ့။ သစ်ပင်၊ တောတောင် စသည်တို့ ရှိကုန်သည်ဖြစ်ရာ ယင်းတို့သည် ငါ

ဟောအပ်ခဲ့ပြီးသော ဓာတ်ငါးပါးအနက် မည်သည့်ဓာတ်များ ပါဝင်ကုန်မည် ထင်သနည်း။

(ပက္ကုသ) မြေဓာတ်၊ ရေဓာတ်၊ လေဓာက်၊ မီးဓာတ်၊ အာကာသဓာတ်အားဖြင့် ဓာတ်ငါးပါးစလုံး ပါဝင်ပါကြောင်း။

(ဗုဒ္ဓ) သစ်ပင်၊ တော၊ တောင် စသည်တို့၌ ပ၊ အာ၊ ဝါ၊ တေ၊ ဓာတ်ကြီးလေးထွေတို့ဖြင့် ဖွဲ့တည်နေကြောင်းမှာ ထင်ရှား၍ ထားဘိလော့။ ယင်းတို့၌ အာကာသဓာတ် ပါဝင်ကြောင်းကို အဘယ်သို့ သင် နားလည်သနည်း။

(ပက္ကုသ) ထင်ရှားပါသည် ငါ့ရှင်။ ဥပမာ- တောင်ဆိုပါတော့၊ ယင်းတောင်သည် တသားတည်း၊ တပြင်တည်း၊ တလုံးတစည်းတည်း အကြားမရှိသော တောင်များလည်း ရှိ၏။ အချို့တောင်များမှာကား သတ္တဝါတို့ခန္ဓာကိုယ်၌ အာကာသဓာတ် ပါးစပ်ပေါက်များ ရှိသကဲ့သို့ပင် တခုနှင့်တခု ပူးကပ်စပ်နှော၍ခြင်းမရှိ၊ ဟင်းလင်းပွင့်နေသော ဥမင်လိုဏ်ခေါင်းကြီး၊ တူးခေါင်းကြီး၊ ချောက်ကမ်းပါးစောက်ကြီးများ ရှိပါကုန်၏။ ယင်းတို့သည် အဆီးအတား၊ အခြားအကာန့် မရှိ၊ ဟင်းလင်းပွင့် အာကာသဓာတ်ဖြစ်ကြောင်း ထင်ရှားပါသည် ငါ့ရှင်။

(ဗုဒ္ဓ) ကောင်းဘိစွ။ သာဓု၊ သာဓု၊ သင့်ကို ငါ မေးဦးအံ့။ ယင်း သစ်ပင်၊ တော၊ တောင် စသည်တို့၌ရှိသော ဓာတ်ငါးပါးနှင့် သတ္တဝါတို့သန္တာန်မှာရှိသော ဓာတ်ငါးပါးတို့ ခြားနားချက်များ ရှိသလော။

(ပက္ကုသ) ခြားနားချက် မရှိ၊ ဓာတ်ငါးပါး၏ အစုအဝေးချည်းသာ ဖြစ်ပါကုန်၏။

(ဗုဒ္ဓ) အသင်ရဟန်း၊ ယင်းသို့ ဓာတ်ငါးပါး အရှိချင်း တူပါလျက် သစ်ပင်၊တော၊တောင်တို့ကား လူတို့ကဲ့သို့ စကား ဆိုပြောမှု၊သွားလာလှုပ်ရှားမှု စသည်ကို အဘယ်ကြောင့် မပြု နိုင်ကြသနည်း။

(ပက္ကုသ) ဤသည်ကိုကား ကျွန်ုပ် မသိပါ ငါ့ရှင်။

(ဗုဒ္ဓ) အသင်ရဟန်း၊ ယခု သင့်အား ငါဟောနေသည်မှာ ဝိညာဏခေါ်သော အသိဓာတ်တရား ဖြစ်၏။ ထိုအသိဓာတ်ကား စင်ကြယ်၏။ဆွတ်ဆွတ်ဖြူ၏။ ယင်း ဝိညာဏခေါ် အသိဓာတ်၏ သတ္တိကား အပူကို အပူမှန်း သိ၏။ဆင်းရဲကို ဆင်းရဲမှန်း သိ၏။ ကြားစရာကို ကြားမှန်း သိ၏။နံစရာကို နံမှန်းသိ၏။ထို ဝိညာဏ ခေါ်သော အသိဓာတ်မျိုးသည် သက်ရှိသတ္တဝါတို့၌သာ ရှိ၏။ အသင်ရဟန်း၊သင့်အား ဥပမာဖြင့် ပြပါအံ့။ သစ်ပင်ကြီးတပင် သည် ရှိလေ၏။ ထိုသစ်ပင်ကြီးအောက်တွင် ချုံနွယ်ပင်များ ပေါက်လျက် ရှိကုန်၏။ အသင်ရဟန်း၊ တနေ့တွင် လေပြင်း မုန်တိုင်း တိုက်ခတ်ခြင်းဒဏ်ကြောင့် ထိုသစ်ပင်ကြီးမှ သစ်ကိုင်း တကိုင်းသည် အောက်က ချုံနွယ်ပင်များပေါ်သို့ ကျိုးကျ သဖြင့် ဗရမ်းဗတာ ပျက်စီးခြင်းသို့ ရောက်ကုန်လေ၏။ဤသည်ကို ထားဘိဦးလော့။ယခု တရားနာနေခိုက် သင့်ကို ခြင်ကိုက်သည် ဆိုပါတော့၊ သင့်မှာ ခြင်ကိုက်ခံရခြင်းနှင့် ချုံနွယ်များ သစ်ပင်ဖိခံရခြင်းကို နှိုင်းယှဉ်ကြည့်လျှင် ခံရသည်ခြင်း တူသည် မဟုတ်ပါလော။ ထူးခြားသေးသလော။

(ပက္ကုသ) မထူးခြားပါ ငါ့ရှင်။ သူတို့မှာလည်း သူတို့ အလျောက် ခံကြရခြင်းပါ၊ အကျွန်ုပ်မှာလည်း အကျွန်ုပ် အလျောက် ခံရခြင်းပါ၊ ဘာမျှ ထူးခြားခြင်း မရှိပါ။

(ဗုဒ္ဓ) ကောင်းပြီ။ အသင်ရဟန်း၊ သင့်မှာ ခြင်ကိုက်သည့် အခါ ကိုက်မှန်း သိ၏လော။

(ပက္ကုသ) ဘယ့်နှယ်ပြောပါလိမ့် ငါ့ရှင်၊မသိဘဲ နေချည့် သိပါသော်ကော။

(ဗုဒ္ဓ) ဟုတ်ပြီ၊ ခြင်ကိုက်သည်ကို သင် သိသကဲ့သို့၊ ဟို– ချုံနွယ်ပင်များကကော သစ်ပင်ဖိ ခံရမှန်း သူတို့ သိကြပါ၏ လော။

(ပက္ကုသ) အဘယ်မှာလျှင် သူတို့ သိကြပါမည်လဲ ငါ့ရှင်။

(ဗုဒ္ဓ) ခံရတာချည့်ချင်း တူပါလျက် သင်ကမူ ခံရမှန်း သိချေ၏။ သူတို့ခမျာများ မသိကြခြင်းမှာ အဘယ်ကြောင့်ပါ နည်း။ သူတို့ခမျာတွေလဲ သင်ကဲ့သို့ပင် သိထိုက်သည် မဟုတ်ပါ လော။ (ထိုအခါ ပက္ကုသာတိရဟန်းကြီးသည် တွေ၍ စဉ်းစား နေ၏။ ဗုဒ္ဓကပင် ဆက်၍ မိန့်တော်မူ၏။)

(ဗုဒ္ဓ) အသင်ရဟန်း၊ ဤပြဿနာကား သင့်အဖို့ စဉ်းစား ထိုက်သော ပြဿနာဖြစ်ပေ၏။ရုတ်ခြည်းပင် သင် ဖြေနိုင်ခြင်းမရှိ သည်မှာ အဆန်းမဟုတ်ပြီ။သတ္တဝါနှင့် သစ်ပင်၊ တော၊ တောင် တို့သည် ဓာတ်ငါးပါး၏ အစုအဝေးဖြစ်ခြင်းအရာတွင် တူညီကြ ကုန်သော်ငြားလည်း လူသား သတ္တဝါတို့က ထို သစ်ပင်၊တော၊ တောင် စသည်တို့ထက် ဓာတ်တပါး ပိုကဲ ပါရှိနေပေသည်။ ထိုဓာတ်ကား ဝိညာဏခေါ်သော အသိဓာတ် ဖြစ်ပေ၏။ ထို အသိဓာတ် သင့်မှာပါရှိသောကြောင့် ခြင်ကိုက်သည်ကို "ငါ့ကို ကိုက်နေ၏"ဟု သင်သိသတည်း။ သစ်ပင်၊တော၊ တောင် စသည် တို့၌ကား သင်၌ကဲ့သို့ ဝိညာဏခေါ်သော အသိဓာတ်မျိုး မပါ လေသောကြောင့် ကိုယ်အပေါ်သို့ သစ်ပင်ပိ၍လည်း ပိမှန်း

မသိကုန်၊ သစ်ပင်ကလည်း ငါ့မှန်း မသိကုန်။ သစ်ပင်ကလည်း ငါ ကျိုးကျပါကလား၊ နာလိုက်ဘိခြင်း၊ ဆင်းရဲဘိခြင်း ဟူ၍ မသိရှာ၊ ရှင်းပါ၏လော အသင်ရဟန်း။

(ပက္ကုသ) ကောင်းလိုက်ဘိစွ ငါ့ရှင်၊ ရှင်းပါ၏။ ရှင်းပါ၏။ ဟောပြောချက်များမှာ နက်လည်း နက်နဲလှ၏။ အလွန်လည်း သိမ်မွေ့လှ၏။ ဓမ္မ၏ အနှစ်သာရလည်း ပြည့်ဝလှဘိသည်။ ငါ့ရှင်ကား ဗုဒ္ဓမြတ်ဘုရား၏ ကိုယ်တော်ပွားများလေလားဟု ငါထင်၏ ဟု လှိုက်လှဲစွာ ဆိုသတည်း။

(ဗုဒ္ဓ) အသင်ရဟန်း၊ နာဘိလော့၊ သင့် နှလုံးအိမ်သည် တည်ငြိမ်သိပ်သည်း၍ ရွေ့ခွက်သည် ခြသေ့်ဆီကို စိမ့်ယိုခြင်းမရှိအောင် ခံနိုင်စွမ်း ရှိဘိသည့်အလား၊ တရား၏ အနှစ်သာရကို ခံယူနိုင်စွမ်းသော အားဓာတ်သည် အထူး ကောင်းမွန်လျက် ရှိသဖြင့် ဖြစ်တည်ချက် (ဥပါဒ်-ဌီ-ဘင်) သဘောကို သင့်အား ဆက်၍ ဟောဦးအံ့။

(ပက္ကုသ) ဝမ်းမြောက်လှပါသည် ငါ့ရှင်။ ဟောတော်မူပါလော့။

(ဗုဒ္ဓ) အသင်ရဟန်း၊ သင်သည် အေးလျှင် အေးမှန်း၊ ပူလျှင် ပူမှန်း သိသည် မဟုတ်လော့။ အပူ၊ အအေးသည် သူ့ဖာသာသူ၊ သူ့ဖာသာ အေးနေ၏။ ဖဿ-ဟူ၍ ရှိ၏။ ထိတွေ့ခြင်း ဖြစ်၏။ ထို အပူ၊ အအေးသည် ဖဿနှင့် ထိလေသောအခါ ပူမှုတွေ၊ အေးမှုတွေ ဖြစ်လာ၏။ ဝေဒနာဟူ၍လည်း ရှိပြန်၏။ ခံစားခြင်း သဘောကို ခေါ်သော နာမပညတ်ဖြစ်၏။ ပူမှုတွေကိုလည်း ဝေဒနာက ခံစား၏။ အေးမှုတွေကိုလည်း ခံစား၏။ထိုမှ

တပါး ချမ်းသာမှု၊ဆင်းရဲမှု၊ ပျော်ရွှင်မှု၊ ညစ်နွမ်းမှုတွေကိုလည်း ဝေဒနာက အကုန် သိမ်းကျုံး၍ ခံစား၏။

အသင်ရဟန်း၊ ထိုသို့ ဝေဒနာက ဖမ်း၍ဖမ်း၍ ခံစားလိုက်သောအခါ၊ ချမ်းသာမှုကို ခံစားရလျှင် 'ချမ်းသာလိုက်တာ၊ ချမ်းသာလိုက်တာ' ဟူ၍ သိလာ၏။ ဆင်းရဲမှုကို ခံစားရလျှင်လည်း 'ဆင်းရဲလိုက်တာ၊ ဆင်းရဲလိုက်တာ' ဟူ၍ သိလာ၏။

အသင်ရဟန်း၊ အချုပ်ကိုဆိုသော် ဖဿ-ဟူသော ထိတွေ့မှုသည် ခံစားမှု ဝေဒနာ၏အကြောင်း ဖြစ်သတည်း။ ထိတွေ့မှုမရှိလေဘဲ မည်သည့်ခံစားချက်မှ ဖြစ်ပေါ်လေ့ မရှိ။ချမ်းသာမှုနှင့် တွေ့မိသောအခါ သုခဝေဒနာ ဖြစ်လာ၏။ ဆင်းရဲမှုနှင့် ထိတွေ့မိသောအခါ ဒုက္ခဝေဒနာ ဖြစ်လာ၏။ သုခဝေဒနာဖြစ်စေ၊ ဒုက္ခဝေဒနာဖြစ်စေ မည်သည့်ဝေဒနာမဆို ဖြစ်ပေါ်သမျှ ဝေဒနာတို့ကား အရှည်စွဲ၍ မြဲသောသဘော မရှိကုန်။ ဖျပ်ခနဲဖြစ်- ဖျပ်ခနဲတည်ပြီး ဖျပ်ခနဲပင် ချုပ်ပျောက်ကုန်၏။ သန္တတိသဘောအားဖြင့် အဆက်မပြတ် ဖြစ်မှုတွေ တဖွားဖွား ဖြစ်ပေါ်နေခြင်းကြောင့် ချမ်းသာနေသည် ဟူ၍၎င်း၊ ဆင်းရဲနေသည်ဟူ၍၎င်း ထင်ရကုန်၏။

အသင်ရဟန်း၊ ဥပမာ တခုကို ငါ ဆိုအံ့။ ကျောက်ခဲနှစ်ခုကို အချင်းချင်း ပွတ်အပ်သည်ရှိသော် လက်ခနဲလက်ခနဲ မီးပွင့်များ တလက်လက် ထွက်ထွက်လာ၏။ တလက်လက် ထွက်ထွက်လာသော မီးပွင့်များသည် တပြိုင်နက် ပြိုင်တူထွက်လာသည်မဟုတ်၊ တခုချုပ်ပျောက်သွားပြီးမှ နောက်တခု ထွက်လာခြင်း ဖြစ်၏။ ပွတ်တိုက်မှု မြန်ဆန်လွန်းသောကြောင့် မီးပွင့်ကလေး အဆက်

မပြတ် တလက်လက် ထွက်နေသည်ထင်ရ၏။ ခံစားမှုသည်လည်း ဤအတိုင်းပင်တည်း။

အသင်ရဟန်း၊ သင့်ကို ငါဆိုဦးအံ့။ ငါဟောခဲ့သော ခုတ် (၆) ပါးကို အခြေခံလျက် စူးစိုက်စွာ သင် နာဦးလော့။ 'ငါဖြစ်၏'ဟူသော မှတ်ထင်ခြင်း၊ ဤ ကိုယ်သည် ငါဟူသော မှတ်ထင်ခြင်း၊ နောင်အခါ ငါ ဖြစ်ဦးမည်လော၊ မဖြစ်တော့ပြီလော၊ ရုပ်သည် နောင် ဖြစ်ဦးမည်လော၊ မဖြစ်တော့ပြီလော၊ သညာသည် နောင် ရှိဦးမည်လော၊ မရှိတော့ပြီလော။ သညာသည်လည်း ရှိသည်မဟုတ်၊ မရှိသည်လည်း မဟုတ်လောဟု ထင်မှတ်ခြင်း။ အနာဂရောဂါ ရှိမည်လော၊ မရှိမည်လော။ အိုင်း အမာ၊ ဖြောင့်ခလုတ်များ ရမည်လော၊ မရှိမည်လော ဟူ၍ မှတ်ထင်ခြင်း၊ ဤ မှတ်ထင်ခြင်းအားလုံးတို့ကို လွန်မြောက်လျှင် အာသဝေါကုန်ခန်းသော ရဟန္တာ ဖြစ်သွားတော့သည်။ ထို ရဟန္တာဖြစ်သူကို 'ဒုက္ခခပ်သိမ်း ငြိမ်းသူ'ဟု ဆိုအပ်၏။

အသင်ရဟန်း၊ ငြိမ်းလေပြီးသော ရဟန္တာပုဂ္ဂိုလ်ကား နောင် ဘဝသစ်၌ ဖြစ်လည်း မဖြစ်တော့ပြီ၊ အိုလည်း မအိုတော့ပြီ၊ သေလည်း မသေတော့ပြီ၊ ပျက်လည်းမပျက်တော့ပြီ၊ သံသရာဝဲ ညြဿထဲ၌ နစ်လည်း မနစ်တော့ပြီ။

အသင့်ရဟန်း၊ သင်ဉာဏ်မှီသလောက် စဉ်းစားကြည့်လော့။ ပဋိသန္ဓေနေခြင်းတည်းဟူသော ဇာတိမဖြစ်ခဲ့သော် အဘယ်မှာ လျှင် အိုချိမ့်မည်နည်း။ မအိုခဲ့သော် အဘယ်မှာလျှင် သေချိမ့်မည် နည်း။ သေစရာ အဘယ်မှာ ရှိချိမ့်မည်နည်း။ မသေသော်၊ သေစရာ မရှိခဲ့သော် အဘယ်မှာလျှင် ပျက်ချိမ့်မည်နည်း။ မပျက် သည်ရှိသော် အဘယ်ကြောင့် နစ်သက်ချိမ့်မည်နည်း။

အသင်ရဟန်း၊ ဤသည်ကား အကျဉ်းအားဖြင့် ငါဟော ကြားအပ်သော ''ဆဓာတုဝိဘင်'' ခေါ်ခြောက်ပါး ဝေဖန် သုံးသပ်ချက် ဖြစ်၏။ ယင်းတရားကို သင်ကောင်းစွာ မှတ်သား တော့ဟု နိဂုံးချုပ်၍ ဗုဒ္ဓသည် တုဏှိဘာဝေ ဆိတ်ဆိတ်နေ တော်မူ၏။

ညဥ့်သည် မှောင်ရိပ်အောက်တွင် တိတ်ဆိတ်နေ၏။ ညဥ့် တိတ်ဆိတ်သည်နှင့်အမျှ စောစောပိုင်းက ဓမ္မသာယာရိပ်သာ တွင်းမှ ကြားရသော မေးသံ၊ ဖြေသံ၊ တရားသံများလည်း တိတ်ဆိတ်သွားလေ၏။ ငြိမ်သက်သွားလေ၏။

**ဘုရားမှန်းသိ၍ ကန်တော့ပြီး ပဥ္စင်းပြုပေးရန် တောင်းပန်ခြင်း**

မငြိမ်သက်သည်ကား ရှင်ဘုရင်လူထွက် ပက္ကုသာတိ ရဟန်းကြီး၏ နှလုံးအိုး ဖြစ်သတည်း။ သူ၏ နှလုံးအိုးသည် ပီတိ အဟုန်ကြောင့် ခုန်နေလေသည်။ ဤသို့ ပီတိဟုန်ဖြင့် ရင်တခုန်ခုန် ဖြစ်နေလျက်မှ ဗုဒ္ဓကိုသာ ကြည်ညိုစိတ်ဖြင့် မမှိတ် မသုန်ကြည့်လင့်နေ၏။ ထိုအခါ ကြည့်ရင်း ကြည့်ရင်းမှပင် ဗုဒ္ဓ၏ ကိုယ်တော်မှ ရောင်ခြည်တော်ခြောက်သွယ်တို့ ဖြိုးဖြိုး ဖြက်ဖြက်၊ တလက်လက် ကွန့်မြူး၍ ထွက်ပေါ်လာသည်ကို မြင်ရသော်-

သြော် သတ္တာ—လူနတ်ဗြဟ္မာတို့၏ ဆရာဖြစ်တော် မူသော ဘုရားသခင် ကိုယ်တော်ကြီးသည် ငါ့၏ ရှေ့မှောက်သို့ ရောက်ရှိနေပါပကော။

သုဂတ- ကောင်းသောစကား၊ သာယာသော စကားကို ဆိုတော်မူတတ်သော ဘုရားသခင်

ကိုယ်တော်ကြီး ကိုယ်တိုင်သည် ငါ၏ ရှေ့မျှောက်သို့ ရောက်ရှိနေပါပေကော။

သမ္မာသမ္ဗုဒ္ဓ- ခပ်သိမ်းသော တရားတို့ကို မိမိအလိုလို ကိုယ်တော်တိုင် ထိုးထွင်း၍ သိတော်မူသော ဘုရားသခင်ကိုယ်တော်မြတ်ကြီးသည် ငါ၏ ရှေ့မျှောက်သို့ ရောက်ရှိနေပါပေကော။

ဤတွင်မှ ဗုဒ္ဓမှန်း သိရှိလေသဖြင့် ရုတ်တရက် ထိုင်ရာမှထ၊ သင်္ကန်းကို လက်ကန်တော့ထိုး၍ ရှိသေစွာ ဘုရားသခင်၏ ခြေတော်အစုံကို နဖူးဖြင့် ဦးခိုက်လျက် တောင်းပန်ရှာလေပြီ တည်း။

"အရှင်ဘုရား တပည့်တော်အပေါ်သို့ မလိမ္မာပြစ်၊ မိုက်ပြစ်၊ တွေဝေထိုင်းမှိုင်းပြစ်များ ကျရောက် လွှမ်းမိုးလျက် ရှိနေပါ၏။ ဗုဒ္ဓရှင်တော်မြတ်ဘုရားနှင့် မျက်ဝါးထင်ထင် တွေ့နေရပါလျက် တိုလည်း 'ဗုဒ္ဓ' ဟူ၍ မသိနိုင်လောက်အောင် ဖြစ်ရခြင်း၊ ထုံခြင်း၊ အခြင်းများမှာ တပည့်တော်၏ အပြစ်ပါဘုရား။ ထို့ထက် ဆိုးဝါးလှသည်ကား ဗုဒ္ဓမြတ်ဘုရားကို စဉ်လျက် တပည့်တော်သည် ငါ့ရှင် ငါ့ရှင်ဟူသော ဝေါဟာရများဖြင့် ဆိုပြောခြင်း၊ ဆက်ဆံခြင်းပြုမိခြင်း ဖြစ်ပါသည်။ တပည့်တော်ကို သနားသောအားဖြင့် ယင်းအပြစ်များကို သည်းခံတော်မူပါ ဘုရား။ သည်းခံတော်မူပါရန် လက်ဆယ်ဖြာ ထိပ်မှာမိုး၍ ရှိခိုး တောင်းပန်အပ်ပါသည် ဘုရား"ဟူ၍ တောင်းပန်လေ၏။

ထိုအခါ ဘုရားသခင်သည် လက်တော်ကို မြှောက်လျက်—

"ချစ်သား ပက္ကုသာတိ၊ ငါ ခွင့်လွှတ်ပေ၏။ ငါ၏ သာသနာ၌ အပြစ်ရှိသည်ကို ရှိမှန်းသိလျှင် ဝိနည်းမှ

ကံအားလျော်စွာ ကုစား၏။ နောင်သောအခါ ဤသို့ မဖြစ်ရလေအောင် စောင့်စည်းခြင်းသို့ ရောက်၏။ ဤအပြုအမူကား ကြီးမားခြင်း၏အကြောင်း ဖြစ်သတည်း"ဟု မိန့်တော်မူလျှင် ပက္ကုသာတိသည် နှလုံးစိတ်ဝမ်း မျှားစွာ ချမ်းသာသွားလေသည့်အလျောက် "မြတ်စွာဘုရား၏ အထံတော်၌ ပဥ္စင်းအဖြစ်ကို ရလိုပါကြောင်း"ဖြင့် တောင်းပန်လေ၏။

(ဗုဒ္ဓ) ချစ်သား ပက္ကုသာတိ၊ ရဟန်း ပဥ္စင်းအဖြစ် ငါ့ထံခံယူလိုသော် သင့်မှာ သပိတ် သင်္ကန်းများ ပြည့်စုံပါ၏လော။

(ပက္ကုသ) မပြည့်စုံသေးပါဘုရား။

(ဗုဒ္ဓ) ဘုရားတို့မည်သည် သပိတ် သင်္ကန်း မပြည့်စုံသူအား ရဟန်းပြုပေးလေ့ မရှိကုန်။ ရဟန်းပြုလိုသော် သင်္ကန်းပရိက္ခရာများ ပြည့်စုံစေဦးလော့။

သို့နှင့်ပင် အချိန်မှာ တဖြည်းဖြည်းနှင့် မိုးစင်စင်လင်းသွားလေ၏။ ပက္ကုသာတိရဟန်းကြီးအဖို့ ဝမ်းသာလုံး ဆို့ရသောမင်္ဂလာနံနက်ခင်း ဖြစ်၏။ အကြောင်းမူကား ဗုဒ္ဓထံ ပဥ္စင်းခံယူရန်အတွက် သင်္ကန်း၊ သပိတ်၊ ပရိက္ခရာရှာဖွေရန် ထွက်ရတော့မည် ဖြစ်သောကြောင့်တည်း။ တက္ကသိုလ်ပြည်ကြီးအရှင် ဘုရင်လူထွက် ပက္ကုသာတိရဟန်းကြီးသည် ဗုဒ္ဓကို ရိုသေစွာ ရှိခိုးကန်တော့ပြီး ဘုရားသခင်၏အပါးတော်မှ ထွက်ခွာလေသတည်း။

ကံကြမ္မာဆိုသည်ကား မြင်နိုင်စွမ်း မရှိ၊ မြင်စကောင်းသောအရာလည်း မဟုတ်။ အကယ်၍များ မိမိကံကြမ္မာကို မိမိ သိနိုင်စွမ်းရှိပါဘိမူကား ပက္ကုသာတိရဟန်းကြီးသည် ဤလမ်းက သွားလေမည် မဟုတ်။ ဤလမ်းကို ရှောင်ရှားကာ အခြားလမ်းက သွားရှာပေလိမ့်မည်။

## ပက္ကုသာတိရဟန်ကြီး နွားဝှေ့၍ ကွယ်လွန်ခြင်း

အချိန်မှာ ညနေစောင်း နွားရိုင်းသွင်းချိန် ဖြစ်သောကြောင့် နွားကျောင်းသားများသည် နွားအုပ်ကိုမောင်းကာ မောင်းကာနှင့် အိမ်သို့ ပြန်လာလျက် ရှိနေကြ၏။

ပက္ကုသာတိရဟန်းကြီးသည် လမ်းပေါ်အတိုင်း ဦးခေါင်းစိုက်စိုက်နှင့် တမတ်စောက်စောက် လျှောက်လာ၏။ သူသည် ပတ်ဝန်းကျင်ကို ဂရုစိုက်ရမှန်း မသိအောင် သူ့ဦးနှောက်ကို သပိတ်သင်္ကန်းစိတ်က ဖုံးလွှမ်းနေ၏။ "ငါ သင်္ကန်းသပိတ်သာ ရလျှင် ရဟန်းပြုရတော့မယ်" ဟူသည်မှတပါး ထိုအချိန်တွင် သူ့အဖို့ ပတ်ဝန်းကျင် မရှိတော့ပြီ။ သို့ကြောင့်လည်း သူသည် သူ့ရှေ့မှ သူနှင့် ရင်ဆိုင်မောင်းသွင်းလာသော နွားအုပ်ကြီးကိုပင် မမြင်လေ၊ သတိမထားမိလေ။ ထို နွားအုပ်ထဲတွင် သားပျောက်၍ စိတ်နောက်၊ ဒေါသထွက်နေသော နွားမကြီး တကောင် ပါလာလေသည်။ ထိုနွားမကြီးကား သူ့သားကို မတွေ့လေတိုင်း နီးရာ သူနိုင်သောနွားများကိုဖြစ်စေ၊ အခြား အရာများကိုဖြစ်စေ ချိုကြီးတကားကားနှင့် သောင်းကျန်းချင်တိုင်း သောင်းကျန်းနေ၏။

ပက္ကုသာတိရဟန်းကား သပိတ်သင်္ကန်းအပေါ်၌ အဘယ်မျှ အာရုံစူးစိုက်နေသည်မသိ၊ နွားမကြီး၏ ချိုဖျားတွင် ကားကန့်ပါသွားသည်ကိုပင် သိမှုသိတော်မူပါလေစ။ သားစိတ် မွန်ထွန်နေသော ထိုနွားမကြီးသည် နွားအုပ်ရှေ့မှ တရွေ့ရွေ့လာနေသော ရဟန်းကြီးကို မြင်လေသော် သားဇောကပ်နေသည့် ဒေါသအဟုန်ဖြင့် တအားကုန် ဝှေ့လိုက်သတည်း။

ရဟန်းကြီးမှာ ဦးချိုဖျားတွင် ကားကနဲ လွင့်မြောက်သွားပြီးမှ အောက်သို့ ပြန်ကျပြီး အောက်သို့အရောက်တွင် ပွဲချင်းပြီး အသက်ပျောက်သွားရှာလေသတည်း။

## ပက္ကုသာတိရဟန်းကြီး ကွယ်လွန်ကြောင်း ရဟန်းတို့က ဗုဒ္ဓအား လျှောက်ထားခြင်း

သနားစရာ၊ ရင်နင့်စရာကောင်းလှသော ပက္ကုသာတိရဟန်းကြီး၏သတင်းကို လူတို့ထံမှတဆင့် ရဟန်းတော်များ ကြားလေသော် ထိုအကြောင်းကို မြတ်စွာဘုရားထံ အလျင်အမြန်သွား၍ နားတော် လျှောက်ကြလေကုန်၏။ ရဟန်းဖြစ်လိုသောဇော၊ သောတာပန်မှအစ အရဟတ္တဖိုလ်တိုင်သည်အထိ ငါကြိုးစားအံ့ ဟူသော ဇောဖြင့် သက်ရှင်လောကမှ ပြည်ဖုံးကား ချသွားရရှာသည့် ပက္ကုသာတိ ရဟန်းကြီး၏ လားရာဂတိကိုလည်း မေးလျှောက်ကြကုန်လေ၏။ ထိုအခါ ဗုဒ္ဓမြတ်ဘုရားသည်-

> ရဟန်းတို့၊ တက္ကသိုလ်ထီးနန်း စွန့်၍ ငါရှိရာသို့ ဦးတည်ချက်ဖြင့် ထွက်လာသော ပက္ကုသာတိရဟန်းကား ပညာကြီးလေစွ။ အရဟတ္တမဂ်အားလျော်သော အောက်မဂ်၊အောက်ဖိုလ် အကျင့်တရားကို ကျင့်ပြီးသူ၊ ရရှိပြီးသူ ဖြစ်ပေသည်။ တရားကိစ္စနှင့် ပတ်သက်၍ နောက်ထပ် ငါဘုရားထံ ချဉ်းကပ်ရန် မလိုတော့သည် အထိ ပြည့်စုံသွားပေပြီ။ ယခု သူ(ပက္ကုသာတိ)သည် သုဒ္ဓါဝါသ ဗြဟ္မာ့ဘုံသို့ လားရောက်သွားပြီ ဖြစ်၏။ ထိုဘုံ၌ပင် သူ ပရိနိဗ္ဗာန် ပြုလိမ့်မည်။

ဤကား ရှင်ဘုရင်လူထွက် ပဏ္ဍုသာတိ ရဟန်းကြီး၏ သောတာပန် ဇာတ်ကွက်ဖြစ်၏။ ကမ္မဋ္ဌာန်းကို ကျင့်ကြံအားထုတ် ရခြင်းမရှိဘဲ တရားသဘောပေါက်၍ ဗုဒ္ဓ၏ တရားတော်ကို ကြားနာရင်းမှပင် သောတာပန်အဆင့်၊ အောက်မဂ်အောက် ဖိုလ်ကို လွန်မြောက်ကာ အနာဂါမ်အဖြစ်သို့ တောက်လျှောက် ရောက်ရှိသွားသည်ဖြစ်ရာ သောတာပန် လောင်းလျာတို့အတွက် အားတက်ဘွယ်ဖြစ်ရပ်ဟူ၍ပင် ဆိုအပ်လေသတည်း။



# နိဂုံး

ကျွန်ုပ်သည် ယခုအချိန်ထိ ပဋိပတ်ကို မယ်မယ်ရရ အားထုတ်ဘူးခြင်း ကျင့်ကြံဘူးခြင်း မရှိသေးပေ။ မိမိ ဇာတ်သိသမျှသော ပရိယတ္တိအခြေခံကလေးမျှဖြင့် သောတာပန်နှင့် ပတ်သက်၍ ကျမ်းဂန်တို့၌လာသော အဆိုအမိန့်များကို ခံယူလျက် "သောတာပန်" ဟူသော အမည်ဖြင့် ဤကျမ်းကို ပြုစုခြင်း ဖြစ်၏။

"ပရိယတ္တိနာမ၊ သာသနဿမူလံ" ဟူ၍ ကျမ်းဂန်တို့၌ မိန့်ဆိုတော်မူချက်အရ သာသနာတော်သုံးရပ်တွင် ပရိယတ္တိသာသနာသည်သာလျှင် သာသနာတော်၏ ရေသောက်မြစ်အစစ် ဖြစ်ကြောင်း ထင်ရှား၏။

ဆိုလိုသည်မှာ - ပဋိပတ်သည်လည်းကောင်း၊ ပဋိဝေဓသည်လည်းကောင်း ပရိယတ်ကိုသာလျှင် အခြေပြု၏။ ပဋိပတ်နှင့် ဆိုင်ရာဆိုင်ရာ ကျင့်စဉ်တို့သည်လည်းကောင်း၊ ပဋိဝေဓနှင့် ဆိုင်ရာဆိုင်ရာ ထိုထို နည်းနာနိဿယတို့သည်လည်းကောင်း၊ ပရိယတ်၌ချည်း တည်ကုန်၏။ ထို့ကြောင့် ပရိယတ်၏ အဆိုအမိန့် အယူအဆများကို ပိုင်နိုင်စွာ ကိုင်တွယ်နိုင်လျှင် ပဋိပတ်၊

ပဋိဝေဓတို့ ညွန့်ခက်စည်ပင်၍ ရှင်သန်ကြီးထွားနိုင်သည် ဟု ဆိုလိုသည်။

ထို့ကြောင့် ပရိယတ်မှလာသော **သောတာပန်ဖြစ်ရပ်များကို** အတတ်နိုင်ဆုံး "အဆီစစ်၍ အနှစ်ထုတ်ယူသည့် သဘောမျိုးဖြင့် သောတာပန်ဖြစ်ရပ် အတ္ထုပ္ပတ်များကို စုစည်းလျက် တိုတိုနှင့် လိုရင်းလည်းရောက်စေ၊ တရားအားထုတ်လိုသော ကလျာဏ ပုထုဇဉ် သောတာပန်လျာတို့အတွက် ဖြစ်နိုင်သမျှ အထောက် အကူလည်းဖြစ်စေ၊ သောတာပန်အကြောင်း အခြားသိကောင်း စရာများကိုလည်း သုတေသီတို့အဖို့ လိုတရစေ၊ ကြိုးနှယ်ခွေ သဘောမျိုးလည်း သက်ရောက်စေ ဟူသော ရည်စူးဦးတည်ချက် ဖြင့် ဤကျမ်းကို ပြုစုခြင်းဖြစ်ပါသည်။

ယင်းကျမ်းကို ပြုစုနေစဉ်အတွင်း အာလာရိက အိမ်ရာ တည်ထောင်၍ လူ့ဘောင်၌ နေသူတို့၏ ဓမ္မတာအတိုင်း ကျွန်ုပ်မှာ စိတ်မချမ်းသာဘွယ် အနှောက်အယှက် အမျိုးမျိုး တို့နှင့် ရင်ဆိုင်ခဲ့ရ၏။ ဇနီးဖြစ်သူ နှစ်နှင့်ချီ၍ မကျန်းမမာ ဖြစ်ခြင်း၊ ယင်းသို့ မကျန်းမမာရာမှ နောက်ဆုံးတွင် သက်ရှည် လောကကို ပြည်ဖုံးကားချသွားသည်အထိ ခံစားရသောဒုက္ခ၊ ထို့မှတပါး မြဝတီမဂ္ဂဇင်းတွင် ကျွန်ုပ်ရေးခဲ့ဘူးသော **သိတာ^ ရေချမ်း ငရဲပန်း** ဟူသော ဆောင်းပါးအတိုင်းပင် သား— သမီး၊ အညွန့်အညှောက်ဟူ၍ ပေါက်လာငြားသော်လည်း ကြီးပွားတိုးတက်မှုကို ရှေးရှု၍ ကျွန်ုပ်သွင်းပေးသည့် ပုံစံကိုက် ဖြစ်မလာသည့်အတွက် တကိုယ်လုံးကျွမ်းမျှ လောင်မြိုက်ခြင်း

ခံစားရသော ငရဲပန်းဒုက္ခများကတဘက်၊ ယင်းတို့၏ နှိပ်စက်ခြင်း ဒဏ်ကို ကျွန်ုပ်မှာ သည်းထန်စွာ ခံနေရ၏။

သို့သော် ကျွန်ုပ်သည် ဇွဲကို အလျှော့ပေးတတ်သူ မဟုတ်။ မည်သည့် အခက်အခဲမျိုးနှင့် ရင်ဆိုင်နေရစေကာမူလည်း လုပ်မိလျှင် နောက်မဆုတ်တတ်။ ဤသည့်ဇွဲဖြင့်ပင် ဒုက္ခသုက္ခတွေ ပင်လယ်ဝေနေသည့်ကြားမှ ဤကျမ်းကို မပြီးမနေ ဟူ၍ အားထုတ်လာခဲ့ရာ မြန်မာသက္ကရာဇ် ၁၃၄၀ - ပြည့်နှစ်၊ ဝါဆိုလပြည့်ကျော် ၁၅ရက်၊ကြာသပတေးနေ့၊နေ့လယ် ၃နာရီ၊ ၁၅မိနစ်အချိန်တွင် အပြီးသို့ ရောက်ပါပြီတည်း။

## နိဂုံးသံပေါက်ကဗျာ

၁။ သက္ကရာဇ်မြန်မာ၊ နှစ်ကောဇာ၊ သုံးရာ တထောင့်ချင်း၊
၂။ အနှစ်လေးဆယ်၊ ပြည့်ဖြိုးကြွယ်၊ လဝယ် ဝါဆိုတွင်း၊
၃။ ပြည့်ကျော်စွန်းလျက်၊ ၁၅-ရက်၊ နံစက် ကြွက်နေမင်း၊
၄။ အမည်ခေါ်ရန်၊ သောတာပန်၊ ကျမ်းဂန်စာရင်းသွင်း၊
၅။ ရပ်ရှစ်ခွင်လိုမ့်၊ ဂျိုးဂျိမ့်ဂျိမ်း၊ မိုးမိန့်သံက ပြင်း၊
၆။ မိုးတခုံးဝုံး၊ ရွာနေတုန်း၊ ပြီးဆုံး အောင်မြင်ခြင်း၊
၇။ မိုးနှယ်အလား၊ အေးစေသား၊ ငါ့အား ခါမယွင်း၊

ဘဂုန်ဦးစန်းငွေ
ရန်ကုန်မြို့

